## တရားစည်းမျဉ်းနှင့် ညီစေရမည်

မြတ်စွာဘုရားက တရားမျဉ်းကြောင်း၊ တရားစည်းကမ်းတွေကို ချထားပါတယ်။ "သီလကို ဘယ်လို ကျင့်ရမည်၊ သမာဓိကို ဘယ်လိုပွားရမည်၊ ပညာကို ဘယ်လိုဖြစ်စေရမည်" လို့ မြတ်စွာဘုရားက ဟောကြားထားပါတယ်။ အဲဒါတွေဟာ တရားစည်းမျဉ်းတွေပါပဲ။ အဲဒီ တရားစည်းမျဉ်းကြောင်း စည်းကမ်းနည်းလမ်းကလေးများ အတိုင်းကျင့်ရတယ် စာတွေကျမ်းတွေ ရေးရင်လဲ အဲဒီစည်းမျဉ်းအတိုင်း ရေးရတယ်။ တရားဟောရင်လဲ အဲဒီစည်းမျဉ်းအတိုင်း ဟောရတယ်။ ကိုယ့်စိတ်ကူးရှိတိုင်း ထင်ရာတွေကို လျှောက်ပြီးရေးရတာ မဟုတ်ဘူး။ တချို့ကတော့ တရားကျမ်းဂန်ရယ်လို့ မရှိပေမယ့် သူထင်တဲ့အတိုင်း သူတွေ့တဲ့အတိုင်း လျှောက်ပြီး ရေးသားဟောကြားတော့တာပါပဲ။

## ဝန်ကြီးချုပ်နေရှူးနှင့်တွေ့ဆုံခြင်း

ဘုရားရှင်၏ ကျင့်စဉ်များနှင့် ဟောပြောချက်တရားတော်များကို ပိုမိုကျယ်ပြန့်စွာ သိရှိနားလည်စေခဲ့လျှင် ဤတိုင်းပြည်အတွက်အကျိုးကျေးဇူးများ ပါလိမ့်မည်ဟု တပည့်တော်ထင်ပါသည်။ ဤအချက်သည် တစ်ကမ္ဘာလုံးမှာ အမှန်စင်စစ် လိုနေပါသည်။ အတွင်းစိတ်ဓာတ်ငြိမ်းချမ်းရေးအတွက် ဤကဲ့သို့သော တရားဓမ္မများသည်သာလျှင် အထုပြုံနှင့် လူတို့၏အတွင်းဓာတ် အဓမ္မကို ငြိမ်းအေးစေပါလိမ်မည်ဟု ဝန်ကြီးချုပ်က လျှောက်ထား၏။

ဆရာတော်က သဘောကျ၍ ကမ္ဘာကြီးတွင် လောဘ၊ ဒေါသ၊ မောဟတရားများသည် ခိုက်ရန်ဒေါသ ဖြစ်ခြင်း၏ မူလအကြောင်းများ ဖြစ်သည်။ ဘာသာရေးအလုပ်အားလုံးသည် ဤတရားဆိုး အဓမ္မတွေကို ချေမှုန်းဖျက်ဆီးရန်ဖြစ်ပါသည်။ ဝန်ကြီးချုပ်သည် သာသနာပြုလုပ်ငန်းကို အားပေးလိမ့်မည်ဟု တောင့်တမျှော်လင့်ပါသည်ဟု မိန့်ကြားတော်မူသည်။



ဝဏ္ဏကျော်ထင် ဦးဘာသန်း (ရှင်မုဒ္ဒဃောသ)

# အဂ္ဂမဟာပဏ္ဍိတ မဟာစည်ထေရ်မြတ် အတ္ထုပ္ပတ္တိ

**ဝဏ္ဏကျော်ထင် ဦးဘာသန်း (ရှင်မုဒ္ဒဃောသ)**

ရေးသားစီစဉ်သည်



NAY WINN AUNG

### မန္တလေးမြို့ ရွှေဂူရှ မစိုးရိမ်ဆရာတော်ဘုရားကြီး အမိန့်ရှိပုံ

မဟာစည်ဆရာတော်ဟာ ဒို့များထက် ဉာဏ်သာတယ်၊ ဒို့များမမြင်တဲ့ စာမှား ပေမှားများကို မြင်အောင်ကြည့်နိုင်တယ်။ အရှင် အနုရုဒ္ဓါတို့၊ ဋီကာကျော်ဆရာတို့၊ အခြားကျမ်းပြုဆရာတို့ မမြင်တဲ့ အမှားများကိုတောင် မြင်အောင်ကြည့်နိုင်တယ်။ သဂြိုဟ်ကမ္မဋ္ဌာန်းပိုင်းဒိဋ္ဌိဝိသုဒ္ဓိခန်းမှာ နာမ်ရုပ်တို့ကို လက္ခဏ၊ ရသ၊ ပစ္စုပဋ္ဌာန် ၊ ပဒဋ္ဌာန်ဖြင့် ပိုင်းခြားသိရမည်ဟုဆိုရာ ပဒဋ္ဌာန်ကိုဒိဋ္ဌိဝိသုဒ္ဓိအခန်းမှာ မဆိုသင့်သေးဘဲ ကင်္ခါဝိတရဏဝိသုဒ္ဓိအခန်းမှာမှ ဆိုသင့်ကြောင်းကို ဆဋ္ဌသံဂါယနာတင်စဉ်က မဟာစည်ဆရာတော်က ထောက်ပြနိုင်ခဲ့တယ်။ ဒီကရွေ့ မဟာစည်ဆရာတော်ထက် သာသူကိုမပြောနဲ့၊ တန်းတူပုဂ္ဂိုလ်ကိုတောင် တွေ့ရဖို့မလွယ်ဘူး။ မဟာစည်ဆရာတော်ရဲ့ စွမ်းရည်သတ္တိကို သိလို့လည်း ဒီဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယပြုစုဖို့ ဒို့များက တိုက်တွန်းရတယ်။

### အဂ္ဂမဟာ ပဏ္ဍိတဆရာတော် ဦးဉာဏုတ္တရ ထံမှချီးကျူးစကား

“မဟာဋီကာနိဿယကိုကြည့်ယင် ဒီလိုကြည့်ပါတဲ့။ မဟာစည်ဆရာတော်ဟာ ဘယ်လောက် ခက်ခက်ခဲခဲ ရေးသားထားသလည်း၊ ဒီ နိဿယကို ချည်း လျှောက်ကြည့်နေရုံနဲ့တော့ သိမယ်မဟုတ်ဘူးတဲ့။ ဘယ်လိုမှ သိမလဲဆိုရင် မဟာဋီကာပါဠိမှာ (အထူးခက်တယ်လို့ ထင်ရတဲ့) ကြိုက်ရာအခန်းက စာတစ်ရွက်လောက်ကို ဖတ်လိုက်ပါ။ ဖတ်ပြီးပြီဆိုတော့ အဲဒီပါဠိတွေကို ကိုယ်ကြိုက်သလို ကိုယ်နိုင်သလို ကိုယ်ပိုင်သလို အနက်ပေးပြီး စာနဲ့လဲရေးထားပါ။ ပြီးတော့ ကိုယ်ရေးထားတဲ့စာနဲ့ မဟာစည်ဆရာတော်ရဲ့ နိဿယနဲ့ တိုက်ကြည့်လိုက်ပါ။ အဲဒီအခါကျရင် မဟာစည်ဆရာတော် ဘယ်လောက်စွမ်းသလဲ၊ မဟာစည်ဆရာတော်ရဲ့ နိဿယဟာ ဘယ်လောက် သဘာဝကျသလဲဆိုတာ ကောင်းကောင်းကြီး သိပါလိမ့်မယ်”တဲ့ ဒီလို နိဒါန်းရေးတဲ့ ပုဂ္ဂိုလ်က ဆိုထားပါတယ်။

အဂ္ဂမဟာပဏ္ဍိတ

# မဟာစည်ထေရိမြတ်

# အတ္ထုပ္ပတ္တိ

ဝဏ္ဏကျော်ထင် ဦးဘသန်း
(ရှင်ဗုဒ္ဓဃောသ)

ရေးသားစီစဉ်သည်

မဟာစည် ထေရ်မြတ် အတ္ထုပ္ပတ်

စာမူခွင့်ပြုချက်အမှတ် (၃၂၀၇၈၂၀၀၇) (၂-၁၁-၀၇)

မျက်နှာဖုံးခွင့်ပြုချက်အမှတ် (၃၂၀၀၅၉၀၁၀၈)

ဒုတိယအကြိမ်

အုပ်ရေ-၁၅၀၀

မျက်နှာဖုံးဒီဇိုင်း-နေဝင်းအောင်

ပုံနှိပ်သူ

ဦးတင်အောင်ကျော်(၀၇၀၅၃)
စွယ်တော်ပုံနှိပ်တိုက်
အမှတ်(၁၄၇) ၅၁-လမ်း၊ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

ထုတ်ဝေသူ

ဦးတင်ဝမ်
ထုတ်ဝေသူမှတ်ပုံတင်အမှတ်(၂၄၀)
ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်
အမှတ် (၁၆) သာသနာ့ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ

# ဥပေါ်ဘာချက်ရင်း

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ အဦးဆုံးသော ထေရုပ္ပတ္တိမှာ ၁၉၅၂-ခုနှစ်၊ ဇွန်လ ၄-ရက်နေ့တွင် နိုင်ငံတော်သမ္မတ အိမ်တော်၌ မင်းခန်းမင်းနားဖြင့် တင့်တယ်စွာကျင်းပ၍ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ဆက်ကပ်သည့်ပွဲ၌ ပုံနှိပ်ထုတ်ဝေဖတ်ကြားခဲ့သော 'သာသနဓဇ သိရီပဝရ ဓမ္မာစရိယ' မဟာစည်ဆရာတော် အရှင်သောဘန၏ ထေရုပ္ပတ္တိအကျဉ်း ဖြစ်လေသည်။ ရေးသားပူဇော်သူမှာ မင်္ဂလာဦးအောင်မြင့် ဖြစ်သည်။

ထို့နောက် ၁၃၂၈-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ 'မဟာစည်ထေရ်မြတ် အတ္ထုပ္ပတ္တိ' စာအုပ်ထွက်ပေါ်လာခဲ့ပေသည်။ ရေးသားပူဇော်သူမှာ ဝဏ္ဏကျော်ထင် ဦးဘသန်း(ရှင်ဗုဒ္ဓဃောသ)ဖြစ်ပြီး၊ ထိုစာအုပ်သည် မဟာစည် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိများအနက် ဒုတိယမြောက်ထွက် ပေါ်လာသည့် စာအုပ်ဖြစ်ပေသည်။ ထို့နောက်တွင် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိများကို ပညာရှင်အသီးသီးတို့က ရေးသားထုတ်ဝေကြသည်ကို တွေ့ရှိရပါသည်။

ယခုတတိယအကြိမ်အဖြစ် ထပ်မံပုံနှိပ်ဖြန့်ချိသည့် စာအုပ်သည် ၁၃၄၀-ပြည့်နှစ်တွင် ဒုတိယအကြိမ်ပြန်လည်ရိုက်နှိပ်သည့် ဝဏ္ဏကျော်ထင် ဦးဘသန်း(ရှင်ဗုဒ္ဓဃောသ)၏ 'အဂ္ဂမဟာပဏ္ဍိတ မဟာစည်ထေရ်မြတ် အတ္ထုပ္ပတ္တိ'စာအုပ်ဖြစ်ပါသည်။ ဤစာအုပ်အား ပြန်လည်ရိုက်နှိပ်ဖြန့်ချိနိုင်ရန် အတွက် ဆရာကြီးဝဏ္ဏကျော်ထင်ဦးဘသန်း (ရှင်ဗုဒ္ဓဃောသ)၏ သားသမီး များဖြစ်ကြသည့် ဒေါ်အေးအေးသန်း၊ ဒေါ်အေးအေးချို၊ ဒေါ်နွဲ့နွဲ့ရီ၊

ဦးသန်းထွန်းတို့က (၁၇-၆-၂၀၀၆) နေ့တွင် မဟာစည်သာသနာ့ရိပ်သာ ဩဝါဒါစရိယဆရာတော် ဘဒ္ဒန္တသံဝရ (အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ၊ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ) ဆရာတော်နှင့် နာယက ဆရာတော် ၄-ပါးတို့အား သက်နှန်းအစရှိသည့် ဒါတဗ္ဗဝတ္ထု အစုစုတို့ကို ဆက်ကပ်လှူဒါန်းပြီး ဆရာတော်ဘုရားကြီးများ၏ ရှေ့မှောက်တွင် 'အဂ္ဂမဟာပဏ္ဍိတ မဟာစည်ထေရ်မြတ် အတ္ထုပ္ပတ္တိ'စာမူ မူပိုင်ခွင့်ကို သာဓုအနုမောဒနာခေါ်ဆို ရေစက်ချ၍ အပြီးအပိုင် လွှဲပြောင်းလှူဒါန်း ခဲ့ကြပါသည်။

ဤသို့လှူဒါန်းသည်ကို ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့မှ သာဓုခေါ်ဆို ပါသည်။ ယခုအခါ ကျေးဇူးတော်ရှင် ဆရာတော်ကြီးများ၏ ထေရုပ္ပတ္တိကို ရဟန်းရှင်လူ ပြည်သူများဖတ်ရှုကြည်ညိုနိုင်ရန်အတွက် တတိယအကြိမ်ရိုက် နှိပ်လိုက်ရခြင်း ဖြစ်ပါသည်။ ဤသို့ရိုက်နှိပ်နိုင်ရန်အတွက် ဗုဒ္ဓသာသနာနုဂ္ဂဟ အဖွဲ့အမှုဆောင်ဖြစ်သည့် ဦးသိန်းထိုက်ဦး၏အသက် (၄၀)ပြည့် မွေးနေ့ အထိမ်းအမှတ်အဖြစ် ရိုက်နှိပ်ပြီး အစဉ်သဖြင့်လည်း စာအုပ်ကို ဆက်လက် ရိုက်နှိပ် ဖြန့်ဝေနိုင်ရေးအတွက် ပြန်လည်ရရှိလာသည့် ငွေကြေးတို့ကို စာအုပ်ရိုက်နှိပ်ရန် ရန်ပုံငွေအဖြစ် လှူဒါန်းပါသေးသည်။

ထေရုပ္ပတ္တိပြုစုရေးသားသူ ဆရာကြီးဝဏ္ဏကျော်ထင် ဦးဘသန်းနှင့် စာမူ မူပိုင်လှူဒါန်းသည့် ဆရာကြီး၏ သားသမီးများအားလည်းကောင်း၊ စာအုပ်ရိုက်နှိပ်၍ ရန်ပုံငွေတိုးပွားစေရန် လှူဒါန်းသည့် ဦးသိန်းထိုက်ဦး မိသားစုတို့အား အထူးပင် ကျေးဇူးဥပကာရတင်ရှိပါကြောင်း မှတ်တမ်းတင် ဂုဏ်ပြုအပ်ပါသည်။

အမှုဆောင်အဖွဲ့

ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်

## ဒဂုန်ဦးထွန်းမြင့်၏
## ဥယျောဇဉ်

ယခုခေတ်၌ သုံးစွဲ ပြောဆိုနေကြသည့် "သဘောတရားနှင့် လက်တွေ့" ဆိုသော စကားတစ်ခု ရှိသည်။ ထိုစကားတွင် သဘောတရား ဆိုသည်မှာ အကြောင်းအရာတစ်ခုကို အချက်အလက် အကျိုးအကြောင်း ပြည့်စုံစွာဖြင့် ဖော်ပြထားသည့် အယူအဆ ဖြစ်၍ လက်တွေ့ဆိုသည်ကား ထိုအယူအဆ အတိုင်း လက်တွေ့ပြုလုပ်ခြင်းပင် ဖြစ်သည်။ လွယ်လွယ်ပြောလျှင် သဘောတရားမှာ ပညာရှင်တစ်ဦး၏ အဆိုဖြစ်၍ လက်တွေ့မှာ ထိုအဆိုအတိုင်း စမ်းသပ်ပြုလုပ်မှုဖြစ်သည်။ ပညာရှင်တစ်ဦးအဆို(အယူအဆ သဘောတရား)ကို နှစ်သက်သည်ဆိုလျှင် ထိုအဆို(အယူအဆ သဘောတရား)ကို လက်တွေ့ စမ်းသပ်လုပ်ကိုင်ကြည့်ရလေသည်။ ကျိုးကြောင်း ယုတ္တိ တန်၍ မှန်ကန်သည်ဟု ထင်ရသည့် သဘောတရားပင်ဖြစ်သော်လည်း လက်တွေ့ပြုလုပ်၍မရက မှန်ကန်သည်ဟု မဆိုနိုင်ပေ။ သဘောတရားကို လက်တွေ့စမ်းသပ်မကြည့်ဘဲ အကျိုးအကြောင်း ယုတ္တိတန်သဖြင့် မှန်သည်ဟု စွဲယူထားသောသူသည် မျက်စိသာမြင်၍ တစ်စုံတရာမလုပ်နိုင်သော အကျိုးနှင့် တူလေသည်။ ထို့အတူပင် သဘောတရား မပါဘဲ လက်တွေ့လုပ်နေလျှင်လည်း လက်သာရှိ၍ မျက်စိမမြင်သော အကန်းသဖွယ် ဖြစ်နေတတ်လေသည်။

လူ့လောက တိုးတက်ရေးအတွက် လုပ်ဆောင်ရာ၌ သဘောတရားနှင့် လက်တွေ့မှာ လွန်စွာအရေးကြီးလေသည်။ သို့ကြောင့်ပင် သဘောတရားနှင့် လက်တွေ့ဆိုသော စကားမှာ ယခုအခါ လွန်စွာ ခေတ်စားနေခြင်းဖြစ်သည်။

ယခုခေတ်၌ တွင်ကျယ်နေသည့် အဆိုပါ သဘောတရားနှင့် လက်တွေ့ဆို

 ## ဥယျောဇဉ်

သော စကားကို တဆင့်တက်၍ ဆက်လက် ဆင်ခြင်လျှင် ထိုစကားသည် "စာတွေ့နှင့်လက်တွေ့"ဆိုသောစကားမှ တဆင့်တက်ကာ ဖြစ်ပေါ်လာသည့် စကား ဖြစ်သည်ဟု ဆိုနိုင်လေသည်။ စာတွေ့ကိုပင် ယခုခေတ်၌ သဘော တရားဟု သုံးစွဲ ပြောဆိုနေကြခြင်း ဖြစ်သည်။ စာတွေ့ဆိုသည်မှာ စာဖြင့် ရေးသား ထားသည့် အကြောင်းအရာကို ကောင်းစွာသိရှိနားလည်မှုကို ဆိုခြင်းဖြစ်သည်။ လုပ်ကိုင်ဆောင်ရွက်ရမည့် ကိစ္စများ၌(အထူးသဖြင့် လူ့လောက တိုးတက်ရေး ကိစ္စများ၌) စာတွေ့အားဖြင့် နားလည်သိရှိရုံဖြင့် မပြီးချေ။ လက်တွေ့လုပ်ကိုင် ဆောင်ရွက်မှသာ ကိစ္စပြီးလေသည်။ ဤ၌လည်း လက်တွေ့မပါသော စာတွေ့သည် အကျိုးနှင့်တူ၍ စာတွေ့မပါသော လက်တွေ့ကား အကန်းနှင့်တူပုံကို နားလည်သင့်ပေသည်။

တဖန် စာတွေ့နှင့်လက်တွေ့ဆိုသောစကားကို တဆင့်တက်၍ ဆက်လက် စဉ်းစားလျှင် သာသနာနယ်၌ သုံးစွဲနေသည့် ပရိယတ်နှင့်ပဋိပတ် ဆိုသော စကားကို တွေ့ရလေသည်။ ပရိယတ် ဆိုသည်မှာ စာပေသင်ကြားမှု ဖြစ်၍ ပဋိပတ်ဆိုသည်ကား ကျင့်ကြံအားထုတ်မှုဟု အဓိပ္ပာယ်ရလေသည်။ ပရိယတ် ဆိုသော စာပေသင်ကြားမှုမှာ လူ့လောက၌ သုံးစွဲနေသည့် စာတွေ့နှင့် သဘော တူ၍ ပဋိပတ်ဆိုသော ကျင့်ကြံအားထုတ်မှုကား လက်တွေ့နှင့် သဘောတူသည်။ သို့ရာတွင် သာသနာ၌ ပရိယတ်ဆိုသော စာပေသင်ကြားမှုမှာ လွန်စွာကျယ်ဝန်း သောကြောင့် လောက၌ သုံးစွဲပြောဆိုနေကြသည့် စာတွေ့ဆိုသော စကားနှင့် တထပ်တည်း တူညီသည် ဟူ၍ကား မဆိုနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဗုဒ္ဓမြတ်စွာဘုရား ဟောကြားတော်မူသည့် ပိဋကတ်တော်၌ ပြုကျင့်မှုနှင့် မဆိုင်ဘဲ ဆင်ခြင်စဉ်းစားမှုနှင့်သာ ဆိုင်သည့် အကြောင်းအရာ အချက်အလက်များ အများအပြား ပါဝင်လျက် ရှိသောကြောင့် ဖြစ်ပေသည်။

သို့ပင်ဖြစ်သော်လည်း သာမန်အားဖြင့် ပြောရလျှင် ပရိယတ်နှင့်ပဋိပတ်မှာ တွဲဖက်နေသဖြင့် စာတွေ့နှင့် လက်တွေ့ဆိုသကဲ့သို့ပင် မြတ်စွာဘုရား ဟောကြားတော်မူသည့် ပိဋကတ်တော်များကို ပရိယတ်အားဖြင့် သင်ကြား၍ သင်ကြားထားသည့်အတိုင်း ပဋိပတ်အားဖြင့် ကျင့်ကြံအားထုတ်မှ ပြည့်စုံသည်ဟု ဆိုနိုင်လေသည်။ ရှေးခေတ်အခါက သာသနာ့ဝန်ထမ်း ရဟန်းတော် အရှင်မြတ်များသည် ပရိယတ်လုပ်ငန်းအဖြစ်ဖြင့် မြတ်စွာဘုရား ဟောကြားသည့် ပိဋကတ်တော်များကို သင်ကြား၍ ပဋိပတ်လုပ်ငန်းအဖြစ်ဖြင့် မဂ်ဖိုလ်ရရှိရေးကိုလည်း ကျင့်ကြံအားထုတ်တော်မူကြလေသည်။ ယင်းသို့ ပြုလုပ်မှုလည်း သာသနာ့ဝန်ထမ်း ရဟန်းတာဝန် ကျေပွန်သည်ဟု မှတ်ယူကြလေသည်။

ခေတ်ကာလ ရွေ့လျော၍လာသောအခါ၌ကား သမာဓိနှင့်သတိဉာဏ်များ တစ တစ အားနည်း ယုတ်လျော့၍ လာသောကြောင့် သာသနာ့ဝန်ထမ်း ရဟန်းတော် အရှင်မြတ်များမှာ မြတ်စွာဘုရား၏ ပိဋကတ်တော်များကို လွယ်လွယ်ကူကူ မတတ်မြောက်နိုင် ဖြစ်လာကြသဖြင့် ယင်းသို့ လွယ်လွယ်ကူကူ မတတ်မြောက်နိုင်ကြသောကြောင့်ပင် မြတ်စွာဘုရား၏ ဒေသနာတော်များ(သာသနာကြီး) ပျောက်ပျက်သွားမည့်အရေးကို တွေးတောပူပန်လျက် မိမိတို့ မဂ်ဖိုလ်ရရေးထက် နောက်လူနောက်သားများအတွက် သာသနာကြီး အရှည်တည်တံ့ရေးကို အလေးဂရုပြုကာ ပရိယတ်ဟူသော စာပေသင်ကြားမှုကို ပိုမိုလုံးပန်းတော်မူလာကြလေသည်။ ယင်းသို့ ပရိယတ်ကိုသာ သင်ကြား လုံးပန်းနေကြသည့်အတွက် ထိုပုဂ္ဂိုလ်များကို ကိုယ်တွေ့မလုပ်သည့် စာတွေ့သမားဟုဆိုကာ အကြည်ညို မလျော့သင့်ရုံသာမက သာသနာတော် တည်တံ့ရေးအတွက် ကြောင့်ကြစိုက်တော်မူကြပေသည်ဟု တိုး၍ပင် ကြည်ညိုသင့်ပေသည်။ အချို့သော သာသနာ့ ဝန်ထမ်း ရဟန်းတော်များသည်ကား မြတ်စွာဘုရား၏ ပိဋကတ်တော်များကို အလုံးစုံ

တတ်မြောက်အောင် မသင်နိုင်ကြဘဲ ပဋိပတ်နှင့် ဆိုင်သည့် ဒေသနာများကိုသာ သင်ကြား၍ ပဋိပတ်လုပ်ငန်းကို ကြိုးပမ်းအားထုတ်တော်မူလေသည်။ ဤသို့အားဖြင့် သာသနာတော်၌ ပရိယတ်(စာပေသင်ကြားသော)ပုဂ္ဂိုလ်၊ ပဋိပတ်(တရားအားထုတ်သော)ပုဂ္ဂိုလ် ဟူ၍ အကြမ်းအားဖြင့် နှစ်မျိုးနှစ်စား ဖြစ်လာလေသည်။ ထိုပုဂ္ဂိုလ် နှစ်မျိုးအနက် ပရိယတ်ပုဂ္ဂိုလ်ကလည်း ပဋိပတ်စခန်းကို မရောက်နိုင်ဘဲ ပဋိပတ်ပုဂ္ဂိုလ်ကလည်း ပရိယတ်စခန်းကို မဝင်နိုင် ဖြစ်နေလေသည်။ အဘယ့်ကြောင့်ဆိုသော မြတ်စွာဘုရား၏ ပိဋကတ်တော် ဒေသနာမှာ လွန်စွာကျယ်ဝန်းခက်ခဲသောကြောင့် ပရိယတ်ပုဂ္ဂိုလ်ကလည်း ပရိယတ်နှင့်သာ အချိန်ကုန်လျက်၊ ပဋိပတ်ပုဂ္ဂိုလ်ကလည်း အပြည့်အစုံ တတ်မြောက်အောင် သင်ကြားနေလျှင် တရားအားထုတ်မှု စခန်းသို့ မရောက်မည်ကို စိုးသောကြောင့် ဖြစ်လေသည်။

ပိဋကတ်သုံးပုံကိုလည်း ပြည့်စုံစွာ တတ်မြောက်၍ ပဋိပတ်အလုပ်ကိုလည်း အားထုတ်သည့် ပရိယတ် ပဋိပတ် နှစ်ဖက်စုံ ပုဂ္ဂိုလ်ကား လွန်စွာရှားလေသည်။ ကိုယ်အား ဉာဏ်အား စွမ်းပကားနှင့် ပြည့်စုံ၍ စေတနာ စိတ်ထားကြီးမားပြင်းထန်သည့် ပုဂ္ဂိုလ်ထူးများသာလျှင် ပရိယတ် ပဋိပတ် နှစ်ဖက်စုံ ဖြစ်နိုင်လေရာ ထိုကဲ့သို့သော နှစ်ဖက်စုံ ပုဂ္ဂိုလ်များ ပေါ်ပေါက်လာပါက ဗုဒ္ဓသာသနာတော်ကို ယုံကြည်သက်ဝင်သူတိုင်းက အထူးဂရုပြုကာ ကြည်ညိုလေးစား အားပေးထောက်ပံ့ ထိုက်ပေသည်။ ပရိယတ် ပဋိပတ် နှစ်ဖက်စုံ ပုဂ္ဂိုလ်များအား ကြည်ညိုထောက်ပံ့ရခြင်းကို မဆိုထားဘိ အခွင့်ကြုံကြိုက်၍ ခဏမျှ ဖူးတွေ့ရခြင်းသည်ပင် သမဏာနဉ္စဒဿနံ (ရဟန်းတော်များကို ဖူးတွေ့ရခြင်းသည် မြတ်သော မင်္ဂလာမည်၏) ဆိုသော စကားအရ နှစ်ခြိုက်လောက်သည့် မင်္ဂလာကြီး ဖြစ်လေသည်။ ထိုကဲ့သို့သော ပုဂ္ဂိုလ်များကို ဖူးတွေ့ရခြင်းသည် (ဆက္ကနိပါတ် အင်္ဂုတ္တိုရ်တွင်ဆိုသည့်အတိုင်း) မျက်စိဖြင့် တွေ့မြင်မှု ဟူသမျှတွင် အဖိုးမဖြတ်နိုင်သည့် အမြင့်

ဆုံးသော တွေ့မြင်မှု (ဒဿနာနုတ္တရိယ)ဖြစ်သည်။ ထိုကဲ့သို့သော ပုဂ္ဂိုလ်များ၏ ဂုဏ်သတင်း အကြောင်းအရာကို ကြားရခြင်းသည် နားဖြင့် ကြားရမှုဟူသမျှတွင် အဖိုးမဖြတ်နိုင်သည့် အမြတ်ဆုံးသော ကြားရမှု (သဝနာနုတ္တရိယ)ဖြစ်သည်။

ရန်ကုန်မြို့၊ သာသနာ့ရိပ်သာဒ္ဓ သီတင်းသုံးတော်မူသည့် ဆင္ဘသံဂါယနာ ပုစ္ဆက ဆဋ္ဌသံဂါယနာ ပဋိဝိသောဓက ဝိပဿနာစရိယ မဟာစည်ဆရာတော် ဘုရားသည်ကား ပရိယတ် ပဋိပတ် နှစ်ဖက်စုံ ပုဂ္ဂိုလ်ကြီး ဖြစ်တော်မူသည်။ စေတနာသဒ္ဓါတရားရှိသောပုဂ္ဂိုလ်တို့သည် မဟာစည်ဆရာတော်ဘုရားကြီးကို ဖူးမြင်ရသဖြင့် သမဏာနဉ္စ ဒဿန မင်္ဂလာကြီးကို နှစ်နှစ်ခြိုက်ခြိုက်ကြီး ရရှိနေကြလေသည်။ ဒဿနာနုတ္တရိယ ကုသိုလ်ကြီးကိုလည်း အားရလောက်အောင် ရရှိနေကြလေသည်။ မဟာစည် ဆရာတော်ဘုရား၏ ဂုဏ်သတင်းကို ကြားရသဖြင့် သဝနာ နုတ္တရိယ ကုသိုလ်ကြီးကိုလည်း ကျေကျေနပ်နပ် ရရှိနေကြလေသည်။

မရေမတွက်နိုင်သော ရဟန်းရှင်လူအများ၏ သန္တာန်၌ မဟာစည်ဆရာတော် ဘုရားကြီးကို ဖူးတွေ့ရခြင်း၊ ဆရာတော်ဘုရားကြီး၏ ဂုဏ်ကျေးဇူးကို ကြားသိရခြင်းကြောင့် ဖြစ်ပေါ်နေသည့် စေတနာနှင့် သဒ္ဓါတရားတို့သည် ထပ်ကာထပ်ကာ ဖြစ်ပွားလျက် အချင်းချင်း ပေါင်းစည်း၍ အထုအထည်ကြီး ဖြစ်လာသောအခါ မဟာစည်ဆရာတော်ဘုရားကြီး၏ အတ္ထုပ္ပတ္တိအကြောင်းအရာကို သိချင်လာကြလေသည်။

ဤစာအုပ်သည် မဟာစည်ဆရာတော်ဘုရားကြီးကို ကြည်ညိုလေးစားသည့် မရေမတွက်နိုင်သော ရဟန်းရှင်လူတို့၏ အလွန်ကြီးမားသည့် စေတနာ သဒ္ဓါ ထုထည်ကြီး၏ တောင်းဆိုချက်အရ အငြိမ်းစား ဒုတိယစာပြင်မှူးချုပ် ဝဏ္ဏကျော်ထင် ဦးဘသန်း ရေးသားသည့် မဟာစည်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိစာအုပ် ဖြစ်သည်။

## ဥယျောဇဉ်

ဆရာဦးဘသန်းမှာ ပါဠိစာပေများကိုလည်း ကောင်းစွာတတ်ကျွမ်းလျက် လွန်ခဲ့သော အနှစ်လေးဆယ်ခန့်က ဓမ္မစကြာ တရားသတင်းစာကို ကြီးမှူးထုတ်ဝေခြင်း၊ မော်လမြိုင်ရှင်ဗုဒ္ဓဃောသကျောင်း၌ မြန်မာစာပြဆရာကြီးအဖြစ် အမှုထမ်းခဲ့ခြင်း၊ ဓမ္မောပဒေသကထာ၊ မော်လမြိုင် ရာဇဝင်၊ မင်္ဂလာ သခ်ဏ်းစာ၊ ရွှေကျင်သာသနာ နှစ်တစ်ရာစသော စာအုပ်များကို ရေးသားပြုစုခြင်း၊ ဓမ္မောပဒေသကျမ်းကို တည်းဖြတ်ခြင်း စသည်တို့ကို ဆောင်ရွက်ခဲ့သော မြန်မာစာပေ၌လည်း ကျွမ်းကျင် နိုင်နည်းသည့်အလျောက် ၁၉၅၇–၅၈ နွယ်မြက်သစ်ပင် ကျေးစူးရှင်ဟူသော စာမူကိုရေးသဖြင့် စာပေဗိမာန်မှ အထူးဆုငွေ ၁၅၀၀–ကျပ်ဖြင့် ချီးမြှောက်ခြင်း ခံယူရရှိသော ပါဠိ မြန်မာ နှစ်ဖက်စုံ စာရေးဆရာကြီးတစ်ယောက် ဖြစ်လေရာ ဤကဲ့သို့ ပါဠိ မြန်မာ နှစ်ဖက်စုံ စာရေးဆရာကြီးက ယခုခေတ်သာသနာတွင် လွန်စွာ ထင်ရှားကျော်ကြားတော်မူသည့် ပရိယတ် ပဋိပတ်နှစ်ဖက်စုံ မဟာစည်ဆရာတော်ဘုရား၏ ထေရုပ္ပတ္တိကို ရေးသားခြင်းဖြစ်သောကြောင့် ဤစာအုပ်မှ မှတ်သားစရာများနှင့်တကွ လွန်စွာဖတ်၍ ကောင်းမည့် စာအုပ်ဖြစ်ကြောင်း အထူးပြောရန် မရှိပေ။

မဟာစည်ဆရာတော်ဘုရားကြီး၏ ဝိပဿနာ နည်းခံ ယောဂီများ၊ မဟာစည်ဆရာတော်ရားကြီး၏ တရားကို နာကြားဘူးသည့် တရားနာပရိသတ်များ၊ ဆဋ္ဌသံဂါယနာ အမေးအဖြေကို နားကြားဘူးသည့် တစ်နိုင်ငံလုံးရှိ ရဟန်းရှင် လူ များသည် ဤစာအုပ်ကို ဖတ်ရသောအခါ ယခုအခြေသို့ရောက်အောင် မည်ကဲ့သို့ ဆည်းပူးလေ့လာ အားထုတ်ကြိုးပမ်းလာခဲ့ရပုံတို့ကို အားလုံးစုံ သိရှိကာ မဟာစည်ဆရာတော်ဘုရားကြီးအား ဆတက်ထမ်းပိုးတိုး၍ ကြည်ညိုလေးစားလာကြလိမ့်မည်ဟု ယုံကြည်ပါသတည်း။

ဒဂုန်–ဦးထွန်းမြင့်
၁၃၂၈–ခု၊ ပထမဝါဆိုလပြည့်ကျော် ၈–ရက်။

# အတ္တုပ္ပတ္တိ နိဒါန်း



သတ္တဝါ အနန္တတို့၏ ငြိမ်းချမ်းရေးကို ရှေးရှုလျက် မြတ်စွာဘုရားသည် သာသနာကိုထားတော်မူခဲ့ရာ၊ သာသနာနှင့် သာသနာ့ဝန်ထမ်းဟူ၍ နှစ်မျိုး ဖြစ်ပေါ်လာပါသည်။ သာသနာ့ဝန်ကို ထမ်းဆောင်ကြရာ၌၊ ထမ်းဆောင်ပုံ အမျိုးမျိုး ရှိခဲ့ပါသည်။

သာသနာတော်ကား နှစ်ပေါင်း ၂၅၂၂-နှစ် ရှိခဲ့လေပြီ။ ဤမျှကြာမြင့်အောင် တည်ရှိလာခဲ့သည်မှာ အကြောင်းမဲ့ မဟုတ်ပါ။ သာသနာ့ဝန်ကို ထမ်းဆောင်ကြသော သာသနာ့ဝန်ထမ်း ပုဂ္ဂိုလ်တို့၏ စွမ်းရည်သတ္တိ ထမ်းဆောင်မှုတို့ကြောင့်ပင် ဟု ရဲရဲဝံ့ဝံ့ကြီး ဆိုသင့်ပါသည်။

## ထမ်းဆောင်ပုံအမျိုးမျိုး

အချို့ သာသနာ့ဝန်ထမ်း ရဟန်းတော်တို့မှာ ပရိယတ္တိ တာဝန်ကိုသာ ထမ်းဆောင်၍ ပဋိပတ္တိတာဝန်ကို ထမ်းဆောင်ခြင်းမရှိ။ ပရိယတ္တိ တာဝန်ကို ထမ်းဆောင်ရာ၌လည်း သုတ်-ဝိနည်း-အဘိဓမ္မာ ဟု သုံးမျိုး ရှိသည့်အနက် အချို့ သုတ္တန်ကိုသာ သင်ကြားထမ်းဆောင်၏၊ အချို့ ဝိနည်းကိုသာ သင်ကြား ထမ်းဆောင်၏၊ အချို့ အဘိဓမ္မာကိုသာ သင်ကြား ထမ်းဆောင်၏၊ အချို့ သုတ်-ဝိနည်း-အဘိဓမ္မာ သုံးပါးလုံးကို သင်ကြားထမ်းဆောင်၏။

သာသနာ့ဝန်ကို (ပရိယတ်၊ ပဋိပတ် နှစ်ရပ် စွယ်စုံလျက်) သိမ်းကျုံး ထမ်းဆောင်သော ပုဂ္ဂိုလ်မျိုးကား ယခင်ခေတ် ယခုခေတ် (၂)ခေတ်လုံး၌ပင် အရေအတွက် နည်းပါးလှ၏။ ရှားမှရှားဟူ၍ ဆိုချင်ပါသည်။ အချုပ်ကို ဆိုသော် သာသနာတော်တွင် တာဝန် (၂)မျိုးသာ ရှိပါသည်။

(ဎ) အတ္ထုပ္ပတ္တိနိဒါန်း

၁။ ဂန္ထဓုရ၊ ပရိယတ္တိ စာပေသင်ကြားမှုတာဝန်၊

၂။ ဝိပဿနာဓုရ၊ သမထဝိပဿနာ ပွားများမှုတာဝန်၊

ဤတာဝန်(၂)မျိုးကို ဘုရားသားတော် ရဟန်းမှန်လျှင် ထမ်းဆောင်ရမြဲဖြစ်ပါသည်။ သာသနာတော်၌ ဤတာဝန်(၂)မျိုးမှတစ်ပါး ထမ်းဆောင်ရန်မရှိပါ။ ပရိယတ္တိသင်ကြားမှုမရှိဘဲ ပဋိပတ် ပွားများမှုမဖြစ်နိုင်။ ပရိယတ်ကို လက်လွှတ်၍ မရ။ ရှေးဦးစွာ တတ်မြောက်အောင် သင်ကြားရမည်။ ပိဋကတ်သုံးပုံလုံးကို သင်ကြားမှ ပရိယတ္တိဖြစ်နိုင်သည်မဟုတ်ပါ။ ဆရာပြောသမျှကို သဘောကျအောင် နာခံခြင်း၊ မှတ်သားခြင်း၊ မေးမြန်းခြင်း မှန်သမျှသည် ပရိယတ္တိပင် ဖြစ်ပါသည်။ ပရိယတ် ပဋိပတ် အလုပ်တာဝန် (၂)မျိုးကို ကြိုးစားလျှင် (ကြိုးစားသူသည်) တာဝန်ကျေသော ပုဂ္ဂိုလ်မြတ် အဖြစ်သို့ ရောက်ရပါတော့သည်။

မဟာစည်ဆရာတော်သည် မျက်မှောက် သာသနာခေတ်တွင် စံတင်လောက်သော ဂန္ထဝင်မြောက် ပုဂ္ဂိုလ်တပါးဟု ပတ်ဝန်းကျင်က ယူဆထားကြသည်ကို သတိပြုမိပါသည်။ ဤသို့ယူဆချက်ကို မျက်ခြည်မပြတ် သတိပြုမိသည့်အတိုင်း မော်လမြိုင်မြို့ တောင်ဝိုင်းကလေး တိုက်ကျောင်း၌ သီတင်းသုံးသည်မှစ၍ ယနေ့ ရန်ကုန်မြို့ သာသနာ့ရိပ်သာတွင် သီတင်းသုံးတော်မူသည်အထိ၊ ဤအတွင်း သာသနာ့တာဝန် ၂-မျိုးကို ကြိုးကြိုးပမ်းပမ်း ထမ်းဆောင်ခဲ့သည်များကို -

၁။ ပတ်ဝန်းကျင်၌ လေ့လာခြင်းဖြင့် လည်းကောင်း၊

၂။ ဆရာတော် ကိုယ်တိုင်ကို လျှောက်ထားခြင်းဖြင့် လည်းကောင်း၊

၃။ ရွှေဘိုနယ် ဆိပ်ခွန်ရွာသို့ ကိုယ်တိုင်သွားရောက်လေ့လာခြင်းဖြင့် လည်းကောင်း၊

စုဆောင်းမှတ်သားခဲ့ပါသည်။ ပထမ ပရိယတ္တိကို ထိထိရောက်ရောက် ကြိုးစား

ခြင်း၊ ဒုတိယ ပဋိပတ္တိကို ထိထိရောက်ရောက် ပွားများအားထုတ်ခြင်း၊ တတိယ မိမိသိရှိထားသမျှကို အခြားပုဂ္ဂိုလ် (ရှင်-လူ)တို့အား ပြက်ပြက်ထင်ထင် သိမြင်အောင် ဟောကြားညွှန်ပြခြင်း၊ ဤ(၃)ချက်နှင့် ပြည့်စုံကြောင်းကို မျက်မှောက်တွေ့မြင်ရပါသည်။

ဤအချက်များကို အဋ္ဌုပ္ပတ္တိစီစဉ်လျက် ရှင်လူအများ၏ မျက်မှောက်သို့ တင်ပြရသော် အဋ္ဌုပ္ပတ္တိ အရင်းခံ အရှင်မြတ်က နဂို ဓမ္မဓာတ် ဖြစ်သောကြောင့် မင်းစံရွှေဖြင့် အဆင်တန်ဆာ သွန်းခတ်သကဲ့သို့လည်းကောင်း၊ ပထမတန်း ကျွန်းသစ်ဖြင့် အိမ်, ကျောင်း စသည် ဆောက်သကဲ့သို့ လည်းကောင်း သာသနာရေးဘက်က အားတက်ဖွယ် အတုယူဖွယ် ကြည်ညိုဖွယ်များကို တွေ့မြင်ရသဖြင့် (ဒိဋ္ဌာနုဂတိ) ကောင်းမွန် မြင့်မြတ်သော သာဓကရပ်များက ဓာတ်ပုံ စွဲထင်သကဲ့သို့ ပျံ့နှံ့စွဲထင်ရုံမျှမက မိမိတို့လည်း ဤနည်းအတိုင်း ဖြစ်စေရမည် ဟူသော အားကျခြင်း၊ အတုယူခြင်းများ ဖြစ်ပေါ်လာလိမ့်မည်ဟု ယုံကြည်ရင်း ရှိပါသည်။

ဤ ဒိဋ္ဌာနုဂတိ သဘောသည် အသစ်အဆန်းမဟုတ်ပါ။ သာသနာတော် ခေတ်အတွင်းဝယ် ကျော်စော ထင်ရှားတော်မူလသော ရှင်မဟာကဿပ၊ ရှင်အာနန္ဒာ၊ ရှင်သာရိပုတြာ အစရှိသော ရဟန္တာ အရှင်မြတ်ကြီးတို့သည် ရှေးဘုရားတို့၏ လက်ထက်တော်တွင် ဓုတင်ဆောင်ရဟန်း၊ ဗဟုသုတ ပြည့်ဝသော ရဟန်း၊ ပညာကြီးသော ရဟန်း စသော ရဟန္တာကြီးတို့အား မိမိတို့၏ အရည်အချင်းအလျောက် ဧတဒဂ်ဘွဲ့ထူးပေးခြင်း၊ လကျာ်ရံ မြှောက်စားခြင်း စသော အဋ္ဌုပ္ပတ္တိများကို ကိုယ်တိုင်တွေ့မြင်ကြရသဖြင့် "ငါလဲ ဤလိုဖြစ်ချင်၏။ ဤလိုဖြစ်ပါစေ"ဟု ကုသိုလ်ပြုကာ ဆုတောင်းဆုယူ ပြုခဲ့ကြသောကြောင့် ယခု မြတ်စွာဘုရားလက်ထက်တော်တွင် ရှေးက ဆုပန်နက် ခဲ့ကြသည့်အတိုင်း ဧတဒဂ်ရ ပုဂ္ဂိုလ်မြတ်များအဖြစ်သို့ ရောက်လာရကြောင်း ကျမ်းဂန် အထင်အရှား ရှိပါသည်။

## (ည) အတ္ထုပ္ပတ္တိနိဒါန်း

ဥရောပ၊ အမေရိကတိုက်ရှိ နိုင်ငံကြီးတို့၌ စံနမူနာ ထားလောက်သော ပညာရှိ ယောကျာ်းကောင်း အာဇာနည်များ ပေါ်ပေါက်ခဲ့လေသည်။ ထိုပုဂ္ဂိုလ်ကြီးတို့၏ စံနမူနာကို ကမ္ဘာတခွင်က အတုယူနိုင်ကြရန် အတ္ထုပ္ပတ္တိ ရေးရုံမျှမက ပုံတူကျောက်ရုပ်၊ ကြေးရုပ်များ ထုလုပ်ကာ ပလ္လင်ပေါ်တွင် တင်ထား၍ အထိမ်းအမှတ် ဖြစ်စေခဲ့ကြလေသည်။

ကျွန်တော်များ၏ မြန်မာနိုင်ငံတွင်လည်း လောကီ လောကုတ္တရာ ဘက်က စံတင်လောက်သော ရဟန်းပုဂ္ဂိုလ်၊ လူပုဂ္ဂိုလ်တို့ အထင်အရှားပေါ်ပေါက်ခဲ့ပါလျက် အစဉ်အဆက် အထိမ်းအမှတ်ဖြစ်ရေးကို သတိမမူခဲ့ကြသည့်အတွက် မဝေးလှသော ကုန်းဘောင်ခေတ်က ပေါ်ပေါက်ခဲ့သည့် ဆရာတော် ဦးဗုဓ်၊ မုံရွေး ဇေတဝန်ဆရာတော်စသော ဆရာတော်များနှင့် မြဝတီမင်းကြီး ဦးစ၊ မဟာဗန္ဓုလ၊ စလေ ဦးပုည၊ ယောအတွင်းဝန် ဦးဘိုးလှိုင်စသော လူပုဂ္ဂိုလ်များ၏ ရုပ်ပုံ (ရုပ်လုံး–ရုပ်တု) များကို မမြင်ရ မရှုရဖြစ်ရသည်မှာ ထင်ရှားလှ၏။ ပုဂံခေတ်၊ အင်းဝခေတ်၊ ပင်းယခေတ်စသည်တို့တွင် ထင်ရှားခဲ့ကြသော ပုဂ္ဂိုလ်တို့၏ ရုပ်ပုံကို မြင်ရဖို့ကား ခက်ဘိတောင်း။

ယခုအခါ ခေတ်မီလာပြီဟု ကြွေးကြော်နေကြသည့်အတိုင်း ထင်ရှားသော ပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိကို ရေးခြင်း၊ ပုံတူထုလုပ်ခြင်းများကို အသားပေးလာကြသဖြင့် အားတက်ဖွယ်ပင်။ ထင်ရှားသော ပုဂ္ဂိုလ်များ ဘဝကို မျက်နှာလွှဲသွားပြီးနောက် အတော်ကြာမှ အတ္ထုပ္ပတ္တိရေးခြင်းမှာ (မှတ်တမ်း ထင်ရှားမရှိပါက) မှောင်ထဲတွင် ဟုတ်နိုးနိုး ရနိုးနိုး လိုက်စမ်းနေသည်နှင့် တူလှပါသည်။ မှန်သည်ကိုလည်း တွေ့တတ်၏။ မှားသည်ကိုလည်း တွေ့တတ်၏။ ဤစကား မှန်ပါသည်။ နာမည်ကျော် စလေဆရာကြီး ဦးပုည အတ္ထုပ္ပတ္တိကိုရေးရာ၌ ဖွားသက္ကရာဇ်နှင့် အမိအဖအမည်တို့ အကွဲကွဲအပြားပြား ဖြစ်နေသည်မှာ သာဓကပင် ဖြစ်ပါသည်။ အကယ်၍သာ အသက်ထင်ရှား ရှိစဉ်က ရေးသားပါမူ ကွဲပြားခြင်း၊

ခြားနားခြင်း ဖြစ်ဖို့ ရှိနိုင်တော့မည် မဟုတ်ချေ။

မြတ်စွာဘုရား၏ အဋ္ဌုပ္ပတ္တိဖြစ်သော ဗုဒ္ဓဝင်ကို မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ် သက်တော် ၃၆-နှစ် ဘုရားဖြစ်တော်မူခါစကပင် ဟောတော်မူခဲ့ပါသည်။ သို့ဖြစ်၍ အဋ္ဌုပ္ပတ္တိကို အသက်ထင်ရှားရှိနေစဉ် ရေးခြင်းသည် ပိဋကတ်တော်နှင့်ညီသည်၊ သဘာဝကျသည်၊ တိကျမှန်ကန်သည်၊ သို့လော သို့လော တွေးတောစရာ မရှိဟု ဆိုသင့်ပါသည်။ သို့ဖြစ်၍ မဟာစည်ဆရာတော်ဘုရား သက်တော်ထင်ရှား ရှိစဉ်ကပင် စံတင်လောက်သော အချက်များ၌ စမ်းတဝါးဝါး မဖြစ်စေရန် ကိုယ်တိုင်လျှောက်ထား မှတ်သား၍ ရေးသားစီစဉ်ပါသည်။ ထို့နောက် ဆရာတော်ထံ တင်ပြပါသည်။ ပိုဖျက် လိုစွက် ပြင်ဆင်တော်မူပြီး၍ လက်ဝယ်ရရှိသောအခါကျမှ မူကိုသန့်စေပြီးနောက် အပြီးသို့ ရောက်စေပါသည်။

ယခုအခါ မဟာစည်ဆရာတော်သည် သက်တော် ၇၄-နှစ် ရှိတော်မူပြီ။ သက်တော် ၇၄-နှစ်အတွင်း သာသနာ့ဝန်ကို ထမ်းဆောင်ခဲ့ပုံ၊ သာသနာရေးအတွက် ကြောင့်ကြမဲ့မနေဘဲ ကိုယ်တော်တိုင်ကြိုးစား၊ သူတပါးအားလည်း ဟောကြားညွှန်ပြတော်မူပုံ၊ ဤသို့ ဟောကြား ညွှန်ပြတော်မူသဖြင့် တရားဘက်က အသားတက်လာသူ(လူရော့ရှင်ပါ) ယောဂီများ အမြောက်အမြား တိုးပွားလာပုံ၊ ကြည်ညိုဖွယ်၊ အားတက်ဖွယ်၊ အတုယူဖွယ် အဖုံဖုံတို့ကို လက်လှမ်းမှီသမျှ ဖော်ပြထားပါသည်။ မဟာစည် ဆရာတော်ဘုရား၏ ယထာဘုစ္စ ကျေးဇူးဂုဏ်များနှင့် စာသော် ဤအဋ္ဌုပ္ပတ္တိ စာအုပ်သည် ပဏာမ မာတိကာမျှသာ ဖြစ်ပါသတည်း။

ဝဏ္ဏကျော်ထင်-ဦးဘာသန်း
အငြိမ်းစား ဒုတိယ စာပြင်မှူးချုပ်
၇၂၊ သိဒ္ဓိလမ်း၊ ဘာရှော်ဂျီကုန်း၊ ရန်ကုန်မြို့။



## ကိုးကားရာပိဋကတ်ကျမ်းစာအုပ်များ



ဤအတ္ထုပ္ပတ္တိကို စီစဉ်ရေးသားရာ၌ စိတ်ချလက်ချ ယူဆနိုင်ရန်နှင့် တိကျနိုင်ခဲ့စေရန် ဘုရားဟော ပါဠိတော်ဆိုင်ရာ အဋ္ဌကထာ–ဋီကာတို့နှင့် အခြားကျမ်းစာအုပ်များကို ကိုးကား ရေးသားပါသည်။

၁။ သဂါထာဝဂ္ဂ သံယုတ်ပါဠိတော်။
၂။ အင်္ဂုတ္တိုရ် ပါဠိတော်။
၃။ ဓမ္မပဒ ပါဠိတော်။
၄။ ဓမ္မပဒ အဋ္ဌကထာ။
၅။ သုတ်သီလက္ခန် အဋ္ဌကထာ။
၆။ အဋ္ဌသာလိနီ အဋ္ဌကထာ။
၇။ မိလိန္ဒပဉှာ ပါဠိတော်။
၈။ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ။
၉။ ဝိသုဒ္ဓိမဂ် မဟာဋီကာ။
၁၀။ ဆိဒ္ဓပိဓာနနီကျမ်း (မဟာဝိသုဒ္ဓါရုံဆရာတော်)။
၁၁။ ပညာဝိမံသနကထာကျမ်း (မန်လည်ဆရာတော်)။
၁၂။ ဝိပဿနာရှုနည်းကျမ်း (မဟာစည်ဆရာတော်)။
၁၃။ ဝိပဿနာအခြေခံတရားတော် (မဟာစည်ဆရာတော်)။
၁၄။ အရိယာဝါသတရားတော် (မဟာစည်ဆရာတော်)။
၁၅။ ဟတ္ထိပါလ (ကိုးခန်းပျို့) (အရှင်မဟာရဋ္ဌသာရ)။
၁၆။ ဆိပ်ခွန်ရွာ အင်ကြင်းတောဘုရားသမိုင်း (ရွှေကိုင်းသား)။
၁၇။ ယောအတွင်းဝန် ဦးဘိုးလှိုင် အတ္ထုပ္ပတ္တိ။
(ဦးတင်အုန်း၊ အယ်ဒီတာ၊ မန္တလေး)။



## ကျေးဇူးတင်လွှာ



မဟာစည်အတ္ထုပ္ပတ္တိကို စိစဉ်ရေးသားရိုက်နှိပ်ရာ၌ အဖက်ဖက်မှ ယိုင်းပင်း ကူညီကြသော ပုဂ္ဂိုလ်တို့ကား-

၁။ ဆရာတော် ဦးသုဇာတ၊ သာသနာ့ရိပ်သာ၊ ရန်ကုန်မြို့။

၂။ ဆရာတော် ဦးသံဝရ၊ သာသနာ့ရိပ်သာ၊ ရန်ကုန်မြို့။

၃။ ဆရာတော် ဦးပဏ္ဍိတ၊ သာသနာ့ရိပ်သာ၊ ရန်ကုန်မြို့။

၄။ ဦးသိန်းဟာန်၊ဘီအေ(ဂုဏ်ထူး)၊ငွေစာရင်းမင်းကြီးရုံး၊ ရန်ကုန်မြို့။

၅။ မောင်သန်းထွန်း၊ ငွေစာရင်းမင်းကြီးရုံး၊ ရန်ကုန်မြို့။

၆။ ဦးသာဒင်၊ ငွေစာရင်းဌာန၊ စာပေဗိမာန်၊ ရန်ကုန်မြို့။

၇။ ဒဂုန် ဦးထွန်းမြင့်၊ ဘာသာပြန်ဌာန၊ ရန်ကုန်တက္ကသိုလ်။

၈။ ဒေါ်ခင်မိမိ၊ ဘီအေ-ဒီတိ၊ ဘာသာပြန်ဌာန၊ ရန်ကုန်တက္ကသိုလ်။

၉။ ဒေါ်ရင်မေ၊ ဗုဒ္ဓဓမ္မ လောကစာစောင်ပိုင်ရှင်၊ ဘုရားလမ်း၊ ရန်ကုန်မြို့။

၁၀။ ဦးကျော်ရှင်း၊ ဆိပ်ခွန်ရွာ၊ ရွှေဘိုမြို့။

၁၁။ ဦးစိုးချစ်၊ ဆိပ်ခွန်ရွာ၊ ရွှေဘိုမြို့။

၁၂။ ဆရာကြဲ၊ ဆိပ်ခွန်ရွာ၊ ရွှေဘိုမြို့။

၁၃။ ဖိုင်းအတ်-ဘလောက်တိုက်၊ တိုက်နံပါတ် ၆၁၊ ၁၂၁-လမ်း၊ ရန်ကုန်မြို့။

တို့ဖြစ်ကြပါသည်၊ ဆိုင်ရာ ဆိုင်ရာ တကယ့်စေတနာဖြင့် မဟာစည် အတ္ထုပ္ပတ္တိ ထမြောက်အောင် ယိုင်းပင်းကူညီသော အဆိုပါပုဂ္ဂိုလ်တို့ကို လှိုက်လှိုက်လှဲလှဲ ကျေးဇူးတင်ရှိကြောင်း အမှတ်တရ ဖော်ပြလိုက်ပါသည်။



ဇင်ဦးချို ဖောင်ဒေးရှင်း
အလှူတော်ငွေရန်ပုံငွေဖြင့်
ပုံနှိပ်ထုတ်ဝေပါသည်။

အလှူရှင်မိသားစု

ဦးသိန်းထိုက်ဦး + ဒေါ်မျိုးမျိုးမင်း
သမီး ဇေဇင်ဦး



ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး



ဆဋ္ဌသင်္ဂါယနာ ပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး



ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ကျမ်းပြုနေစဉ်



ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ကျမ်းပြုနေစဉ်





ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး



ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး



ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး



ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ
အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး



မော်လမြိုင် တောင်ဝိုင်းကလေးကျောင်းတွင် ရှိစဉ်ကပုံ

# ဆဋ္ဌသံဂါယနာဝင်သာသနာပြုလက်မှတ်

ဗုဒ္ဓသာသနာတော် အနှစ်ရှည်စွာ တည်တံ့စည်ကား ကြီးပွား ထွန်းပစေခြင်းငှါ၊ ကမ္ဘာ့ပေါ်ရှိ ထေရဝါဒ နိုင်ငံအားလုံး စည်းလုံးညီညာစွာ ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သီရိမင်္ဂလာကျွန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ သာသနာတော်နှစ် ၂၅၀၀၊ မြန်မာကောဇာသက္ကရာဇ် ၁၃၁၈-ခု၊ ကဆုန်လပြည့်နေ့တိုင်အောင် ဆင်ယင်ကျင်းပအပ်သော ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီး၌ ရှေးရှေး သံဂါယနာဝင် ထေရ်အသျှင်တို့ကဲ့သို့ ပါဝင် ဆောင်ရွက်တော်မူသဖြင့် .........မြန်မာ......... နိုင်ငံ ......ရန်ကုန်...... မြို့ ......သာသနာ့ရိပ်သာ...... တိုက် ............ ကျောင်း၌ သီတင်းသုံးတော်မူသော သိက္ခာတော် ............ ရှိ ...ဆရာတော်ဦးသောဘန... အား

ဆဋ္ဌသံဂီတိမဟိမ္မိကာဘိဝိဒ္ဓကပဋိဗိသောဓကေ

ဆဋ္ဌသံဂါယနာဝင် သာသနာပြု လက်မှတ်တော်ကို ဆက်ကပ်လှူဒါန်းပါသည်။





ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့

နိုင်ငံတော်သမတ
ပြည်ထောင်စု မြန်မာနိုင်ငံတော်

သာသနာသက္ကရာဇ် ၂၅၀၀။
ကောဇာသက္ကရာဇ် ၁၃၁၈။

# ဆဋ္ဌသံဂါယနာဝင်သာသနာပြု လက်မှတ်

ဗုဒ္ဓသာသနာတော် အဓွန့်ရှည်စွာ တည်တံ့စည်ကား ကြီးပွား ထွန်းပေစေခြင်းငှါ၊ ကမ္ဘာပေါ်ရှိ ထေရဝါဒ နိုင်ငံအားလုံး စည်းလုံးညီညာစွာ ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သီရိမင်္ဂလာကျွန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ သာသနာတော်နှစ် ၂၅၀၀၊ မြန်မာကောဇာသက္ကရာဇ် ၁၃၁၈-ခု၊ ကဆုန်လပြည့်နေ့တိုင်အောင် ဆင်ယင်ကျင်းပအပ်သော ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီး၌ ရှေးရှေး သံဂါယနာဝင် ထေရ်အသျှင်တို့ကဲ့သို့ ပါဝင် ဆောင်ရွက်တော်မူသဖြင့် ........မြန်မာ........ နိုင်ငံ ရန်ကုန်.............. မြို့ သာသနာ့ရိပ်သာ.............. တိုက်.......................... ကျောင်း၌ သီတင်းသုံးတော်မူသော သိက္ခာတော် ....၃၂........ ရှိ ဆရာတော်ဦး[illegible]........ အား၊

## ဆဋ္ဌသံဂီတိဩဝါဒါစရိယ-သံဃနာယက

ဆဋ္ဌသံဂါယနာဝင် သာသနာပြု လက်မှတ်တော်ကို ဆက်ကပ်လှူဒါန်းပါသည်။





ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့

နိုင်ငံတော်သမ္မတ
ပြည်ထောင်စု မြန်မာနိုင်ငံတော်

သာသနာသက္ကရာဇ် ၂၅၀၀။
ကောဇာသက္ကရာဇ် ၁၃၁၈။

# ဆဋ္ဌသံဂါယနာဝင်သာသနာပြုလက်မှတ်

ဗုဒ္ဓသာသနာတော် အဓွန့်ရှည်စွာ တည်တံ့စည်ကား ကြီးပွါး ထွန်းပစေခြင်းငှါ၊ ကမ္ဘာပေါ်ရှိ ထေရဝါဒ နိုင်ငံအားလုံး စည်းလုံးညီညာစွာ ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သီရိမင်္ဂလာကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ သာသနာတော်နှစ် ၂၅၀၀၊ မြန်မာကောဇာသက္ကရာဇ် ၁၃၁၈-ခု၊ ကဆုန်လပြည့်နေ့တိုင်အောင် ဆင်ယင်ကျင်းပအပ်သော ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီး၌ ရှေးရှေး သံဂါယနာဝင် ထေရ်အသျှင်တို့ကဲ့သို့ ပါဝင် ဆောင်ရွက်တော်မူသဖြင့် ......မြန်မာ......နိုင်ငံ ......ရန်ကုန်......မြို့ ......သာသနာ့ရိပ်သာ......တိုက် ......ကျောင်း၌ သီတင်းသုံးတော်မူသော သိက္ခာတော် ......ရှိ ဆရာတော်ဦးသောဘန အား

ဆဋ္ဌသံဂီတိဩသာနသောဓေယျပဋ္ဌပါဋ္ဌကာ

ဆဋ္ဌသံဂါယနာဝင် သာသနာပြု လက်မှတ်တော်ကို ဆက်ကပ်လှူဒါန်းပါသည်။





ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့

နိုင်ငံတော်သမ္မတ
ပြည်ထောင်စု မြန်မာနိုင်ငံတော်

သာသနာသက္ကရာဇ် ၂၅၀၀။
ကောဇာသက္ကရာဇ် ၁၃၁၈။

# ဆဋ္ဌသံဂါယနာဝင်သာသနာပြုလက်မှတ်

ဗုဒ္ဓသာသနာတော် အစဉ်ရှည်စွာ တည်တံ့စည်ကား ကြီးပွါး ထွန်းပစေခြင်းငှါ၊ ကမ္ဘာပေါ်ရှိ ထေရဝါဒ နိုင်ငံအားလုံး စည်းလုံးညီညာစွာ ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သီရိမင်္ဂလာကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ သာသနာတော်နှစ် ၂၅၀၀၊ မြန်မာကောဇာသက္ကရာဇ် ၁၃၁၈-ခု၊ ကဆုန်လပြည့်နေ့တိုင်အောင် ဆင်ယင်ကျင်းပအပ်သော ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီး၌ ရှေးရှေး သံဂါယနာဝင် ထေရ်အသျှင်တို့ကဲ့သို့ ပါဝင် ဆောင်ရွက်တော်မူသဖြင့် ........မြန်မာ.............. နိုင်ငံ ........ရန်ကုန်........ မြို့ ...သာသနာ့ရိပ်သာ......... တိုက်.............................. ကျောင်း၌ သီတင်းသုံးတော်မူသော သိက္ခာတော် .....၃၂.......... ရှိ ဆရာတော် ဦးသောဘန.......... အား၊

ဆဋ္ဌသံဂီတိဘာရနိတ္ထာရက

ဆဋ္ဌသံဂါယနာဝင် သာသနာပြု လက်မှတ်တော်ကို ဆက်ကပ်လှူဒါန်းပါသည်။





ဦးသွင်

ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့

ဦး ဘ ဦး

နိုင်ငံတော်သမတ
ပြည်ထောင်စု မြန်မာနိုင်ငံတော်

သာသနာသက္ကရာဇ် ၂၅၀၀။
ကောဇာသက္ကရာဇ် ၁၃၁၈။

# ဆဋ္ဌသံဂါယနာဝင်သာသနာပြုလက်မှတ်

ဗုဒ္ဓသာသနာတော် အဓွန့်ရှည်စွာ တည်တံ့စည်ကား ပြန့်ပွါး ထွန်းပစေခြင်းငှါ၊ ကမ္ဘာပေါ်ရှိ ထေရဝါဒ နိုင်ငံအားလုံး စည်းလုံးညီညာစွာ ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သီရိမင်္ဂလာကျွန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ သာသနာတော်နှစ် ၂၅၀၀၊ မြန်မာကောဇာသက္ကရာဇ် ၁၃၁၈-ခု၊ ကဆုန်လပြည့်နေ့တိုင်အောင် ဆင်ယင်ကျင်းပအပ်သော ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီး၌ ရှေးရှေး သံဂါယနာဝင် ထေရ်အသျှင်တို့ကဲ့သို့ ပါဝင် ဆောင်ရွက်တော်မူသဖြင့် ......မြန်မာ...... နိုင်ငံ ......ရန်ကုန်...... မြို့ ......ကမ္ဘာအေး...... တိုက် သာသနာ့ရိပ်သာ ကျောင်း၌ သီတင်းသုံးတော်မူသော သိက္ခာတော် ......၃၄...... ရှိ [illegible] ဦးသောဘဏ အား၊

ဆဋ္ဌသံဂီတိကာရက

ဆဋ္ဌသံဂါယနာဝင် သာသနာပြု လက်မှတ်တော်ကို ဆက်ကပ်လှူဒါန်းပါသည်။

ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့

နိုင်ငံတော်သမ္မတ
ပြည်ထောင်စု မြန်မာနိုင်ငံတော်

သာသနာသက္ကရာဇ် ၂၅၀၀။
ကောဇာသက္ကရာဇ် ၁၃၁၈။

# အဋ္ဌကထာ သံဂါယနာ သာသနာပြု လက်မှတ်

မြန်မာနိုင်ငံ ......ရန်ကုန်...... မြို့ .................. တိုက် သာသနာ့ရိပ်သာ ကျောင်း၊ သိက္ခာတော် ......၃၈...... ဝါရှိ ဆရာတော် ............ ဦးသောဘန ........ အရှင်မြတ်အား၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သီရိမင်္ဂလာကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီး၌ဝယ် သာသနာတော် ၂၅၀၀-ခုနှစ် မြန်မာ ၁၃၁၈-ခုနှစ်မှ သာသနာတော် ၂၅၀၃-ခု မြန်မာ ၁၃၂၁-ခုနှစ်အထိ လေးနှစ်တိုင်တိုင် ဆင်ယင်ကျင်းပအပ်သော အဋ္ဌကထာ သံဂါယနာ မဟာဓမ္မသဘင်၌ ပါဝင် ဆောင်ရွက်တော်မူသဖြင့်—

"အဋ္ဌကထာ သံဂီတိကာရက"

သာသနာပြုလက်မှတ်ကို ဆက်ကပ်လှူဒါန်းပါသည်။





ဥက္ကဋ္ဌ

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့

သာသနာ ၂၅၀၅။

မြန်မာ ၁၃၂၄။

နိုင်ငံတော်သမ္မတ

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# ဋီကာ သံဂါယနာ သာသနာပြု လက်မှတ်

မြန်မာနိုင်ငံ ....ရန်ကုန်.... မြို့ .............................. တိုက် ..သာသနာ့ရိပ်သာ.. ကျောင်း၊ သိက္ခာတော် .........၃၉......... ဝါရှိ ဆရာတော် ......ဦးသောဘန.......... အသျှင်မြတ်အား ပြည်ထောင်စု မြန်မာနိုင်ငံတော် ရန်ကုန်မြို့ သိရိမင်္ဂလာကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်ကြီးဝယ် သာသနာတော် ၂၅၀၄-ခုနှစ် မြန်မာ ၁၃၂၂-ခုနှစ်မှ သာသနာတော် ၂၅၀၅-ခု မြန်မာ ၁၃၂၃-ခုနှစ်အထိ နှစ်နှစ်တိုင်တိုင် ဆင်ယင်ကျင်းပအပ်သော ဋီကာ သံဂါယနာ မဟာစည်းဝေးသဘင်၌ ပါဝင်ဆောင်ရွက်တော်မူသဖြင့် —

“ဋီကာ သံဂီတိကာရက”

သာသနာပြုလက်မှတ်ကို ဆက်ကပ်လှူဒါန်းပါသည်။





သိန်းမောင်
ဥက္ကဋ္ဌ
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့

နိုင်ငံတော်သမ္မတ
ပြည်ထောင်စုမြန်မာနိုင်ငံတော်

သာသနာ ၂၅၀၅။
မြန်မာ ၁၃၂၃။

# အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်။

## ရန်ကုန်မြို့ မဟာစည်ဆရာတော်
## ဆရာတော်ဘဒ္ဒန္တသောဘန

ဆရာတော် အရှင်သူမြတ်၏ သီလဂုဏ် သမာဓိဂုဏ်တို့နှင့်တကွ ထူးကဲသော ပညာဂုဏ်တို့ကို ကြည်ညိုလေးစားသောအားဖြင့် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းပါသည်။



နိုင်ငံတော်သမ္မတ၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

သာသနာတော် သက္ကရာဇ် ၂၄၉၇၊
ကောဇာသက္ကရာဇ် ၁၃၁၅ ခု၊ ဒုတိယဝါဆိုလဆန်း ၇-ရက်။



အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ဇာတိဖြစ်သောရွှေဘိုမြို့နယ်၊
ဆိပ်ခွန်ရွာ ကမ္မဋ္ဌာန်းရိပ်သာရှိ ဆရာတော်ကြီး၏ ပရိက္ခရာအသုံးအဆောင်ပစ္စည်းများ




ရွှေဘိုမြို့နယ်၊ ဆိပ်ခွန်ရွာရှိ မဟာစည်ကမ္မဋ္ဌာန်းကျောင်း၌ အနုတ္တကျေးဇူးတော်ရှင်မဟာစည်
ဆရာတော်ဘုရားကြီး၏ ပထမဆုံးရေးသားတော်မူသော ဝိပဿနာ-လမ်းညွှန်ကျမ်းကျောက်စာ



မဟာစည်ဆရာတော်ဘုရားကြီးနှင့် ကမ္ဘာ့ဌာနာစရိယ နာယကဆရာတော်များ
(ယာဘက်ပုံတော်မှာ - မဟာစည်ဆရာတော်၏ ပုံတူရုပ်ထု)



ဦးပဏ္ဍိတာဘိဝံသ၊ ဦးနန္ဒဝံသ၊ ဦးဝဏ္ဏိတ၊ မဟာစည်ဆရာတော်ဘုရားကြီး၊ ဦးသုဇာတ၊ ဦးဇဝန



မဟာစည်ဆရာတော်ဘုရားကြီးနှင့် နာယကဆရာတော်များ
ဒုလ္လဘရဟန်းခံပွဲအပြီး ရိုက်ကူးထားပုံ



မဟာစည်ဆရာတော်ဘုရားကြီးနှင့် ကမ္ဘောဒီးယားနိုင်ငံ ကမ္မဋ္ဌာနာစရိယ နာယကဆရာတော်ကြီးများ



သထုံ မင်းကွန်းဇေတဝန်ကျောင်း၌ တရားအားထုတ်ရာမှ
မော်လမြိုင်မြို့ တောင်ဝိုင်းကလေးကျောင်းသို့ ပြန်ရောက်စဉ်ကပုံ



သာသနာ့ဖခင်ကြီး သတိုးသီရိသုဓမ္မ ဆာဦးသွင်၏ပုံ



သတိုးသီရိသုဓမ္မ သူဌေးကြီး ဆာဦးသွင်မှ
ဆရာဝန်ကြီးဝဏ္ဏကျော်ထင် ဦးမြင့်ဆွေအား ဆုချီးမြှင့်နေစဉ်



မဟာစည်ဆရာတော်ဘုရားကြီး ဆွမ်းဘုဉ်းပေးနေစဉ်





အနောက်တိုင်းသား ယောဂီတစ်ဦး မဟာစည်သာသနာ့ရိပ်သာတွင် ရဟန်းခံနေစဉ်





အနောက်တိုင်းသား ယောဂီတစ်ဦး မဟာစည်သာသနာ့ရိပ်သာတွင် ရဟန်းခံနေစဉ်





အနောက်တိုင်းသား ယောဂီများ မဟာစည်သာသနာ့ရိပ်သာတွင် ရဟန်းခံနေကြစဉ်



အမှူးဆောင်လူကြီးများ မဟာစည်ဆရာတော်ဘုရားကြီး၏ ရုပ်ထုတော်ကိုပင့်ဆောင်လာစဉ်



မဟာစည်စံကျောင်းတော်တွင် အပူဇော်ခံထားရှိမည့် ဆရာတော်ကြီး၏
ရုပ်ထုတော်ကို အမှူးဆောင်လူကြီးများပင့်ဆောင်လာစဉ်



ရွှေဘိုမြို့နယ် ဆိပ်ခွန်ရွာ မဟာစည်ကမ္မဋ္ဌာန်းကျောင်းမှ မဟာစည်တော်ကြီး






ဆိပ်ခွန် မဟာစည်ကျောင်းဝင်းအတွင်းရှိ မဟာစည်တော်ကြီး
အလျား - ရှစ်ပေ၊ ကိုးလက်မ ၊ လုံးပတ် - ဆယ်ပေ၊ ခြောက်လက်မ



ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်မှ အမှုဆောင်လူကြီးများ၏ စည်တော်ကြီးနှင့် အမှတ်တရဓာတ်ပုံ



ယောဂီထောက်ပံ့ရေးအဖွဲ့ခွဲ၏ အမှုဆောင်လူကြီးမင်းအချို့




ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးအား ၂ နှစ်မြောက်ပူဇော်ကန်တော့ပွဲ
လာရောက်ပူဇော်ကြသော ယောဂီဟောင်းများ



ယောဂီထောက်ပံ့ရေးအဖွဲ့ခွဲတွင် ပါဝင်ကြသည့် ဝိသာခါအမျိုးသမီးများ



၁၃၁၁-ခုနှစ် ဖလ်ယဉ်မျှောရုံကြီး အုတ်မြစ်ချပွဲ ကျင်းပစဉ်



ဆာဦးသွင်မိသားစုရန်ပုံငွေ ရေစက်သွန်းချအပြီး ရိုက်ကူးထားပုံ

ရန်ကုန်မြို့ သာသနာ့ရိပ်သာ

◁ မုခ်ဦးသစ်

မုခ်ဦးဟောင်း ▽







ရန်ကုန်မြို့ သာသနာ့ရိပ်သာအတွင်းရှိ
မဟာစည်ဆရာတော်ဘုရား၏ စံကျောင်းတော်



ဆိပ်ခွန်ရွာ မဟာစည်ကျောင်းတိုက်အတွင်းရှိ
တိုက်ကျောင်းပုံ



တောင်ဝိုင်းကလေးတွင် မဟာစည်ဆရာတော်
ရှေးဦးစွာ သီတင်းသုံးရာ သိမ်ကျောင်းနှင့် ဇောင်းတန်းပုံ



ဘုရားတော်ကောင်းတို့ တောမှီရာ
မော်လမြိုင် တောင်ဝိုင်းကလေးရှုခင်း



မော်လမြိုင်မြို့ တောင်ဝိုင်းကလေး ဇေတဝန် ကျောင်းတိုက်ပုံ၊
မဟာစည်ဆရာတော် (၁၀)ဝါ မပြည့်မီ ဇေတဝန်ဆရာတော်ဘုရားကြီးထံ ဩဝါဒ ခံယူတော်မူသည်။



၁၃၁၂-ခုနှစ်က သာသနာ့ရိပ်သာအတွင်းရှိ (ယခုဖလ်ယဉ်ဓမ္မာရုံနေရာ) သံဖြူမဏ္ဍပ်ကြီး၌
တတိယအကြိမ် တိပိဋကဓရ ရွေးချယ်ပွဲ ပထမနေ့က ရိုက်ကူးထားပုံ



၁၃၂၀-ပြည့်နှစ် ပြာသိုလဆုတ် ၃-ရက်နေ့က ဖလ်ယဉ်ဓမ္မာရုံ၌ တိပိဋကဓရ ရွေးချယ်ပွဲ(ခ)ရေးဖြေပွဲ
ကျင်းပစဉ်က သာသနာ့အာဇာနည် ၂၈-ပါးတို့ ရေးဖြေနေကြပုံ



၁၃၃၉-ခုနှစ် ကဆုန်လပြည့်နေ့က သာသနာ့ရိပ်သာ၌ ကဆုန်ညောင်ရေသွန်းပွဲ ကျင်းပစဉ်



၁၃၃၇-ခုနှစ် ကဆုန်ညောင်ရေသွန်းလောင်းရန် ဗောဓိပင်သို့
မဟာစည်ဆရာတော်ဘုရားကြီးနှင့် နာယကဆရာတော်တို့အား ပင့်ဆောင်လာပုံ



၁၃၂၄-ခုနှစ် သာသနာ့ရိပ်သာ၌ ၁၃-ကြိမ်မြောက် ဘုံကထိန်ပွဲ ကျင်းပစဉ်



ဆရာတော်ကြီး၏မွေးနေ့တွင် မုန့်နှင့်သစ်သီးမျိုးစုံတို့ကို လှူဒါန်း၍ ဘုရားဝတ်ပြုနေစဉ်



ဆရာတော်ဘုရားကြီး၏ မွေးနေ့တွင် လေးဆူဓာတ်ပုံရွှေတိဂုံ စေတီတော်မြတ်ကြီးအား
ရာဟုထောင့် သံတန်ဆောင်းကြီးမှ ပန်းဖယောင်းတိုင် အမွေးတိုင်များ ထွန်းညှိပူဇော်နေပုံ



မွေးနေ့ပူဇော်ပွဲတွင် ဘုရားဝတ်ပြုအပြီး ရွှေတိဂုံစေတီတော်မြတ်ကြီးအား လှည့်လည်ပူဇော်နေပုံ



၁၃၃၀-ပြည့်နှစ် မဟာစည်ဩဝါဒခံယူပွဲ၌ ဩကာသဖြင့်ရှတ်ဖတ်ပူဇော်ကန်တော့နေကြပုံ



သာသနာ့ရိပ်သာယောဂီများအား ဟိတေသီအဖွဲ့မှ ကုသိုလ်ဖြစ်နံနက်စာဆက်ကပ်ကျွေးမွေးစဉ်



၁၃၃၉-ခုနှစ် ပူဇော်ပွဲအတွင်းက စတုဒိသာကျွေးမွေးပွဲ၌ ပရိသတ်များစားသောက်နေကြစဉ်



သာသနာ့ရိပ်သာအတွင်းရှိ ရဟန်းယောဂီ
သံဃာတော်များ ဥပုသ်ပြုရာသိမ်တော်



ကမ္ဘာ့ဘာသာပေါင်းစုံ ပိဋကတ်တိုက်ကြီး



လူယောဂီများ တရားအားထုတ်ရာ
ကမ္မဋ္ဌာန်း တန်းလျားကြီး



ရဟန်းတော်ယောဂီများ တရားအားထုတ်ရာ
ကမ္မဋ္ဌာန်းကျောင်းများ



ယောဂီမယ်များ တရားအားထုတ်ရန်
ကမ္မဋ္ဌာန်းအုတ်ဂူပိုင်းကြီး



နိုင်ငံခြားသားများ တရားအားထုတ်ရာ
ဆောက်လုပ်ထားသော ကမ္မဋ္ဌာန်းအုတ်တိုက်



တရားပေးရာစံကျောင်းတော်



ယောဂီမယ်များ ကမ္မဋ္ဌာန်းစံအိမ်သို့
သွားရာလမ်း



မဟာစည်ရိပ်သာကြီး၌ ကမ္မဋ္ဌာန်းတရားပွားများအားထုတ်နေကြသော ရဟန်းယောဂီများ



ရန်ကုန်နေပြည်တော်ရဲအမှုထမ်းများဗုဒ္ဓဘာသာ
အသင်းမှ လစာအပြည့်နှင့် ခွင့်တစ်လပေးကာ
တရားအားထုတ်စေသော ပထမပတ်ယောဂီများ



မွေရာသီကျောင်းပိတ်ချိန်တွင်
တရား လာအားထုတ်ကြသော
ရန်ကုန်မြို့ရှိကျောင်းများမှ ကျောင်းသားများ





နိုင်ငံတော်အတွင်းရှိမြို့နယ်ခရိုင်များမှ အထူးဖိတ်ကြားချက်အရ
တရား လာအားထုတ်ကြသော ယောဂီများ





ကောလိပ်ကျောင်းသူ အမျိုးသမီးယောဂီများနှင့်
တရုတ်အမျိုးသမီးယောဂီများ



အမေရိကန်သူသီလရှင်ယောဂီမယ်



၁၂-နှစ်သမီး ယောဂီမယ်ကလေး






အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အနန္တကျောင်းဆရာတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏

အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အနန္တကျောင်းဝှူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အနုဗ္ဗကျောင်းဘုန်းတော်ကြီး မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ် ။






အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏
အမေရိကန်နိုင်ငံသို့ ကြွရောက်တော်မူသည့် ဓမ္မဒူတခရီးစဉ်





အင်္ဂလန်နိုင်ငံ သာသနာပြုခရီးစဉ်များ





ဂျပန်နိုင်ငံ သာသနာပြုခရီးစဉ်များ





ဂျပန်နိုင်ငံ သာသနာပြုခရီးစဉ်များ





ဂျာမနီနိုင်ငံနှင့်ဆွစ်ဇာလန်နိုင်ငံ သာသနာပြုခရီးစဉ်များ





ဂျာမနီနိုင်ငံနှင့်ဆွစ်ဇာလန်နိုင်ငံ သာသနာပြုခရီးစဉ်များ

F-5A



၁၃၃၆-ခု သြဝါဒခံယူပွဲ၌ မဟာစည်ဆရာတော်ဘုရားကြီးအား ပူဇော်ကန်တော့နေကြစဉ်
(စက်ဝိုင်းပြထားသော ပုဂ္ဂိုလ်များမှာ အမေရိကန်နှင့်သီဟိုဠ်နိုင်ငံတို့တွင် သာသနာပြုလေ့ရှိသော ကမ္မဋ္ဌာန်းပြဆရာ အိန္ဒိယလူမျိုး မုနိန္ဒြနှင့် သာသနာပြုအဖွဲ့ဝင် ဖိလစ်ပိုင်အမျိုးသားဖြစ်သည်။)



၁၃၃၈-ခုနှစ်က ဥရောပတိုက်သားယောဂီများ ကျေးဇူးရှင်
မဟာစည်ဆရာတော်ဘုရားကြီးကို ဖူးမြော်ရန်လာရောက်ကြစဉ်



၁၃၂၀-ပြည့်နှစ် ပြာသိုလ က ကျေးဇူးရှင်မဟာစည်ဆရာတော်ဘုရားကြီးသည် နယူးဒေလီမှ ၁၃-မိုင် အကွာအိန္ဒိယအစိုးရက ဗုဒ္ဓဘာသာ သာသနာ့မြေအဖြစ်လှူထားသော "မယ်ရော်လီ"ဒေသတွင် စိုက်ပျိုးထားသောဗောဓိပင်ရှိရာတွင် ရိုက်ကူးထားသည့်ပုံတော်



အိန္ဒိယဗုဒ္ဓဘာသာ ဗန်ဂါလီကျောင်း၌ ဆွမ်းစားခါနီး ဆွမ်းပန်းတင်နေပုံ





အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော်ဘုရားကြီးအား
အိန္ဒိယဝန်ကြီးချုပ် ဂျဝါဟာလာနေရူးမှ ဖူးမြော်နေစဉ်



၁၃၂၀-ပြည့်နှစ် ပြာသိုလဆန်း၁၀-ရက် (၁၈၊ ၁၊ ၅၉) နေ့က အိန္ဒိယပြည် နယူးဒေလီမြို့၌
အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော်နှင့် ဝန်ကြီးချုပ် ဂျဝါဟာလာနေရူးတို့ ဘာသာရေးဆွေးနွေးနေကြပုံ



၁၃၃၈-ခုနှစ်က ဥရောပတိုက်သားယောဂီများ ကျေးဇူးရှင်
မဟာစည်ဆရာတော်ဘုရားကြီးကို ဖူးမြော်ရန်လာရောက်ကြစဉ်



အိန္ဒိယပြည် နယူးဒေလီမြို့၌ ပထမဆုံးရှစ်ပါးသီလပေးနေပုံ



အိန္ဒိယမြန်မာသံရုံး နှုတ်ဆက်တရားပွဲ



၁၃၁၇-ခုနှစ် ဒုတိယဝါဆိုလဆန်း ၂-ရက် သီဟိုဠ်နိုင်ငံသို့ သာသနာ့ရိပ်သာခွဲများ ဖွင့်လှစ်ရန် မဟာစည်ဆရာတော် ဘုရားကြီးသည် ပထမအသုတ်သာသနာပြုအာဇာနည် အရှင်မြတ်သုံးပါးတို့အား မင်္ဂလာဒုံလေဆိပ်သို့ လိုက်ပို့စဉ် ရိုက်ကူးထားပုံ



၁၃၂၀-ပြည့်နှစ် ပြာသိုလဆုတ် ၉-ရက်နေ့က သီဟိုဠ်နိုင်ငံ ကိုလန်ဘိုမြို့၌ မဟာစည်ဆရာတော် အမှူးပြုသော မြန်မာရဟန်းတော်များ၏ ကမ္မဋ္ဌာန်းဌာနဖွင့်လှစ်ရန်လျှောက်ထားနေပုံ



သီဟိုဠ်နိုင်ငံတွင်းရှိ မဟာစည်သာသနာ့ရိပ်သာဌာနခွဲတစ်ခုမှ
သီဟိုဠ်ယောဂီများနှင့် မြန်မာသာသနာပြု ရဟန်းတော်များ။



နီပေါနိုင်ငံသာသနာပြု ဓမ္မဒူတ ခရီးစဉ်များ






နီပေါနိုင်ငံသာသနာပြု ဓမ္မဒူတ ခရီးစဉ်များ





နီပေါနိုင်ငံသာသနာပြု ဓမ္မဒူတ ခရီးစဉ်များ






နီပေါနိုင်ငံသာသနာပြု ဓမ္မဒူတ ခရီးစဉ်များ





နီပေါနိုင်ငံသာသနာပြု ဓမ္မဒူတ ခရီးစဉ်များ





နီပေါနိုင်ငံသာသနာပြု ဓမ္မဒူတ ခရီးစဉ်များ













ထိုင်းနိုင်ငံ သာသနာပြုခရီးစဉ်များ



ပြည်တွင်းသာသနာပြု ခရီးစဉ်မှတ်တမ်းများ





ပြည်တွင်းသာသနာပြု ခရီးစဉ်မှတ်တမ်းများ



ပြည်တွင်းသာသနာပြု ခရီးစဉ်မှတ်တမ်းများ





ပြည်တွင်းသာသနာပြု ခရီးစဉ်မှတ်တမ်းများ



မဟာစည်ဆရာတော်ဘုရားကြီးနှင့် တိပိဋကဓရဆရာတော် အရှင်သူမြတ်နှစ်ပါးတို့ ညောင်ရွှေမြို့ ရွှေဘိုကျောင်းတိုက်တွင် အမှတ်တရမှတ်တမ်းတင်ဓာတ်ပုံရိုက်ကူးထားစဉ်။ (ဝဲဘက်က ဦးဝိစိတ္တ အရှင်သူမြတ်ဖြစ်ပြီး၊ ယာဘက်က ဦးနေမိန္ဒ အရှင်သူမြတ်ဖြစ်ပါသည်။)



၁၃၄၀-ပြည့်နှစ် ကဆုန်လဆန်း ၁၁-ရက်နေ့က တောင်ပိုင်းရှမ်းပြည်နယ်အင်းလေးဒေသ
အင်ကြင်းကုန်းရွာ၊ မဟာစည်သာသနာ့ရိပ်သာကျောင်းခွဲအတွင်းရှိ ဓမ္မာရုံ အုတ်မြစ်ချပွဲတွင်
မဟာစည်ဆရာတော်ဘုရားကြီးကိုယ်တိုင် ရွှေအုတ်မြစ်ချနေစဉ်



ဓမ္မာရုံအုတ်မြစ်ချပွဲအခမ်းအနားတွင် မဟာစည်ဆရာတော်ဘုရားကြီးနှင့် ညောင်ရွှေမြို့နယ်လုံးဆိုင်ရာ
အင်းလေးဒေသ ဂိုဏ်းထောက်ဆရာတော်ကြီးများအား ဖူးတွေ့ရစဉ်



၁၃၄၀-ပြည့်နှစ် ကဆုန်လအတွင်းက မဟာစည်ဆရာတော်ဘုရားကြီးသည်
တောင်ပိုင်းရှမ်းပြည်နယ်တခွင်သို့ ခက်ခဲပင်ပန်းစွာကြွရောက်၍ သာသနာပြုတော်မူစဉ်



၁၃၄၀-ပြည့်နှစ် ကဆုန်လဆန်း ၇-ရက် တောင်ပိုင်းရှမ်းပြည်နယ် အင်းလေးဒေသ ညောင်ရွှေမြို့နယ်
ရွာသစ်ကျောင်း မဟာစည်သာသနာ့ရိပ်သာခွဲ ဖွင့်ပွဲ အခမ်းအနားတွင် ဆရာတော်ဘုရားကြီးကြွရောက်လာပြီး
အမျိုးသားယောဂီတစ်ဦးက ဝမ်းလျားမှောက်၍ ဆရာတော်ဘုရားကြီးအား လမ်းခင်းပူဇော်နေစဉ်

# မဟာစည် ထေရ်မြတ် အတ္ထုပ္ပတ္တိ



နမော တဿ ဘဂဝတော အရဟတော

သမ္မာသမ္ဗုဒ္ဓဿ။

ယခုအခါ ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတဝန်းလုံး မကြားဘူး မသိဘူးသူ မရှိလောက်အောင် ထင်ရှားကျော်စောလျက် ရှိတော်မူသော သာသနဓဇ သိရိပဝရ ဓမ္မာစရိယ အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော်ကို ဤမျှထင်ရှားခြင်း ကျော်ဇောခြင်းမရှိမီအခါကပင် ထိုအရှင်မြတ်၏ အကြောင်းခြင်းရာများနှင့်တကွ ကျွန်တော်ကိုယ်တိုင် ကြားသိခဲ့ရသဖြင့် စိတ်ဝင်စားခြင်း ဖြစ်ခဲ့ရပါသည်။

## အကြောင်း တိုက်ဆိုင်ပုံ

ကောဇာသက္ကရာဇ် ၁၂၉၀-ပြည့်နှစ်၊ နယုန်လ (၁၉၂၈-ခု ဇွန်လ)တွင် မော်လမြိုင်မြို့ ပန်းဘဲတန်းရပ်ရှိ အင်္ဂလိပ်မြန်မာ နှစ်ဘာသာသင် ရှင်ဗုဒ္ဓဃောသ အထက်တန်းကျောင်းကြီးကို (သပိတ်မှောက်ခေတ်အတွင်း ယိုယွင်းပျက်စီးနေရာမှ) သာသနရေအသင်းက ပြန်လည် ဖွင့်လှစ်ခဲ့ပါသည်။ ထိုသို့ဖွင့်လှစ်ရာတွင် ဗုဒ္ဓဘာသာနှင့် မြန်မာစာပေဘာက်က သင်ကြားပေးရန် ဆရာတဦးလိုလျက်ရှိသဖြင့် ရန်ကုန်မြို့၌ရှိသော ကျွန်တော့်အား သာသနရေအသင်း၏ ဆုံးဖြတ်ချက်အရ ခေါ်ယူခန့်ထားခဲ့ပါသည်။

ထိုသို့ ခန့်ထားသည့်အတိုင်း ၁၂၉၀-ပြည့်၊ ဝါဆိုလ (၁၉၈၂-ခု၊ ဇူလိုင်လ) တွင် အလုပ်ဝင်၍ ဗုဒ္ဓဘာသာ ပါဠိဘာသာနှင့် မြန်မာဘာသာများကို သင်ကြား

ပေးရမည့် ဆရာအဖြစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်၍ တနှစ်မျှအကြာ ၁၂၉၁–ခု၊ ဝါဆိုမှီ မဟာစည်ဆရာတော် ခေါ်တွင်မည့်(ရဟန်းသိက္ခာ ၆–ဝါရ) အရှင်သောဘနသည် မော်လမြိုင်မြို့ တောင်ဝိုင်းကလေး တိုက်ကျောင်းသို့ ကြွရောက်သီတင်းသုံးတော်မူပါသည်။

အရှင်မြတ်သည် မော်လမြိုင်မြို့မှ ကုလလေးတာ အပြန်ငါးရာမျှမကဝေးကွာ၍ သုညာဂါရ(တောရကျောင်း)အစစ်ဖြစ်သော ထိုတိုက်ကျောင်း၌ "မဝေးနီးမော၊ မရောလူရှင်၊ မှက် ခြင်,ပါးနည်း၊ ပစ္စည်းမိတ်ဆွေ၊ ရလွယ်လေ။ ငါးထွေကျောင်းအင်္ဂါ "ဟူသော ဆောင်ပုဒ်အရ–

၁။ မြို့ရွာမှ မဝေးလွန်း မနီးလွန်းခြင်း၊

၂။ ရှင် လူ အသွားအလာ မများ၍၊ ရှင် လူတို့နှင့် ရောနှောမှု မရှိခြင်း၊

၃။ ခြင်, မှက် ကိုက်ခဲခြင်းအန္တရာယ် နည်းပါးခြင်း၊

၄။ ပစ္စည်းလေးပါးအတွက် ငြိုငြင်ဖွယ်မရှိ ရလွယ်ခြင်း၊

၅။ သူတော်ကောင်းမိတ်ဆွေကို ရနိုင်ခြင်း။

ဟူသော တောရကျောင်း အင်္ဂါ (ကျောင်းကောင်းအင်္ဂါ) ငါးပါးနှင့် ပြည့်စုံပုံကို သိတော်မူသည့်အတိုင်း သီတင်းသုံးတော်မူလျက် ပဋိပတ် အခြေခံဖြစ်သော ပရိယတ်စာပေတို့ကို ပို့ချပေးတော်မူသည်။

ကျွန်တော်သည် ရှင်ဗုဒ္ဓဃောသ အထက်တန်းကျောင်းတွင် လုပ်ကိုင်နေစဉ် သာသနရေ အသင်းဥက္ကဋ္ဌ မင်းတိုင်ပင်အမတ် ဦးချစ်ဖေ၊ ကျောင်းအုပ်ကြီး ဦးဖိုးရင် စီ–ဘီ–အေ အထက်တန်းရှေ့နေ၊ ကျောင်းဆရာကြီး ဦးအောင်ဘုံ ဘီ–အေ–ဘီ–အီး–ဒီ တို့၏ သဘောတူညီချက်အရ သာသနရေအသင်း၏ အမှုဆောင် ကော်မတီတွင် ကော်မတီတဦးအဖြစ် ပါဝင်ဆောင်ရွက်ခဲ့ရပါသည်။

ထို အမှုဆောင်ကော်မတီသည် လစဉ် အစည်းအဝေးခေါ်ကာ ကျောင်းကိစ္စများကို ဆောင်ရွက်ရသည်။ လစဉ် အစည်းအဝေးခေါ်တိုင်း ကျွန်တော်ကိုယ်တိုင် အစည်းအဝေးတက်ရသည်တွင် (တောင်ဝိုင်းကလေးသို့ ဥပုသ်နေ့တိုင်း သွားရောက် ဥပုသ်စောင့်လေ့ ရှိကြသော) ကော်မတီလူကြီးများနှင့်လည်း တွေ့ဆုံရပါသည်။ ထိုကော်မတီလူကြီးတို့မှာ...

၁။ ဦးထွန်းဝင်း၊ မင်းတိုင်ပင်အမတ်၊ အထက်တန်းရှေ့နေ(ယခုကွယ်လွန်ပြီ)

၂။ ဦးကြာပွင့်၊ အသင်းအကျိုးဆောင် (ယခုကွယ်လွန်ပြီ)

၃။ ဦးလေးစိန်၊ စတီးဘရားသားစာရေးကြီး (ယခုကွယ်လွန်ပြီ)

တို့ဖြစ်ပါသည်။ ထိုလူကြီးတို့တွင် ဦးထွန်းဝင်းနှင့် ဦးကြာပွင့်တို့မှာ တောင်ဝိုင်းကလေး ဇေတဝန်ကျောင်းသို့ သွားသူများ ဖြစ်ကြပါသည်။ ဦးလေးစိန်ကား တိုက်ကျောင်းသို့သွားရောက် ဥပုသ်စောင့်သူ ဖြစ်သည့်အတိုင်း မဟာစည်ဆရာတော်လောင်း အရှင်သောဘန(စာချဘုန်းကြီး) အကြောင်းကို ကျွန်တော့်အား ဖောက်သည်အချဆုံး ပုဂ္ဂိုလ်တယောက် ဖြစ်ခဲ့ပါသည်။

## ထိုခေတ် မော်လမြိုင်သာသနာ

မော်လမြိုင်မြို့သည် မြန်မာနိုင်ငံ၏ အကြီးဆုံးသော မြို့များတွင် တတိယစွဲသော မြို့ဖြစ်၏။ ဥတုရာသီမျှတခြင်း၊ အစားအသောက်ပေါခြင်း၊ စိမ်းစိုလန်းဆန်းသော ရှုမျှော်ခင်းရှိခြင်း တို့ကြောင့် နေစရာင့်ဖွယ် တင့်တယ် သာယာသော မြို့ဖြစ်ပေသည်။ သို့ရာတွင် သာသနာရေးဘက်က ကြည့်လိုက်သော် စာသင်သံဃာ ၁၀၀-ပြည့်သော ကျောင်းတိုက်ဟူ၍ တတိုက်မျှ မရှိချေ။ မော်လမြိုင်မြို့၏ အစိတ်အပိုင်းဖြစ်သော ဒိုင်းဝန်ကွင်း မျှလောက်သာ ရှိကြသော ညောင်တုန်းမြို့၊ နေပြည်မြို့၊ ပခုက္ကူမြို့၌ စာသင်သံဃာ ၁၀၀-ကျော်ရှိသော

ကျောင်းတိုက်ကြီးများရှိကြ၏။ သြောင်တုန်းမြို့၌ ရွှေဟင်္သာ တောရတိုက်၊ ဓနုဖြူမြို့၌ ခင်မကန်တိုက်၊ တောင်ပေါ်ကျောင်းတိုက်၊ ဂန္ဓာရုံကျောင်းတိုက်၊ ပခုက္ကူမြို့၌ မဟာဝိသုတာရာမတိုက် (အရှေ့တိုက်– အနောက်တိုက်)ဤကျောင်းတိုက်တို့မှာ မြို့နှင့်မလိုက်အောင် စည်ကားခဲ့ကြ၏။ သို့ရာတွင် ဤကျောင်းတိုက်ကြီးတို့၏ အားထားရာ မြို့များမှာ မော်လမြိုင်မြို့၏ အခြေအနေကို မမှီနိုင်ကြပေ။ ထိုအချိန်က မော်လမြိုင်မြို့တွင် ပရိယတ္တိကို အားပေးသော ပရိယတ္တိ သဒ္ဓမ္မပါလအသင်း၊ သုသမာစာရအဖွဲ့တို့လည်း မပေါ်လာကြသေးချေ။ တနှစ်တခါ ဝိနည်းအာဂုံပြန်ပွဲ ကျင်းပကာ အားပေးသော ဝိနယာနုဂ္ဂဟအသင်း ဟူ၍ကား ရှိနေသည်ဟူ၍ သိရပါသည်။

စာသင်သံဃာများ သီတင်းသုံးချင်လောက်အောင် ခမ်းနားကျယ်ပြန့်လှသော တောင်လေးလုံး ကျောင်းတိုက်၊ တောင်ပေါက်ကျောင်းတိုက်၊ အရှေ့ကုံကော်ကျောင်းတိုက်၊ ပုဂံတောင်ကျောင်းတိုက်နှင့် မဟာမြိုင်ကျောင်းတိုက်ကြီးတို့ကား ထင်ရှားလှသော ရှေးအဆောက်အဦများဖြင့် တင့်တယ်လှ၏။ ပဋိပတ်ဘက်က အားထုတ်လိုသော ယောဂီများအတွက် တောင်ဝိုင်းကလေး ပဓာနိကာရုံ၊ ဇေတဝန်တိုက်၊ တိုက်ကျောင်း၊ တောင်ဝိုင်းကြီး ရွှေကျင် ကျောင်းတိုက်တို့လည်း တိတ်ဆိတ်ငြိမ်သက်သော တည်နေရာအားဖြင့် ထင်ရှားလျက် ရှိကြပါသည်။

သို့ရာတွင် ပရိယတ္တိဘက်နှင့် ပဋိပတ္တိဘက်က မြို့နေ ခမ်းနားကျောင်းတိုက်ကြီးတွေ ခန့်ညားသလောက် အထက်တန်း ရောက်လာသည်ဟု မဆိုနိုင်ခဲ့ချေ။ ပထဝီ အနေအထားအရ စာသင်သား သံဃာများ သွားရေး လာရေး ချောင်ကျနေသောကြောင့် ပေလောဟု တွေးတော မိပါသည်။ ပဋိပတ္တိဘက်က တကိုယ်ရေတကာယ အားထုတ်တော် မူကြသော မဟာထေရ်ကြီးများလည်း ရှိပါသည်။ ထိုအခါ ပဋိပတ် အတွက် ကျော်စောသတင်း ထွက်နေသည်မှာ မုဒုံမြို့ ဂျုံးဂျုံးကျ

တောရဆရာတော်နှင့် သထုံခရိုင် ဒုံဝန်းတောရ (ရွှေရောင်ပြတောင်ခြေ) ကျောင်း ဘုန်းတော်ကြီး ဦးအုန်းခိုင်တို့ပင် ဖြစ်ပါသည်။ ဂျုံးဂျုံးကျတောရ ဆရာတော်ကြီး သည် ပဋိပတ်ဘက်က ထက်ထက်မြက်မြက် အားထုတ်တော်မူနေယင်း ပျံလွန်တော် မူသွားရာ အလောင်းတော်ကို ဒုကုဋ်သင်္ကန်းကြီးဖြင့် လွှမ်းခြုံ ထားရာမှ ရက်တရက် အလောင်းတော် ပျောက်ကွယ်၍ လွှမ်းခြုံထားသော ဒုကုဋ် သင်္ကန်းသာ ကျန်ရစ်ကြောင်း ပြောစမှတ် ပြုကြပါသည်။ ဤမျှ ပြင်းပြင်း ထန်ထန် အားထုတ်တော်မူသော ဆရာတော်ကြီး ဖြစ်၍ ပြန်လွန်တော် မူပြီး နောက်လည်း ဂျုံးဂျုံးကျတောရသို့ အလောင်းတော် ပြင်ဆင်သော ခုတင်နှင့် သင်္ကန်းတော်ကို ဖူးမြော်ရန် သွားရောက်ကြသော ရှင်,လူတို့ကား ပြတ်သည်ဟူ၍ပင် မရှိပေ။

လူနာမည်ဖြင့် ကျော်စောတော်မူသော ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် ကား အသက်လွန်မှ ရဟန်းဘောင်သို့ ဝင်ရောက်ကာ သဒ္ဓါတရား ထက်သန် စွာနှင့် ပဋိပတ်လုပ်ငန်းကို သက်စွန့်ကြိုးပမ်း အားထုတ်တော်မူသော ပုဂ္ဂိုလ် ဖြစ်ပေသည်။ ဘုန်းတော်ကြီး ကျောင်းသို့ ရောက်ဘူးသူများ၏ ပြောပြချက် အရ သိရသည်မှာ "ဘုန်းတော်ကြီးသည် သပိတ် တလုံး၊ သင်္ကန်း သုံးထည် စသော ရဟန်း ပရိက္ခရာမှ တပါး အခြား အသုံးအဆောင် အပိုမထား တပါးတည်း သီတင်းသုံးတော် မူသည်။ ကျိန်းစက်ရာတွင် ခေါင်းအုံးဟူ၍ မရှိ၊ လူ့ခေါင်းရိုးကို ခေါင်းအုံးအဖြစ် ထားတော်မူသည်။ အနီးပတ်ဝန်းကျင်ရှိ ရွာများ၌ ဆွမ်းခံ၍ ရသမျှဖြင့် ရောင့်ရဲတော်မူသည်။ ဆွမ်းခံရွာဟူ၍ အတည်တကျ အမှတ်မထား၊ ဟိုရွာတလှည့် သည်ရွာတလှည့် ဆွမ်းခံတော်မူသည်"ဟူ၏။

ဘုန်းတော်ကြီး၏ ပဋိပတ် ဂုဏ်သတင်းကြောင့် မော်လမြိုင်၊ မုတ္တမ၊ သထုံ စသော ပတ်ဝန်းကျင် မြို့ရွာတို့မှာ မကြာမဏ ဘုန်းတော်ကြီး ထံပါးသို့ သွားရောက်

ဖူးမြော် ပူဇော်ကန်တော့ကြလေသည်။ ဘုန်းတော်ကြီးထံ ချဉ်းကပ်၍ တလ ကိုးသီတင်း တရားအားထုတ် နေထိုင်ကြသူကား မရှိချေ။ နေစရာ ထိုင်စရာ ကမ္မဋ္ဌာန်း ကျောင်း အဆောက်အဦ ဟူ၍လည်း ဘုန်းတော်ကြီး သီတင်းသုံးသောကျောင်း ကလေးမှတပါး မရှိချေ။ (မဟာစည်တောထွက်ခန်းတွင် ထပ်မံ ဖော်ပြပါဦးမည်။)

မော်လမြိုင်မြို့သည် တနင်္သာရီခရိုင်တွင် တိုင်းမင်းကြီး ရုံးစိုက်ရာ အချက် အချာ မြို့ကြီးဖြစ်သည်နှင့်အညီ လောကီရေးဘက်က သူဌေးကြီး၊ သူကြွယ်ကြီး၊ ဝတ်လုံတော်ရကြီး၊ ကုန်သည်ကြီး၊ မင်းတိုင်ပင်အမတ်ကြီးတို့ ဖြစ်ထွန်းရာပေဟု ဆိုရသကဲ့သို့ လောကုတ္တရာ သာသနာရေးဘက်တွင် တနိုင်ငံလုံးက မျှော်ကြည့် လောက်အောင် ပိဋကတ်ပါရဂူ၊ ပဋိပတ် တံခွန်ထူ ပုဂ္ဂိုလ်များ ထိုအခါက မပေါ် ပေါက်၊ မထင်ရှားခဲ့ချေ။

ဤသို့ သာသနာရေးဘက်က ရွက်ကြမ်းရေကျို မျှသာ ရှိနေသည်ကို အား မရ မကျေနပ်နိုင်သဖြင့် ဒိုင်းဝန်ကွင်း သစ်ကုန်သည်ကြီး ကျိုက်သံလန်စေတီတော် ဂေါပက ဦးဘချစ်က "ဆရာရေ ကျနော်တို့မြို့ဟာ အစစအရာရာ လိုလေသေး သည် မရှိအောင် ပြည့်စုံတဲ့မြို့ ဖြစ်ပါလျက် သာသနာရေးဘက်က စာသင်သား ၁၀၀-ပြည့်တဲ့ ကျောင်းတိုက် တတိုက်မျှ မရှိဘူး၊ တခြားမြို့က လာပြီး ပညာ သင်ကြား နည်းယူရလောက်အောင် ထင်ရှားတဲ့ ပုဂ္ဂိုလ်မျိုးလဲ မတွေ့ရဘူး၊ အဲဒါ ဘာကြောင့်လဲ ဆရာ"ဟု စာရေးသူကို မေးဘူးရာ "ကျွန်တော့်အထင် ပြောရယင်၊ လူကြီးမင်းတို့ မော်လမြိုင်မြို့က အစားကောင်း အသောက်ကောင်းပေါပြီး နေရေး ထိုင်ရေး အလွန်ချမ်းသာတဲ့မြို့ ဖြစ်ပါတယ်၊ အစားကောင်းစားနေရတဲ့ လူချမ်းသာ သူဌေးများဟာ စည်းစိမ်ယစ်ပြီး ပညာကို သိပ်မသင်ချင်ကြဘူး၊ သူဌေးသား ပညာတတ်ဟာ အင်မတန်ရှားပါသည်"ဟု ဖြေခဲ့ရဘူးပါသည်။ ကျွန်တော့် ဖြေချက် မှန် မမှန်ကား မပြောတတ်၊ ဦးဘချစ်မှာမူ ခေါင်းတညိတ်ညိတ် ဖြစ်နေသည်ကို

တွေ့ရပါသည်။ (ဦးဘချစ်ကား သာသနာ ကြီးပွားစေလိုသောဆန္ဒ ပြင်းထန်လှသူ ဖြစ်ပါသည်၊ ယခုအခါ ကွယ်လွန်သွားရှာပြီ)။

ဤသို့သောအချိန်အခါ သာသနာရေးအတွက် မျှော်လင့်ချက် ဒီဂရီ တက်နေဆဲတွင် အရှင်သောဘနသည် မော်လမြိုင် တောင်ဝိုင်းကလေးတိုက် ကျောင်းသို့ ဆိုက်ရောက်တော်မူလာခဲ့သည်။ ထိုအရှင်သည် ထိုအခါက မဟာစည် ဟူသော အမည်မရသေး၊ ပဋိပတ်ကိုလည်း အားထုတ်တော် မမူရသေး။ သို့ရာတွင် ပဋိပတ်ကို အားထုတ်ရန် ဥပနိဿယ အခြေခံကောင်းသော ဌာနသို့ကား ဆိုက်ရောက်လာချေပြီ။ မင်းဖြစ်မည့် ပုဂ္ဂိုလ်သည် ဘုန်းကံအလျောက် အောင်မြေ ကို နင်းမိသကဲ့သို့ မော်လမြိုင် အောင်မြေကို နင်းမိလေပြီ။ အောင်မြေနင်းမိပုံကား ထင်းရှားပါလတ္တံ့။

"တောအရပ်များသည် အလွန်ပျော်မွေ့ဖွယ် ကောင်းကုန်၏၊ ဤသို့သော တောအရပ်၌ လူသာမန်တို့ မပျော်မွေ့နိုင်ကြ၊ တရားဓာတ်ခံ ရင့်သန်သော ပုဂ္ဂိုလ်မျိုးတို့ကား နှစ်သက်ဖွယ်အာရုံ ( ကာမဂုဏ် ) တို့ကို ရှာမှီးလေ့ မရှိကြကုန်"

ဟု ကျမ်းဂန်တို့တွင် တောနှင့်တောပျော်ပုဂ္ဂိုလ်အကြောင်းကို ဖော်ပြထားပေသည်။ ဤသို့သော ကြည်နူးဖွယ်ဂုဏ်အင်္ဂါနှင့် ပြည့်စုံသော တောကို ညွှန်ပြပါ ဆိုလျှင် တောင်ဝိုင်းကလေးဌာနကို ညွှန်ပြရ ပေလိမ့်မည်။

## တောင်ဝိုင်းကလေး

မော်လမြိုင်မြို့သို့ ရောက်လာသူ ရပ်ဝေးဧည့်သည်မှန်သမျှ တောင်ဝိုင်း ကလေးသို့ ရောက်ကြသည်သာများသည်။ တောင်စွယ်များက နောက်ခံကားပြု ထားပုံ၊ သစ်ပင်အမျိုးမျိုးတို့ အစီအရီ ပေါက်ရောက်နေပုံ၊ ရာသီမပြတ် စိမ်းလန်း

စိုပြေနေပုံ၊ ကုသိနာရုံ၊ သရက်တောကျောင်းတိုက်၊ ဇေတဝန်ကျောင်းတိုက် စသည်တို့က နေရာအလိုက် သိုက်သိုက်မြိုက်မြိုက်တည်ရှိနေကြပုံတို့ကား ပန်းချီမျက်စိနှင့်ဘဲကြည့်ကြည့်၊ စာရေးဆရာမျက်စိနှင့်ဘဲကြည့်ကြည့်၊ တရားရှာဖွေသူ ယောဂီမျက်စိနှင့်ဘဲကြည့်ကြည့်၊ ကြည့်လိုက်တိုင်း အဆင်ပြေလှပေသည်။ ဇာတ်ကြီး ၁၀ ဖွဲ့ကို စကားပြေ ရေးသားတော်မူသော မင်းဘူးဆရာတော် ဦးသြဘာသ,သာ တောင်ဝိုင်းကလေးဌာနသို့ ရောက်ခဲ့ပါလျှင်၊ ဟိမဝန္တာ ရှိုးမွမ်းခန်းကဲ့သို့ ဆန်းကြယ်သာယာ အလင်္ကာ ဂုဏ်မြောက်သော တောင်ဝိုင်းကလေး ရှိုးမွမ်းခန်းကို ရေးသားတော်မူခဲ့ပေလိမ့်မည်။ ရောက်ဘူးမှ သိကြရမည် ဟူ၍သာ ဆိုသင့်ပါတော့သည်။

**တည်နေရာဌာန၏အရေးကြီးပုံ**

မြန်မာနိုင်ငံ တဝန်းလုံးတွင် စစ်ကိုင်းတောင်ရိုး သတင်းကျော်ခဲ့သည်မှာ တရားရှာသူ ယောဂီပုဂ္ဂိုလ်တို့အတွက် အောင်မြေသဖွယ် တင့်တယ်သာယာ ကာမဂုဏ် ဟူသမျှတို့မှ ဝေးကွာသော ဌာနကောင်း ဖြစ်သောကြောင့် ပေတည်း။ ရှေးရှေး ဘုရားလောင်း သူတော်ကောင်း မှန်သမျှတို့သည် အလွန်နက်နဲလှသော တရားမှန်ကို အားသန်ဆွတ်ရှုးကြရာ၌ မြို့ကြီးရပ်ကြီး ထီးနန်းရိပ်မြုံ အာရုံငါးပါး စုံလှသော နေရာမှ ထွက်ခွာ၍ လူသူမနီး တောမြိုင်ကြီးရှိရာသို့ ချဉ်းကပ်ရမြဲ ဖြစ်ပေသည်။ ဗုဒ္ဓမြတ်စွာသည် ဘုရားအဖြစ်သို့ မရောက်ခင် ဘုရင်တစ်ဆူ ဖြစ်ပါလျက် ထီးနန်းကို မစုံမက်ဘဲ တောထွက်တော်မူခဲ့သည်။ အလောင်းတော်ဖြစ်စဉ် သံသရာ ကာလ ဘဝအဆက်ဆက် တောထွက်၍သာ တရားရှာခဲ့ရသော မဟာဇနက၊ တေမိယ၊ ဟတ္ထိပါလ စသော ဖြစ်တော်ပေါင်း ဇာတ်ကြောင်းတို့ကို ကြည့်လျှင် တော၏သဘာဝ ဥပနိဿယသတ္တိဖြင့် ပုဂ္ဂိုလ်ထူး အဖြစ်သို့ ရောက်အောင် ကျေးဇူးပြုတတ်ပုံများကို ထင်ရှားစွာ တွေ့မြင်ရပေလိမ့်မည်။

## တောရပ်သမီး အိမ်ထောင်ကြီး

ဟတ္ထိပါလ (ဘုရားလောင်း) တောထွက်ခန်းကို ဆန်းကြယ်စွာ ရေးသား ဖွဲ့နွဲ့တော်မူခဲ့သော ရှင်မဟာရဋ္ဌသာရ၏ ကိုးခန်းပျို့တွင် ဟတ္ထိပါလ မင်းသားက တောအရပ်၏ ကျေးဇူးများပုံကို ဤသို့ ဖွဲ့နွဲ့ခဲ့လေသည်။

(က) ရသေ့တင့်အပ်၊ လူမကပ်သား၊ တောရပ်သမီး၊ အိမ်ထောင်ကြီးလျှင်၊ သစ်သီးထမင်း၊ သစ်သီးဟင်းဖြင့်၊ စင်းလျဉ်းလုပ်ကျွေး၊ ဖြည့်သိမ်းမွေးလျက်၊ ညစ်ကြေး လောဘ၊ ဒေါသ မောဟာ၊ ဆေးတတ် စွာသား၊ ပညာ ချိုးရေ၊ သွန်းပြီး စေမှ၊ ပြေပြေ ပြစ်ပြစ်၊ ဆံကျစ် ဥသျှောင်၊ လှအောင်ပတ်ထုံး၊ ပန်းကုံး သဒ္ဒါ၊ ဆင်ပြီးစွာမှ၊ ကြေညာလှိုင်ခြင်း၊ သီတင်းစန္ဒန၊ မြေချမ်းကြည်၊ နှင်းရည်မွှေးဖျော်၊ အကျော်လိမ်းသပ်၊ တင့်အပ် ဝတ်စား၊ တရားပုဆိုး၊ အဘိုးခဲ့အင်၊ ငါပြုပြင်အံ့၊ ငါ့လင်ဖြစ်က၊ ကြောင့်ကြတစ်၊ မရှိလေပြီ၊ မထိရွံ့စိုး၊ မညှိုးရုံခါ၊ သာလကာဟု ငါ့မှာခေါ်ပင့်၊ ငါ့ကိုလင့်သား၊ ငါနှင့်ထိုက်တန်၊ ထိုမိမွန်သည်၊ ဈာန်အဘိညာ၊ မဟာကုသိုလ်၊ မင် ဖိုလ် ရှစ်ပါး၊ ကျေးဇူး သားကို၊ ဖွားလတ် သောခါ၊ မဂ္ဂါစေရက်၊ အသက်သဖွယ်၊ သွားတိုင်းလွယ်လိမ့်။ ။ ကျင့်နွယ်သူတော် ဝိဝိတည်း။ (ပို၁-၃၈)

(ခ) မုံရင့်သမ္ဘာ၊ ရှင့်သားငါကား၊ ခြောက်ဒွါရရှင်၊ မင်းဖြစ်ချင်၍၊ တောခွင်မြိုင်စည်၊ လမ်းထောက်တည်လိမ့်၊ ရွှေပြည်နိဗ္ဗာန် အဆီတည်း။ (ပို၁-၃၉)

(က) ဆိုလိုရင်းမှာ ရသေ့ ရဟန်း တို့နှင့်သာ သင့်လျော်၍ လူသာမန်တို့ မကပ်ရောက်နိုင်သော တောအရပ်သည် ဥပမာအားဖြင့် ငါ့ကိုစောင့်မျှော်နေသော ချစ်ဇနီးပင်ဖြစ်၏။ တောရပ် ဇနီးမယ်သည် သစ်သီးထမင်း သစ်သီးဟင်းများဖြင့် ကေန် လုပ်ကျွေးပြုစုရုံမက၊ လောဘ, ဒေါသ, မောဟ အညစ်အကြေးများမှ ကင်းဝေးအောင် ပညာတည်းဟူသော ချိုးရေဖြင့် ချိုးပေးလိမ့်မည်၊ ဆံကျစ်ကို သပ်ရပ်စွာ ထုံးဖွဲ့ရာတွင် သဒ္ဓါတရားတည်းဟူသော ပန်းကုံးကို ဆင်ပေး၍ သီလ တည်းဟူသော အမွှေးနံ့သာရေဖြင့် လိမ်းသပ်ပေးခြင်း၊ အဖိုးထိုက်တန်လှသော တရားပုဆိုးကို ဝတ်ဆင်ပေးခြင်းတို့ဖြင့် ကြောင့်ကြဖွယ် တစိုးတစိမျှ မရှိအောင် ပြုစုပေလိမ့်မည်။ ငါ့ကို ပင့်ခေါ် မျှော်လင့်နေသော တောရပ်ဇနီးမယ်သည် ငါနှင့် ပေါင်းသင်းရခြင်းကြောင့် မဟာကုသိုလ်၊ အဘိညာဉ် မဂ်ဖိုလ် ရှစ်ပါးဟူသော သားထူး သားမြတ်ကို ဖွားမြင်လိမ့်မည်။ ထိုသားတို့ မျက်နှာကြောင့် တောဇနီးသယ် သည် မခွါရက်ဖွယ် တရား အဆက်အနွယ် ဖြစ်အောင် သူတော်ကောင်းပီပီ ကျေးဇူးပြုပေလိမ့်မည်။

(ခ) ဒွါရ ခြောက်ပါးကို ထိန်းသိမ်းနိုင်မှ (ဆဒွါရာဓိပတိရာဇာ) တကယ့် မင်း ဖြစ်နိုင်သဖြင့် ထိုမင်းမျိုး ဖြစ်ချင်လှသောကြောင့် ပါရမီ အဆောက်အဦ ရင့်ပြီးသော (အရှင့်သား) ငါသည် စည်ကားသော တောမြိုင်အရပ်သို့ လမ်းစဉ် အတိုင်း ထွက်သွားတော့မည်။ ဤသဘောသည် နိဗ္ဗာန်ရောက်ကြောင်း တရား ကောင်း အဆီအနှစ်ပေတည်း။

လောကီလူသားတို့မှာ အချိန်တန် အရွယ်ရောက်လျှင် သင့်လျော်သော အိမ်ထောင်ဘက်ကို ရှာ၍ အိမ်ထောင်ပြုရမြဲ ဖြစ်သည်ကို ဥပမာထားကာ တရားရှာသူ ယောဂီပုဂ္ဂိုလ်တို့လည်း အသိဉာဏ် ရင့်သန်ချိန် စဉ်းစားဉာဏ် အားရှိလာသော အခါတွင် သုညာဂါရ ဆိတ်ငြိမ်ရာ ဌာန အစစ်ဖြစ်သော

တောအရပ် တည်းဟူသော ဇနီးနှင့် အိမ်ထောင်ပြုရမည်။ သို့မှသာ သီလ, သမာဓိ, ပညာတည်း ဟူသော သားကောင်း ရတနာများ ဖွားမြင်၍ တရား အဆက်အနွယ် တိုးတက်လိမ့်မည်ဟု ဥပမေယျ လိုရင်းသဘောကို ပြပေသည်။

တောင်ဝိုင်းကလေး တောရသည် ယောဂီပုဂ္ဂိုလ်ဟူသမျှတို့၏ သဘောကျ နှစ်သက်ဖွယ် ရှိမြောင်း အသွယ်သွယ် တို့ဖြင့် တင့်တယ်လှပသော သုညာဂါရ ဇနီးသယ်အလား ယောဂီ ပုဂ္ဂိုလ်များကို ဖိတ်ခေါ်လျက်ရှိပေသည်။ အရှင် သောဘနသည် နေက္ခမဖျာသယ တောအရပ်တွင် မွေ့လျော်လိုသော ဆန္ဒဓာတ်ခံ ရှိပြီး ဖြစ်သည့်အတိုင်း တောင်ဝိုင်းကလေး တိုက်ကျောင်း ဆရာတော်ကြီးကို အမှီပြုကာ တပည့်စာသင်သားတို့အား စွမ်းအားရှိသမျှ ပရိယတ္တိဘက်က ပို့ချ ပေးခြင်းဖြင့် သီတင်းသုံးလျက်ရှိလေ၏။ ထိုအရှင်ကား ရဟန်းသိက္ခာ တစ်ဝါရ ကစ၍ ဝါစဉ်အတိုင်း အစိုးရ ပထမငယ်, ပထမလတ်, ပထမကြီးတန်းတို့ကို အောင်မြင်တော်မူပြီးလျှင်၊ သိက္ခာ လေးဝါအရ၌ ပိဋကတ် တက္ကသိုလ်ဟု ခေါ်ဆို ရသော ရတနာပုံ မန္တလေးမြို့ ခင်မကန်တိုက် ဘွားတော်ကျောင်းတွင် နေထိုင်၍ ပိဋကတ် လမ်းရိုးကျ အာစရိယဝါဒ လက်ဆုပ် လက်ကိုင် ရရှိအောင် ပါဠိ, အဋ္ဌကထာ, ဋီကာများကို ကျကျနန အားထုတ်ဆည်းပူးတော်မူပြီး ဖြစ်လေသည်။ သို့ဖြစ်သည့် အားလျော်စွာ ကပ်ရောက်လာသော စာသင်သားတို့အား ပရိယတ္တိ အခြေခံ ရရှိလောက်အောင် အုတ်မြစ်ချပေးနိုင်သော စွမ်းရည်သတ္တိ ရှိတော်မူပြီး ဖြစ်လေသည်။ (နောက်တွင် ထင်ရှားပါ လတ္တံ့။)

တောင်ဝိုင်းကလေး တိုက်ကျောင်းတွင် စာသင်သား သံဃာများအား သက္ကရာဇ် ၁၂၉၃–ခုနှစ် တိုင်အောင် သာသနာတော်၌ ပထမအရေးကြီးဆုံး ဖြစ်သော ပရိယတ္တိ သာသန (စာပေသင်ကြားရေး)ကို အားပေးတော်မူသည်။ သို့ရာတွင် တောင်ဝိုင်းကလေး ဌာန၏ နှိုးဆော်ချက်အရ၊ ပရိယတ္တိမှ ပဋိပတ္တိသို့

ဟူသော တက်လမ်းကိုသာ လက်လှမ်းရန် အားသန်တော်မူလျက် ရှိလေသည်။ "အဓိပတိ တပ်လောက်အောင် ဆန္ဒဓာတ်, စိတ်ဓာတ်ပြင်းထန်ခြင်း ရှိနေသူအား အလိုဆန္ဒ ပြည့်ရမြဲ" ဟူသော သဘောဓမ္မတာအရ၊ အရှင်သောဘနစ၏ တောင်ဝိုင်းကလေးတောမှ ပဋိပတ်လုပ်ငန်းအတွက် တောတဆင့် ထွက်ပုံသည် (အလိုဆန္ဒ ပြည့်ဝအောင် ကြိုးစားပုံသည်) အာရုံစူးစိုက်ဖွယ် ကောင်းလှပါပေသည်။

## မင်းကွန်း ဇေတဝန် ဆရာတော်

ထိုအချိန်ကား မင်းကွန်းဇေတဝန်ဆရာတော်ကြီးသည် သထုံမြို့၌သီတင်းသုံးတော် မူသည်မှာ ၁၆-နှစ်ကြာရှိလာသောအခါ ဖြစ်လေသည်။ သတိပဋ္ဌာန် ဟူသော အသံသည်လည်း မော်လမြိုင်ဘက်သို့ ဂယက်ရိုက်လျက် ရှိ၏။

စစ်ကိုင်းမြို့ မြောက်လက် စာရေးလေး ရွာအဝင် ကန်ကြီးကုန်းရွာလျှင် ဖွားရာဇာတိရှိသော မင်းကွန်း ဇေတဝန်ဆရာတော်သည် ရှေးဦးစွာ မင်းကွန်းဂူကလေးချောင် အနောက်တိုက်တွင် သီတင်းသုံးတော်မူ၍ သတိပဋ္ဌာန်လေးပါး အပ္ပမာဒလမ်းစဉ် ဖြစ်သော ဝိပဿနာ တရား ကျင့်ပုံ အားထုတ်ပုံ အလုံးစုံကို သေချာထင်ရှား ပေါ်လွင်သော ဝေါဟာရများဖြင့် ဟောကြားတော်မူ၏။ ထို့နောက် မွေးဖွားတော်မူရာ ကန်ကြီးကုန်းရွာ၌ တဝါမျှ ဝါကပ်တော်မူ၍ သတိပဋ္ဌာန် လမ်းစဉ်တရားကို ဟောကြားတော်မူ၏။ ထိုမှတဖန် မင်းကွန်း အလယ်တောရ ဇေတဝန်ချောင်သို့ ပြန်ကြွ သီတင်းသုံးပြီးလျှင် ထိုမှတဖန် မြို့လှမြို့သို့ ကြွကာ နှစ်ဝါမျှ သီတင်းသုံးတော်မူ၏။ မြို့လှမြို့နှင့် တကွ ထိုထို သက်ဆိုင်ရာ မြို့များသို့ လှည့်လည်တော်မူ၍ သတိပဋ္ဌာန် တရားမိုးကို တဖြိုင်ဖြိုင် ရွာချတော်မူလျက် ဒေသစာရီ လှည့်လည်တော်မူယင်း၊ သက္ကရာဇ် ၁၂၇၇ ခုတွင် သထုံမြို့သို့ ဆိုက်ရောက်တော်မူလာခြင်းဖြစ်၏။

သထုံမြို့တွင် ဇေတဝန်ဟူသော မူလအမည်ဖြင့် ကျောင်းတိုက်ကြီး တည်ကာ တရားအားထုတ်ရာ ဌာနကြီးတခု ဖြစ်ထွန်းစေလျက် ဘုရားဟော ဒေသနာ နည်းကျကျ ဝိပဿနာ ကျင့်စဉ်များကို ဟောကြားတော်မူရာ တရားခွင်သို့ ဝင်ရောက် အားထုတ်ကြသူတို့ သဘာဝဉာဏ် အမြင်မှန်ရလျက် ကျေနပ် ဝမ်းမြောက်ကြလေသည်။ ကိုယ်တိုင်လက်တွေ့ ဝမ်းမြောက်ကြသူ ရှင်လူရဟန်း တို့၏ အဆင့်ဆင့် ပြောပြတိုက်တွန်းခြင်းဖြင့် ပတ်ဝန်းကျင်မြို့ရွာတို့မှ သထုံ ဇေတဝန် ဌာနသို့ လာရောက်အားထုတ်ကြသော ယောဂီများလည်း တစတစ တိုးတက်များပြားလာလေသည်။ သို့ရာတွင် ထိုအခါက သတိပဋ္ဌာန် ကျင့်စဉ်နှင့် ပတ်သက်၍ ဝေဖန်ချက်အမျိုးမျိုးထုတ်ကာ အလုပ်မလုပ်ဘဲ ထင်မြင်ချက်ကို တကယ့်အမြင်မှန်ဟု ယူဆနေကြသူတို့လည်း ပေါ်ပေါက်လျက် ရှိကြလေသည်။

မော်လမြိုင်မြို့ ကျိုက်သံလန် စေတီတော် အနောက်ဖက် စောင်းတန်း ဇရပ်တွင် မင်းကွန်း ဇေတဝန်ဆရာတော်ကြီး၏တပည့် သတိပဋ္ဌာန်တရား အားထုတ်ပြီးသူ ဒေါ်ကုသလ အမည်ရှိသော သီလရှင်ကြီး တစ်ပါး နေထိုင်လျက် လက်လှမ်းမှီရာ တပည့် ဒကာများအား သတိပဋ္ဌာန် လုပ်ငန်းတရား ဟောကြား နေသဖြင့် သတိပဋ္ဌာန်ဟူသော စကားသည် တရားဘက်၌ စိတ်ဝင်စားသူ ရှင်လူ အများတို့၏ နှုတ်ဖျားတွင် စကား လှိုင်းစီးလျက် ရှိလေသည်။

## ဘုရားပွဲ တရားရွာ ထွက်တော်မူခြင်း

"အကြားအမြင် သုတနှင့် ပြည့်စုံသော ပညာရှိပဏ္ဍိတ် တစ်ဦးသည် အကြင်အရပ်၌ ရှိသည်(နေသည်)ဟု ကြားရငြားအံ့၊ အကြား အမြင် သုတကို အလိုရှိသော သူသည် ထိုပညာရှိ ပဏ္ဍိတ် ရှိနေရာ အရပ်သို့ ကြိုးစွာသော လုံ့လဖြင့် အရောက်သွားသင့်၏၊ သွားရမည်။"

(လောကနီတိ)

ဖင်းကျိုက်တောင်စေတီ၊ ကော့ကဒွတ်တောင်စွန်းအနီးဝန်းကျင်ရှိ မြသပိတ်တောင်၊ ဝေပုလ္လတောင်၊ ကေလာသတောင်ရှိ ကျောင်းကန်စေတီ၊ ကျိုက်ထိုမြို့ ကျိုက်ထီးရိုးစေတီ စသော စေတီတော်များ၊ ဒုံဝန်းဘူတာမှ ငါးမိုင်မျှ ဝေးကွာသော ရွှေရောင်ပြတောင်ခြေ၌ သီတင်းသုံးတော်မူသော ဘုန်းတော်ကြီး ဦးအုန်းနိုင်၊ သထုံမြို့ ဇေတဝန်ဆရာတော်ကြီး၊ ဤဖော်ပြပြီးသော စေတီတော်များနှင့် ယောဂီအရှင်မြတ်ကြီးတို့ကား အရှင်သောဘန၏ အာရမ္မဏိက စိတ်ဓာတ်ကို တောင်ဝိုင်းကလေးမှ ထွက်ခွာလာအောင် ဆွဲဆောင်နေသော အဓိပတိအာရုံများ ဖြစ်ကြ၏။

သို့ဖြစ်သည့်အတိုင်း ၁၂၉၃ ခု၊ ဟေမန္တ ဆောင်းရာသီ ပြာသိုလပြည့်ကျော် ၇–ရက်တွင် အရှင်သောဘနသည် မိမိနှင့် စိတ်တူသဘောတူ ကလျာဏမိတ်ဆွေဖြစ်သော ဦးတေဇဝန္တဘွဲ့မည်ရှိသော ရဟန်းတော်တစ်ပါးကို အဖော်ပြုကာ မူလအောင်မြေဖြစ်သော တောင်ဝိုင်းကလေးတိုက်ကျောင်းမှ ထွက်ခွာခဲ့လေသည်။ ထိုအခါကား "စောင်မပါလျှင် အမေ့ရွာကိုတောင် မသွားနှင့်"ဟူသော(ပရိဘာသာ) စကားအရ ခြံစောင်မပါလျှင် ခရီးမသွားနိုင်သော ရာသီဖြစ်လေသည်။

သို့ဖြစ်စေကာမူ ရွှေကျင်ဂိုဏ်းစည်းကမ်းနှင့်အညီ မြို့ရွာအတွင်း ဖိနပ်စီးခြင်းကို ရှောင်ကြဉ်ပြီး ဖြစ်လေအောင် ဖိနပ်ကိုပင် စွန့်ပစ်ထားခဲ့၍ ခြုံစရာ သင်္ကန်းသုံးထည်၊ ဆွမ်းခံစရာ သပိတ်တစ်လုံး၊ ရေစစ်၊ သင်ဓုန်း၊ ခါးပန်းကြိုး၊ အပ်ဟူသော ရဟန်း ပရိက္ခရာများကိုသာ ယူဆောင်တော် မူခဲ့လေသည်။ ခန္ဓာကိုယ်ပေါ်၌ ငွေညာမှူ နည်းပါးခြင်း ပေတကား။

မော်လမြိုင်မြို့မှ ထွက်ခွါစဉ် ကပ္ပိယဒကာတစ်ယောက်ပါလာ၏။ သို့ရာတွင် မုတ္တမဘက်သို့ ရောက်သောအခါ မုတ္တမဘူတာမှ ဖင်းကျိုက်ဘူတာ အထိသာ ရထားလက်မှတ်ယူစေပြီးနောက် ကပ္ပိယကို ပြန်လွှတ်လိုက်သည်။ ခရီးစရိတ်ဟူ၍ တစ်ပြားတစ်ချပ်မျှ အကပ္ပိယပစ္စည်းမပါ။ "ရောက်ရာမှာ ဆွမ်းခံစားမည်"ဟူသော ရည်ရွယ်ချက်ဖြင့် သန့်သန့်ရှင်းရှင်း ထွက်လာခြင်းဖြစ်ပေသည်။

## ဇင်းကျိုက်စခန်း

ဇင်းကျိုက်ဘူတာမှ လှမ်းမျှော်လိုက်သောအခါ တဖွေးဖွေး တသွင်သွင် ရေအယဉ် ကျဆင်းနေသော ရေတံခွန် တောင်နရန်းတစ်ခုကို မြင်နိုင်သည်။ ထိုရေတံခွန်ရှိရာသို့ ဦးတည်ကာ ရဟန်းတော်နှစ်ပါးသည် ကြမ်းတမ်းသော ကျောက်လမ်းပေါ်တွင် ဖိနပ်မပါဘဲ လျှောက်ကြွသွားနေကြ၏။ ရေတံခွန် အနီးသို့ ရောက်သောအခါ ရေတံခွန် အနောက်ဘက်တွင် ကျောင်းကလေးတစ်ဆောင်ကို တွေ့ရ၍ ထိုကျောင်းတွင် (ကျောင်းပိုင်ဘုန်းတော်ကြီး၏ ခွင့်ပြုချက်အရ) ခေတ္တ တည်းခိုကာ အပန်းဖြေတော်မူကြသည်။

နောက်တနေ့ နံနက် ဇင်းကျိုက်ရွာတွင် ရတတ်သမျှ လှည့်လည် ဆွမ်းခံ၍ သင့်လျော်ရာ၌ ဆွမ်းဘုဉ်းပေးကြပြီးလျှင် ခေတ္တနေထိုင်ရန် သင့်လျော်သော ကျောင်းကို စုံစမ်းရှာဖွေကြရာ ရဟန်းမရှိသော ကျောင်းကလေးတစ်ဆောင် ရှိသည်ဟု ကြားရ၏။ သို့ရာတွင် ပိုင်ရှင်မရှိသော ကျောင်းဖြစ်ကြောင်းကို သိရပြန်သဖြင့်၊ ထိုကျောင်းသို့ မသွားကြတော့ဘဲ မူလ တည်းခိုးယင်းကျောင်းသို့ ပြန်လာကြသည်။ ထို့နေ့ကား ပြာသိုလဆုတ် ၈–ရက် ဥပုသ်နေ့ ဖြစ်သဖြင့် ကျောင်းတွင် မွန်ဥပုသ်သည်များ ဥပုသ်စောင့်သုံးနေကြသည်ကို တွေ့ရသည်။

ဥပုသ်သည်အချို့မှာ ကျောင်းအနီးရှိ ကျောက်ပြားများကို စုပုံထပ်ဆင့်ကာ ထိုင်နေရာအတွက် ပြုလုပ်၍ ထိုအပေါ်တွင် ပုတီးစိပ်နေတတ်ကြရာ "မိမိတို့ စောင့်သုံးသော ရှစ်ပါးသီလတွင် ဥစ္စာသယန မဟာသယန မြင့်သောနေရာ မြတ်သောနေရာ၌ မနေရဘူးဆိုသော သီလသိက္ခာပုဒ်နှင့် ကိုက်ညီပါမည်လား၊ မိမိတို့ ထိုင်နေရာ ကျောက်ပြားတို့မှာ အတော်အသင့် မြင့်တတ်နေပါသည်၊ ဥပုသ်သည်များ ထိုင်ကောင်းပါမည်လား"ဟု အရှင်သောဘနအား လျှောက်မေးကြလေသည်။

"တစ်ထောင်ထွာထက်မြင့်တဲ့ ရွှေ့လို့ပြောင်းလို့လဲ ရတဲ့ သစ်သားခုတင် သံခုတင်မျိုးကို ဥစ္စာသယန မြင့်သောအိပ်ရာ နေရာလို့ခေါ်ပါတယ်။ အဲဒီလို ခုတင်ပေါ်မှာ ဥပုသ်သည်များ မအိပ်ကောင်း မနေကောင်းတာပါ၊ ယခုလို မြေစိုက် မြေခုံ ကျောက်ခုံမျိုးတော့ ဥစ္စာသယနလို့ မခေါ်ပါဘူး။ ဒီလို မြေခုံ ကျောက်ခုံ မျိုး ပေါ်မှာတော့ ဥပုသ်သည်များ စိတ်ချလက်ချ နေနိုင် အိပ်နိုင်ပါတယ်၊ သီလ ညှိုးပျက်ခြင်း မရှိပါဘူး"ဟု အဆုံးအဖြတ် ပေးတော်မူသည်။

တည်းခိုယင်းကျောင်းကလေးမှာပင် ထိုနေ့ည ကျိန်းစက်ကြ၍ ၎င်းပြာသို လဆုတ် ၉-ရက်နေ့နံနက်တွင် ဖင်းကျိုက်မှ ထွက်ခွါ၍ တဖြည်းဖြည်း လျှောက် လာကြရာ ကတွန်ရွာ ဘုန်းတော်ကြီးကျောင်း တစ်ကျောင်းသို့ ရောက်ကြပြန်၏။ ကျောင်းထိုင် ဘုန်းတော်ကြီးထံတွင် ခွင့်ပန်လျှောက်ထား၍ တစ်ညစခန်းချကြရ ပြန်၏။ ညအချိန်ရောက်လျှင် ကျောင်းထိုင်ဘုန်းတော်ကြီးက-

"ကိုယ်တော်တို့ ဘာကိစ္စနှင့် ဘယ်ကို ကြွကြွမှာလဲ"ဟု မေးတော်မူ၏။

"တပည့်တော်များ သထုံ၊ ဖင်းကျိုက်၊ ကျိုက်ထို အတွင်းရှိ တန်ခိုးကြီး ဘုရားများကို ဖူးမြော်ရန် ရည်ရွယ်ချက်နှင့် မော်လမြိုင်က ထွက်လာကြ ပါသည် ဘုရား။"

"ဒါဖြင့် ကျိုက်ထီးရိုးအထိ သွားကြမှာကိုး၊ ခြေကျင်သွားကြမယ်ဆိုယင် အတော်သွားကြရလိမ့်မယ်၊ ခရီးကလဲ အတော်ရှည်သား ပါကလား၊ ပင်ပန်း ခံနိုင်ကြ ပါပေရဲ့၊ ဒါနဲ့ နေပါအုံး၊ ဒီလို ခရီးရှည် ခြေကျင်သွားကြရာမှာ အားကိုးစရာ ဆေးဝါးများကော ပါကြရဲ့လား"ဟု ကြောင့်ကြ သံဖြင့် မိန့်တော်မူသည်။

"မပါခဲ့ကြပါဘုရား၊ သပိတ် သင်္ကန်း အသုံးအဆောင်လောက်သာ ပါလာ ကြပါသည် ဘုရား။"

"အို ခရီးဝေး သွားတဲ့အခါ ဆေးဝါး ပါစေရတယ်၊ ဆေးဝါးမပါ လက်ချည်းဆိုယင် တစုံတခု ဖြစ်လာပါက မခက်ပါလား ကိုယ်တော်ရို့၊ အရေးကြီးတဲ့ ပစ္စည်း မပါဘဲကိုး။"

"မှန်ပါ၊ အသက်ကလဲ ငယ်ရွယ်ခိုက်မို့ ဆေးဝါးကို သတိမပြုမိပါ ဘုရား၊ ဆေးဝါးများ အသင့်ရှိလျှင် သနားတော်မူပါဘုရား။"

"အေး ဒို့မှာ နန်းတွင်းလျှာပွတ်ဆေးဆိုတာရှိတယ်၊ တကယ်စွမ်းတဲ့ဆေးပေါ့၊ ဆေးတမယ်ချင်း ဆိုယင် လတ်တလော သေစေနိုင်တဲ့ အဆိပ်တွေဘဲ၊ မြားဆိပ်တို့ မဟာကာတို့ဆိုတဲ့ ဆေးဘက်တွေဟာ အလွန်ထက်မြက်တယ်၊ အဆိပ်ရှိတဲ့ ပစ္စည်းတွေကို စပေါင်းထောင်းထုလိုက်တော့ လူတို့အတွက် ဘေးမဖြစ်တော့ဘဲ ဆေးဖြစ်သွားရတယ်၊ မြန်မာဘုရင်များ ရှိစဉ်အခါက နန်းတွင်းသူ နန်းတွင်းသားများ သုံးစွဲရန် ဖော်စပ်တဲ့ ဆေးမို့ နန်းတွင်း လျှာပွတ်ဆေးလို့ ခေါ်တယ်၊ မင်းသမီး မင်းသား မိဖုရားများဟာ အကောင်းတွေကို စားနေကြတယ် မဟုတ်လား၊ သူတို့သဘောအတိုင်း ကြိုက်ရာ စားပြီးနောက် အစာကြေစေရန် ဒီဆေးကို စားကြရသတဲ့၊ ဒို့ မြန်မာဆေးထဲမှာဖြင့် အတော်အစွမ်းထက်တဲ့ ဆေးလို့ ဆိုရမှာဘဲ၊ ဒီဆေးကို သွားလေရာရာမှာ အမြဲ ဆောင်ထားယင် ကိုယ်တွင်းရောဂါများအတွက် အနှောင့်အယှက် မပေးနိုင်ဘူး၊ အားကိုးရာကြီးတစ်ခုပေါ့။"

ဤသို့ အမိန့်ရှိပြီးလျှင် နန်းတွင်း လျှာပွတ်ဆေးတောင့်များကို လုံလုံလောက်လောက် ပေးသနားတော်မူလိုက်လေသည်။ ဘုန်းတော်ကြီး ပေးသနားတော်မူလိုက်သော နန်းတွင်းလျှာပွတ်ဆေးမှာ ခရီးတလျှောက်လုံး အသုံးဝင်၍ ဆွမ်းခံရာမှ ရတတ်သမျှ စားသောက်ရသော အာဟာရတို့အတွက် ဝမ်းကို ဥပါဒ် မပေး။ "ဝမ်းတစ်လုံး ကောင်းက၊ ခေါင်းမျှမစဲ"ဟူသော ရှေးစကားအရ၊ ရောဂါ

ကင်းသော လာဘ်ကောင်းကြီးတစ်ခုကို ရရှိကြောင်းနှင့် ကတ္တွန်ဘုန်းတော်ကြီး၏ မေတ္တာ စေတနာထားပုံ၊ ထားရှိသည့် အတိုင်း ချီးမြှောက်မစတော်မူလိုက်ပုံ တို့မှာ ယနေ့တိုင် မမေ့နိုင် ဖြစ်ရကြောင်းတို့ကို မဟာစည် ဆရာတော်ကိုယ်တိုင် အမိန့်ရှိသည်ကို ကြားသိရပါသည်။ "ခရီးသွား အကွယ်အကာ ဆေးကောင်း ဝါးကောင်း များကို ဆောင်ယူသွားရသည်"ဟူသော သင်ခန်းစာတစ်ရပ်ကိုလည်း အမှတ်တရ ရရှိပေသည် ဟုလည်း မိန့်တော်မူပါသည်။

ထိုနန်းတွင်း လျှာပွတ်ဆေးတို့မှာ မော်လမြိုင် တောင်ဝိုင်းကလေးသို့ ပြန်ရောက်ပြီးနောက် အတော်ကြာအောင်ပင် သုံးစွဲနေရကြောင်း၊ အလွန် ကျေးဇူးများကြောင်းကိုလည်း အမိန့်ရှိပါသည်။

ကတ္တွန်ဘုန်းတော်ကြီးကျောင်း၌ နံနက်ဆွမ်းကိစ္စ ပြီးစီးသောအခါ၊ ဘုန်းတော်ကြီးအား အရိုအသေ ရှိခိုးဝတ်ပြုကြပြီးလျှင် ခြေကျင်ခရီး ထွက်ခဲ့ကြရာ ထိုနေ့(ပြာသို့လဆုတ် ၁၀ ရက်) ညနေစောင်းအချိန် ရင်းငြိမ်သို့ ရောက်ကြ၏။ ရင်းငြိမ်ကျောင်းတွင် တစ်ည အပန်းဖြေပြီး၍ နံနက်အခါ ဦးတေဇဝန္တ၏ ရှေးလူဖြစ်စဉ်က မိတ်ဆွေဖြစ်ခဲ့ဘူးသော ဒကာတစ်ဦးက ဆွမ်းကပ်လေသည်။ ထိုမှ တဆင့် ထိုဒကာကပင် မော်တော်ကားဖြင့် သထုံသို့ အရောက်ပို့ပေးသဖြင့် ပင်ပန်းနွမ်းနယ်ခြင်းမရှိဘဲ သထုံမြို့သို့ ဆိုက်ရောက်၍ ဦးတေဇဝန္တ၏ အသိ ဘုန်းတော်ကြီးကျောင်းတွင် တည်းခိုကြသည်။ သထုံမြို့တွင် ပြာသိုလဆုတ် ၁၁–ရက်မှ တပို့တွဲလဆန်း ၁–ရက်ထိ၊ (၆)ရက်မျှ ရပ်နားနေတော် မူကြစဉ်၊ ဦးတေဇဝန္တ၏ ဆွေမျိုးတော်စပ်သူတို့က ဆွမ်းကိစ္စကို ဆောင်ရွက်သဖြင့် ဆွမ်းခံခြင်းမှ ရပ်နားခွင့် ရကြသည်။

သထုံမှ ခရီးဆက်တော့မည်ရှိရာ ဖိနပ်မပါသော အရှင်နှစ်ပါးအတွက် သက်သာခွင့်ရစေရန် ဦးတေဇဝန္တ၏ ဆွေမျိုးများကပင် သထုံဘူတာမှ (အရှင်

မြတ်များ ကြွလိုသော) တောင်စွန်းဘူတာအထိ ရထားလက်မှတ် ဆက်ကပ် လှူဒါန်းကြသဖြင့် တောင်စွန်းဘူတာသို့ ရထားဖြင့် ဆိုက်ရောက်တော်မူကြသည်။

တောင်စွန်းဘူတာမှ ခရီးထောက်လှမ်းကာ ကော့ကဒွတ်ကျောင်းကြီးသို့ ကြွကြ၍ ထိုကျောင်းကြီးတွင် (၇)ရက်ကြာမျှ ရပ်နားတော်မူကြသည်။ ထိုသို့ ရပ်နားနေစဉ်အတွင်း သပိတ်ကို အားပြုကာ နေ့စဉ်မပြတ် ဆွမ်းခံခြင်းဖြင့် မျှတ ကြသည်။ ယောဂီအလုပ်နှင့် စပ်လျဉ်းသော ဌာနများကိုလည်း သုတေသန ပြုတော် မူကြသည်။

ကော့ကဒွတ်ကျောင်းကြီးမှ တဖန် နာမည်ထင်ရှားလှသော ကေလာသ တောင် စေတီတော်သို့ ကြွရောက်ဖူးမြော်ပြီးလျှင်၊ ၎င်းတောင်မှ ဆင်း၍ မြသပိတ် တောင်ပေါ်ရှိ ကြောင်တရာမည်သော ကျောင်းသို့ ကြွကြသည်။ ထိုမြသပိတ် တောင်ကား ပင်လယ်တိမ် ကမ်းနဖူးတွင် တည်ရှိခြင်း(ကမ်းနဖူးနှင့် နီးကပ်ခြင်း) ကြောင့် ပင်လယ်မှ တိုက်ခတ်လာသော လေကောင်းလေသန့်ကို ရနိုင်သည်။ သစ်ပင်တောင်ဝှမ်း တောင်နရန်းတို့ကလည်း စိမ်းလန်းစိုပြေ ကျက်သရေရှိလှသည်။ ရပ်ရှစ်မျက်နှာ မျှော်လေရာတို့၌လည်း သာယာကြည်နူးဖွယ်ကောင်းသော အာရုံ များကိုသာ ရှုမြင်ရသည်။ ပတ်ဝန်းကျင်ရှိ ရပ်ရွာတို့မှာ တောင်ယာအလုပ်ဖြင့်သာ အသက်မွေးကြသူတို့၏ နေထိုင်ရာဖြစ်သည့်အတိုင်း စားဝတ်နေထိုင်ရေး အလွန် ရိုးသားကြလေသည်။ ခေတ်မီသည်ဟူသော စကားသံကို လုံးဝ မကြားဘူးကြချေ။

ထိုကျောင်းတွင် သီတင်းသုံးတော်မူသော ဘုန်းတော်ကြီးမှာလည်း ဆင်းရဲ နွမ်းပါးသော ရပ်သူရွာသားတို့၏ လောင်းလှူသော ဆွမ်း, ဟင်းတို့ဖြင့်သာ မျှတ ရောင့်ရဲတော်မူသဖြင့် ကြည်ညိုဖွယ် ကောင်းလှပါသည်။ ရရှိသမျှသော ပစ္စည်း အပေါ်တွင် ကျေနပ်နှစ်သိမ့်တော်မူပြီး ဖြစ်တော်မူသည်။ နေရင်းကျောင်းနှင့် သုံးဆောင်ရသော ပစ္စည်းများအပေါ်၌ အထင်သေးပုံမရ၊ သို့အတွက် ပဲခူးအနီး

အင်းတကော်အရပ်မှ လာရောက်နေထိုင်ကြသော တပည့် ကျောင်းသားကလေးများက တောကြီးခေါင်ခေါင် ဖြစ်သော ကြောင်တရာကျောင်း ထိုကျောင်းမျိုးတွင် မနေချင်ပါဘူး၊ မပျော်ပါဘူးဟု ပြောသံဆိုသံကို ကြားရသောအခါ၊ "ဒီကောင်ကလေးတွေက ဒီလိုကောင်းတဲ့ နေရာမျိုးမှာ မနေချင်ကြဘူး၊ ဆင်းရဲစွာနေ ဆင်းရဲစွာစားရတဲ့ သူတို့ရပ်ရွာမှာသာ နေချင်ကြ ပျော်ကြတယ်"ဟု မြည်တွန်သည်ကို ကြားခဲ့ရသည်။

ထိုကျောင်းသည် တောင်ပေါ်ကျောင်းဖြစ်၍ ကျောက်စီ လှေကားဖြင့် တက်မှ ရောက်နိုင်၏။ ကျောက်လှေကားမှာလည်း သေသေသပ်သပ် စီထားသည် မဟုတ်ရကား အဆင်းအတက် အဆင်မပြေ သတိဖြင့်သာ ဆင်းရတက်ရလေသည်။ ကြမ်းတမ်းသော ကျောက်တုံးကျောက်ချပ်ပေါ်တွင် ဖိနပ်မပါဘဲ နင်းရလှမ်းရသည်မှာ အေးလှသော ရာသီဖြစ်က သာ၍ပင် မသက်မသာ ဖြစ်စေလေသည်။ အရှင်နှစ်ပါးတို့သည် ထိုကျောင်းတွင် (ဆွမ်းခံခြင်းကို အားပြုကာ) နှစ်ညမျှ တည်းခိုကြသည်။

ထိုမှတဖန် ဝေပုလ္လဆရာတော်ကို ဖူးမြော်ရန် ကြောင်တရာကျောင်းမှ ဝေပုလ္လတောင်သို့ ခရီးဆက်ကြပြန်၏။ ဝေပုလ္လတောင်တွင် သီတင်းသုံးသော ဆရာတော်ကို အရက်သယ်မတောင် ဆရာတော်ဟူ၍လည်း ခေါ်ကြသေး၏။ ထိုဆရာတော်ကျောင်း၌ သပ်ရပ်ကျယ်ဝန်းသော ဓမ္မာရုံကြီးတစ်ဆောင် ရှိရာ ထိုဓမ္မာရုံပေါ်တွင် ရွှေပလ္လင်တစ်ခု ခင်းထားလေသည်။ ဆရာတော်သည် ညစဉ် ရွှေပလ္လင်ပေါ်ထိုင်ကာ ဘုရားဟော သုတ္တန် ပါဠိတော်များကို ရွတ်တော်မူသည်။ နတ်များအား တရားဟောသည်ဟု သိရ၏။ လူပရိသတ်များလည်း လာရောက်နာယူကြ၏။ ထိုဝေပုလ္လတောင်နေရာသည် သုဝဏ္ဏဘူမိ သထုံမြို့အစစ်(မြို့ဟောင်း)ဖြစ်ကြောင်း၊ မြို့ဟောင်း တည်နေပုံမှာ တောင်တစ်ပိုင်း မြေပြန့်တစ်ပိုင်းဖြစ်ကြောင်း၊ ယခု

ထင်ရှားရှိနေသော သထုံမြို့မှာ နောက်မှ ပြောင်းရွှေ့တည်သော မြို့သစ်ဖြစ်ကြောင်းဖြင့် ဝေပုလ္လဆရာတော် အမိန့်ရှိသည်ကို သိမှတ်ရပါသည်။

## မေတ္တာစာတ်

ဝေပုလ္လဆရာတော်ကား မေတ္တာတရား ပွားများသဖြင့်၊ မေတ္တာဓာတ်ဟုန် အထုံရတော်မူပြီးဖြစ်သည်ဟု စိတ်ထဲတွင် အသိဓာတ် ဖြစ်လာသည်။ ဧည့်သည် အာဂန္တုများ အပေါ်၌ ကိုယ်တော်ကိုယ်တိုင် အထူးဂရုစိုက်တော်မူသည်။ လေးလေးစားစား စကားနှုတ်ခွန်း ဆက်တော်မူသည်။ မျက်နှာတော် အဆင်းမှာ မေတ္တာရောင် (မေတ္တာသွေး) ဝင်၍ ကြည်လင်စွာနှင့် မြင်ရသူတို့ စိတ်နှလုံးကို အေးမြစေသည်။ ဝိနည်းသိက္ခာပုဒ် အရာ၌လည်း ရွှေကျင်ဂိုဏ်း အလုံဆရာတော်ကြီး၏ တပည့်ရင်း ဖြစ်သည့်အတိုင်း အလွန်လေးစားတော်မူသည်။ ညအချိန် ပရိတ်တရားတော်များကို ဟောကြားတော် မူပြီးသောအခါ၊ တကိုယ်တည်း သီတင်းသုံးရာ ဖြစ်သော ကျောက်စိဂူ အတွင်းသို့ ကြွသွား၍ တပါးတည်း သီးတင်းသုံးတော်မူသည်။ ဆရာတော်၏ တပည့် ရဟန်းတစ်ပါးမှာ မြေတွင်း လိုဏ်ခေါင်း (ကြွက်တွင်းနှင့်တူလှသော) နေရာတွင် ဝင်ရောက် နေထိုင်သည်ကို တွေ့ရသည်။ ထိုလိုဏ်ခေါင်းကား မတ်တပ်ရပ်ဝင်၍မရ၊ ချောင်ချောင်လယ်လယ် မရှိဘဲ ဖြစ်သလို ဝင်ရောက် နေနိုင်သည်မှာ အံ့သြဖွယ် ရှိလှပေသည်။

လူသံတိတ်ဆိတ်ခြင်း၊ တောရိပ် တောင်ရိပ် လွှမ်းခြုံထားခြင်း၊ အသွားအလာ ခဲယဉ်းခြင်း၊ ရပ်ရွာနှင့် ဝေးကွာ၍ ပုထုဇဉ်ကြိုက်သော အာရုံငါးပါး ကင်းမဲ့ခြင်းတို့ကြောင့် ဤသို့သော နေရာမျိုး၌ သာမန်ပုဂ္ဂိုလ်တို့အဖို့ ခေတ္တမျှပင် နေနိုင်လိမ့်မည် မထင်၊ ထိုဝေပုလ္လဆရာတော် အရှင်မြတ်ကြီးတို့ သီတင်းသုံး နေတော်မူကြသည်ကို မြင်တွေ့ရပါလျှင် အဘယ်သူသည် မကြည်ညိုဘဲ ရှိပါအံ့နည်း။

## ဝေပုလ္လတောင်မှ ထွက်ခွာခြင်း

ဝေပုလ္လတောင်ဆရာတော်ကျောင်းတွင် တစ်ညမျှ တည်းခိုနေစဉ် ဆရာတော်ကို ဖူးမြော်ကြည်ညိုခြင်း၊ ဟောတော်မူသော ပရိတ်ပါဠိတော်များကို နာယူခြင်းဖြင့် ညအချိန်ကို ကုန်လွန်စေတော်မူကြ၏။ ထွက်ခွာမည့် နံနက်တွင် ဝေပုလ္လဆရာတော်ကြီးအား ရှိခိုးဝတ်ပြုကြကာ "ကျိုက်ထီးရိုးစေတီတော် အထိ သွားရမည်ဖြစ်၍ ယနေ့ပင် ခရီးဆက်ရပါမည်၊ ခွင့်ပြုတော်မူပါ ဘုရား"ဟု ခွင့်ပန်လျှောက်ထားလျှင် "ကိုယ်တော်တို့ ခြေကျင်သွားကြမှာ ဖြစ်ယင်၊ ရထားလမ်းက မလိုက်ကြနှင့်၊ ကျိုက်ထိုကို ဖြတ်လမ်းက သွားယင် မကြာခင် ရောက်နိုင်တယ်၊ ဖြတ်လမ်းကို တပည့်တော်ကိုယ်တိုင်ပင် လိုက်ပြီးပြလိုက်မည်"ဟု အမိန့်ရှိကာ ကိုယ်တိုင်လိုက်၍ ခပ်ဝေးဝေးရောက်အောင် ရှေ့မှကြွလျက် ယုယုယယ လမ်းညွှန်ပြတော်မူလိုက်သည်။ သိက္ခာဝါငယ်သူ အာဂန္တုတို့ကို သိက္ခာဝါကြီးတော်မူသော ဆရာတော်ကြီးကိုယ်တိုင် ဤမျှ အရေးထားကာ လေးလေးစားစား ပြုမူဆောင်ရွက်တော်မူသည်။ အရှင်သောဘနမှာ ဝေပုလ္လဆရာတော်ကြီး အပေါ်၌ အားနာခြင်း၊ ဝမ်းမြောက်ခြင်း၊ လေးစားကြည်ညိုခြင်းတို့ ဖြစ်ပေါ်ကာ သဘောသုံးမျိုးသည် ဓာတ်ပုံ စွဲထင်သကဲ့သို့ မမေ့နိုင်အောင်ပင် ခိုင်မြဲလျက် ရှိလေသည်။

ဖိနပ်မပါသော အရှင်နှစ်ပါးသည် စပါးရိတ်ပြီးစ ရိုးပြတ်ထွေ ထူထပ်လှသော လယ်ကွင်းလမ်း ခရီးကြမ်းဖြင့် ကျိုက်ထိုမြို့သို့ မှန်း၍ ထွက်လာကြရာ တပို့တွဲလဆန်း ၁၂–ရက်နေ့ နေစွယ်ကျိုးချိန်လောက်တွင် ကျိုက်ထိုမြို့ မေဃဝန်ကျောင်းတိုက်သို့ ဆိုက်ရောက်တော်မူကြသည်။

## မေဃဝန်ကျောင်းတိုက်

ကျော်ဇောထင်ရှားတော်မူသော ဘုန်းတော်ကြီး ဦးသီလသည် ၁၂၆၀–ပြည့်နှစ်ကစ၍ ကျိုက်ထိုမြို့ ဆိတ်ဖူးတောင်၌ ၅–ဝါ သီတင်းသုံးတော်မူဘူးသည်။

ကျိုက်ထိုတွင် ဘုန်းတော်ကြီးဦးသီလ သီတင်းသုံးဘူးသော ၁–တိုက်တောင်ကျောင်း၊ ၂–ကင်ပွန်းတောင်ကျောင်း၊ ၃–သာယာကုန်းကျောင်း၊ ၄–ဆိတ်ဖူးတောင်ကျောင်း၊ ၅–ကော့စံနိုင်ကျောင်း၊ ၆–မယ်ဇယ်ကျောင်းတိုက် ဟူ၍ ကျောင်းတိုက် (၆)တိုက် ရှိလေသည်။ ဘုန်းတော်ကြီး ဦးသီလသည် အခြားသို့ကြွ၍ ပြန်ရောက်တော်မူတိုင်း တောရဂိုဏ်းများ ဖြစ်သော အဆိုပါ ကျောင်းတိုက်တို့၌ တညစီကျိန်းစက်တော်မူသည်။ ထိုအခါက မေဃဝန်ကျောင်းတိုက် မရှိသေး၊ ၁၂၆၀–ပြည့်နှစ်နောက်မှ မေဃဝန်ကျောင်းတိုက် တည်သည်။ တောရဂိုဏ်းဝင် ဖြစ်၍ နှစ်စဉ် ဝိနည်းစာပြန်ပွဲ ကျင်းပ၍ ဝိနည်းပြန်ဆိုကြရသည်။ အရှင်သောဘနတို့ ရောက်သောအခါ ဝိနည်းစာပြန်ပွဲ ကျင်းပနေဆဲဖြစ်လေသည်။ ဝိနည်းစာပြန်ပွဲသို့ ကြွလာသော မထေရ်ကြီးများအား ဖူးမြော်ပူဇော်ရခြင်း၊ ဝိနည်းတရားတော်ကို နာယူခြင်းဖြင့် မေဃဝန်ကျောင်းတိုက်တွင် နှစ်ညမျှ ရပ်နားနေကြသည်။

## ကျိုက်ထီးရိုးတောင်သို့ တက်ခြင်း

၁၂၉၃–ခု တပို့တွဲလဆန်း ၁၂–ရက်နေ့ မေဃဝန် ကျောင်းတိုက်သို့ ရောက်၍ ၎င်းလဆန်း ၁၃–ရက်ထိ (၂)ရက်နေပြီး လဆန်း ၁၄–ရက်နေ့ ကျိုက်ထီးရိုးတောင်သို့ ထွက်ခွာရန် စီစဉ်ထားသည့်အတိုင်း မေဃဝန်ကျောင်းတိုက်တွင် နေ့ဆွမ်းစားကြပြီးနောက် ထိုကျောင်းတိုက်မှ ထွက်ခွာခဲ့ကြသည်။ ကျိုက်ထိုမှ ကျိုက်ထီးရိုး တောင်ခြေရှိ ကင်ပွန်းစခန်း (ခုနစ်မိုင်ဝေးသည်)သို့ ခြေကျင်ကြွကြသည်တွင် ကင်ပွန်းစခန်းသို့ ခရီးသည်ပို့နေသော မော်တော်ဘတ်စ်မောင်းသူ ကားသမားက အရှင်နှစ်ပါးကို မြင်၍ ရုတ်တရက် ကားကိုရပ်ကာ–

"အရှင်ဘုရားများ ဘယ်ကြွကြမလဲ ဘုရား"ဟု မေးလျှောက်၏။

အရှင်သောဘနက " ကင်ပွန်းစခန်းက နေပြီး ကျိုက်ထီးရိုး ဘုရားဖူး သွားမလို့"ဟု အမိန့်ရှိရာ –

"ဒါဖြင့် အဆင်သင့်ဘဲ၊ တပည့်တော်ကားနှင့်ဘဲ လိုက်ကြပါဘုရား"

"ဒို့ကို ခေါ်တင်လို့ မင်းတို့ကားခ ပိုက်ဆံရမှာ မဟုတ်ဘူး၊ ဒို့မှာ ကားခ ပေးစရာ မပါဘူး"

"အရှင်ဘုရားများကို မြင်ကတဲက ကားခ မပါဘူးဆိုတာ ရိပ်မိပြီးဖြစ်ပါ တယ်၊ ကုသိုလ်ရအောင်လို့ ဆိုပြီး ပင့်တာပါ ကြွတာကြွပါဘုရား"

ဟု ပင့်ခေါ်သဖြင့် လိုက်ပါသွားကြရာ ထိုနေ့ ညနေပိုင်း၌ပင် ကင်ပွန်းစခန်းသို့ ရောက်ကြသည်။ ကင်ပွန်းစခန်းတွင် ခေတ္တမျှ နားနေကြပြီးနောက် ခရီးဆက် ကြပြန်သည်။

ကျိုက်ထီးရိုး တက်လမ်းကား ရောက်ဘူးသူတိုင်း သိပြီး ဖြစ်သည့် အလျောက် အကျယ်ဖော်ပြရန်မလို၊ ခရီးလမ်းမှာ သာယာချောမွေ့ခြင်းမရှိ၊ တောင်ဆင်းတောင်တက်လည်း များလှ၏။ ရိုးပြတ်လယ်ကွင်းကို ဖြတ်သွား ရသည်ထက်ပင် ခက်တရော်လှ၏။ ဖိနပ်ပါသူများပင် မသက်သာ။ ဟိုစခန်း သည်စခန်း အထောက်ထောက်ရပ်နားပြီးမှ သွားနိုင်ကြ၏။ ဖိနပ် မပါခဲ့သော် မည်သို့ ရှိမည်နည်း။ ရွှေ ငွေ စသော ရတနာသတ္တုကို ရှာဖွေသူသည် တောနက် တောင်စွယ်တွင် အကယ်သတ္တု ရှိသည်ဟု ယုံကြည် စိတ်ချရသော နေရာကို သေအချာ သိရပါလျှင် ထိုနေရာသို့ တန်းမှန်း၍ မျှော်လင့်ချက်ကြီးစွာနှင့် သွား နေဆဲအခါ၊ အခက်အခဲ အမျိုးမျိုးကို တွေ့ရစေကာမူ မျှော်လင့်ချက်က ထိန်းထား သဖြင့် စိတ်အားမယုတ်၊ ဒုက္ခဟူ၍ မရေတွက်ဘဲ ရှေ့သို့သာ အားခဲ၍ တက် သကဲ့သို့ပင်၊ မြတ်စွာဘုရား ဆံတော်ဓာတ် ကိန်းဝပ်ရာ ကျိုက်ထီးရိုး စေတီတော် မြတ်ကို အာရုံတန်း မှန်း၍၊ အလွန်မြင့်မြတ်သော ကုသိုလ်ရတနာကို သေအချာ ရရှိတော့မည်ဟူသော မျှော်မှန်းချက်ဖြင့် ခက်ခဲလှသော တောင်တက်ခရီးကို တက်လှမ်းနေကြသော အရှင်နှစ်ပါးတို့မှာ လမ်းခရီးကြမ်းတမ်းခြင်းကို အမှုမထား ဘဲ တက်မြဲတက်တော်မူကြသည်။

လမ်းခုလတ်သို့ အရောက်တွင် ဆောင်းဥတု ဖြစ်ပါလျက် ရတ်တရက် တိမ်ဆင်ကာ လေမိုး ပြင်းထန်စွာ ကျရောက်လာပြန်သည်။ တောတောင် ထူထပ်ရာ တောင်ငွေ့၏ အရှိန်အဝါကြောင့် မိုးရွာခြင်းမှာ မိုးရာသီနှင့် မခြား အားကောင်းလျက် ရှိလေရာ၊ အရှင်နှစ်ပါးတို့မှာ ခရီးမဆက်နိုင်တော့ဘဲ ဇရပ်တစ်ခုတွင် မိုးအခြေအနေကို အကဲခတ် စောင့်စားယင်း ရပ်နားနေတော်မူကြရသည်။ တပို့တွဲ လဆန်း ၁၄–ရက်နေ့ည လ အားကောင်းချိန်တွင် ထိန်ထိန်သာနေစေကာမူ တောအုပ်အတွင်း၌မူ မှောင်ရိပ်ကွက်ကျား ထင်၍ ကော်ဇော အနက်ပြောက်ကြီးကို ခင်းထားသကဲ့သို့ ရှိလေရာ၊ ယခု မိုးရွာလိုက်သော အခါတွင်မူ လရောင်ကွယ်ပျောက်၍ မှောင်အတိရောက်လျက် ရှိလေသည်။

တစတစ မိုးအားနည်းသောအခါကျမှ လရောင် မှုန်မွှားမွှားကို အားပြုကာ ခရီးဆက်ကြပြန်သည်။ ဆောင်းရာသီ၏ သတ္တိသည် မိုးရွာပြီးနောက် သာ၍ပင် အအေးဓာတ် လွန်လဲလာစေတတ်သည့်အတိုင်း အချမ်းဓာတ်လည်း ပို၍လာခဲ့၏။ တော်တောင်အတွင်း မြောက်လေပြင်းကလည်း ဆော်သွင်းတိုက်ခတ် လာပြန်၏။ ကျိုက်ထီးရိုးတောင်မှာ ပကတိ မြေပြင်ထက် လေတိုက်ခတ်ခြင်းများရကား၊ တောင်တဆင့်ထက် တဆင့် မြင့်လာလေ အအေးဓာတ်နှင့်ရောသော လေပြင်းက အားကြီးလေဖြစ်၏။ ခြုံစောင်လည်းဖပါ၊ ဖိနပ်လည်း နတ္ထိ၊ အအေးဓာတ်ကလည်း ဖိ၊ တောအုပ်အတိဖြစ်နေသော တောင်တက်ခရီးတွင် ထက်အောက် ဝန်းကျင်တို့မှ အကွယ်အကာ မရှိဘဲ တက်လှမ်းနေကြရသော အရှင်နှစ်ပါးတို့မှာ (ဘုရားကို မျှော်လင့်ခြင်း၊ အာရုံပြုခြင်းမှ တပါး) သက်သာစေနိုင်သော အကွယ်ဟူ၍ တကွက်မျှ မရှိတော့ပေ။ ဤနည်းအတိုင်း ခဲယဉ်းငြိုငြင်စွာ တက်ရသဖြင့် ထိုနေ့ည ၁၂–နာရီ သန်းခေါင်ယံ အချိန်လောက်မှ ကျိုက်ထီးရိုးစေတီ ရင်ပြင်သို့ ဆိုက်ရောက်တော်မူကြသည်။

## ကျိုက်ထီးရိုး ကုန်းတော်ပေါ်၌ ဆွမ်းခံရပုံ

တောင်ထိပ် ကျိုက်ထီးရိုးစေတီတော် ရင်ပြင်သို့ ရောက်သောအခါ၊ ကျိုက်ထီးရိုး ဆံတော်ရှင်ကို ဖူးမြော်ကန်တော့ကြပြီးလျှင် ထိုနေရာကို ရှာကြရာ ကုန်းတော်ရင်ပြင်တစ်ခုလုံး ဘုရားဖူးပရိသတ်တို့ဖြင့် ပြည့်ကျပ်လျက် ရှိ၏။ ရဟန်းတော်များအတွက် သီးခြားနေရာဖြစ်သော သိမ် တန်ဆောင်းကြီးထဲတွင် သမံတလင်းပေါ်၌ ဖြစ်သလိုပင် ဘုရားကို အာရုံပြုယင်း နေကြရသည်။ ခင်းစရာ ခြုံစရာမရှိသည့်အထဲတွင် လေအေးက အစဉ်မပြတ် တိုက်ခတ်သေး၏။ အသက် အရွယ် တက်ဆဲအချိန် ကိုယ်ငွေ့အရှိန် ကောင်းခိုက် ဖြစ်၍သာ ခံနိုင်ရည်ရှိကြတော့သည်။

ခရီးပန်း နွမ်းနယ်ခြင်းကြောင့် ခေတ္တမျှ ကျိန်းစက် (အိပ်ပျော်) သွားရာ ကျိုက်ထီးရိုးတောင်နေ ဘုန်းတော်ကြီး၏ ဆွမ်းခံရန် အချက်ပေးခေါင်းလောင်းသံကြောင့် ရုတ်တရက် နိုးလာရသည်။ "ထကြ၊ ထကြ၊ အရုဏ်တက်ပြီ၊ ဆွမ်းခံဖို့ အချိန်ရောက်ပြီ"ဟု ကြွေးကြော်သော အသံကိုလည်း ကြားရသည်။ နာရီကို ကြည့်လိုက်သောအခါ နာရီပြန် ၂-ချက်သာ ရှိသေးကြောင်း သိရသည်။ ပတ်ဝန်းကျင် ဘုရားဖူးများကို ကြည့်လိုက်သောအခါလည်း ဆွမ်းလောင်းရန် အသင့်ပြင်ဆင်ထားပြီး ဖြစ်ပုံကိုလည်း မြင်ရသည်။ သဒ္ဓါလုံ့လ ပြည့်စုံကြသော ပုဂ္ဂိုလ်တွေပါတကား၊ ဘုရားဖူး ဘုန်းတော်ကြီးများလည်း ဆွမ်းခံတော်မူကြရန် သင်္ကန်းရုံကာ ပြင်ဆင်နေကြသည်ကိုလည်း တွေ့ရသည်။

သို့ဖြစ်၍ မတတ်သာတော့တဲ "နောက်မှ ဝိနည်းကံအရ ပြုလုပ်ရတော့မည်" ဟု အကြံရကာ အရှင်နှစ်ပါးလည်း သင်္ကန်းရုံ၍ အများနည်းတူ ဆွမ်းခံတော်မူကြရတော့သည်။ ဘုရားဖူးပရိသတ်တို့၏ စေတနာ သဒ္ဓါတရား ထက်သန်ခြင်းကြောင့် ဆွမ်းဟင်းရော၊ ဆွမ်းပါ အလုံအလောက် ရရှိလေသည်။ ဆွမ်းခံပြီးသောအခါ ဒကာတစ်ယောက်ကို ခေါ်၍ ဤသို့ အမိန့်ရှိရသည်။

"ဒကာ၊ ယခု အရုဏ်မတက်သေးဘူး၊ အစောကြီးရှိသေးတယ်၊ အရုဏ် တက်မှ စားရမယ့်ဆွမ်းတွေဘဲ၊ ဒီဆွမ်းနှင့် ဟင်းတွေကို ဒကာ့လက်သို့ စွန့်လိုက်မယ် ဒကာ့သဘောအတိုင်း စားလိုက စားနိုင်တယ်၊ ဒကာ့ ပစ္စည်း ဘဲမှတ်၊ ဦးပဥ္စင်းတို့တော့ ဒီအချိန်မှာ စားလို့ မဖြစ်သေးဘူး"ဟု အမိန့် ရှိပြီး စွန့်လိုက်ရသည်။

ဒကာလည်း အရုဏ် မတက်သေးကြောင်းကိုလည်း သိ၊ အရှင်နှစ်ပါး အတွက် အခြား ဘုန်းပေးစရာ ဆွမ်းမရှိကြောင်းကိုလည်း ရိပ်မိသဖြင့် စွန့်ကြဲ လိုက်သော ဆွမ်းများကို လက်ခံထားပြီးလျှင် အရုဏ်တက်သည်နှင့် တပြိုင်နက် လက်ခံထားသော ဆွမ်းများကို ဆက်ကပ်လေသည်။ ဤနည်းအတိုင်းပင် တပို့တွဲ လဆုတ် ၂-ရက်နေ့ နံနက်အထိ ကျိုက်ထီးရိုးရင်ပြင်၌ နေထိုင်ကာ ဆံတော်ရှင် စေတီမြတ်အား ပင်ပန်းကျိုးနပ်အောင် ဆည်းကပ် ဖူးမြော်ကြပြီးလျှင် နံနက်ဆွမ်း ကိစ္စအပြီးတွင် ပြန်ဆင်းခဲ့ကြသည်။

အချိန်ကောင်းတုန်းမှာပင် ကင်ပွန်းစခန်းသို့ ရောက်၍ စခန်းအနီးရှိ ဘုန်းတော်ကြီးကျောင်း တစ်ကျောင်းတွင် ဝင်ရောက်နားနေကြယင်း ကျောင်းထိုင် ဘုန်းတော်ကြီးနှင့် အလ္လာပ သလ္လာပ ပြောဆိုကြလေသည်။

အရှင်သောဘနက ဘုန်းတော်ကြီးအား -

"အရှင်ဘုရား၊ မည်သည့် ကရားများကို ပွားများအားထုတ်တော်မူပါသလဲ ဘုရား"ဟု လျှောက်လျှင် -

"တရားရယ်လို့တော့ ထွေထွေထူးထူး အားမထုတ်ပါဘူး၊ ထွက်ရပ်လမ်း အတွက် အင်္ဂုရတ်ကိုဘဲ ထိုးနေရတယ်"ဟု ရိုးရိုးပင် ပြန်ကြားသည်။

"အင်္ဂုရတ်ထိုးနေတာ ဘယ်လောက်ကြာပါပြီလဲဘုရား"ဟု လျှောက်ပြန်၏။

"နှစ်ပေါင်းအစိတ်လောက် ကြာသွားပြီ ကိုယ်တော်"

"နှစ်ပေါင်း အစိတ်လောက်ဆိုတော့ ဓာတ်လုံးအောင်မြင်ဖို့ အခြေအနေ ရှိနေပါပြီလားဘုရား။"

"ကိုယ်တော်ရေ၊ ဓာတ်လုံးအောင်ခါနီးမှ ဓာတ်လုံးထွက်သွားလို့ ယူကျုံးမရဖြစ်နေပေါ့၊ ပင်ပန်းရကျိုးမနပ်ဘဲ အမောသာ အဖတ်တင် နေတော့တယ်၊ နောက်လဲ ဆက်မထိုးတော့ပါဘူး"ဟု အားလျှော့သံနှင့် မိန့်သံကို ကြားရသောအခါ "အင်း၊ နှစ်ပေါင်းအစိတ်ဆိုတဲ့ အချိန်ဟာ နဲတာမဟုတ်ဘူး၊ ယောဂီဆိုင်ရာ တရားတစ်ခုခုကို စွဲစွဲမြဲမြဲအားထုတ်မယ်ဆိုယင် အကျိုးအင်မတန်များမှာဘဲ၊ ခုတော့ တရားလဲမရ ဓာတ်လုံးလဲဆုံး ဖြစ်နေရရှာပြီ"ဟု အရှင်သောဘနစိတ်တွင် ဆင်ခြင်မိလေသည်။ ပရိယာယ်မပါ ရိုးသားစွာ မိန့်ဆိုသော ဘုန်းတော်ကြီးအား လေးစားကြည်ညိုခြင်း မယုတ်လျော့ခဲ့ပေ။

## ထိုကျောင်းမှ ထွက်ခွာခြင်း

"တပည့်တော်များ ယနေ့ဘဲ ခရီးဆက်ဖို့ ရှိနေပါသည် ဘုရား။"

"ဒီကနေပြီး ဘယ်ကို ကြွကြမှာလဲ။"

"ကော့ကဒွတ် တောင်စွန်းဘက်ကို သွားဖို့ စိစဉ်ထားပါသည် ဘုရား။"

"ရထားနှင့်လား ခြေကျင်လား။"

"ခြေကျင်ပါဘုရား"။

"အင်း၊ တော်တော် သွားရအုံးမှာဘဲ၊ ခရီးကလဲ အဝေးသား။"

"တပည့်တော်များလဲ ဒီနေရာ ဒီနယ်ကို တစ်ခါမှ မရောက်ဘူးကြလို့ အရပ်ဒေသလဲ သိရအောင် ဘုရားလဲ ဖူးရအောင်ဆိုပြီး ခြေကျင်ထွက်လာခဲ့ကြပါသည် ဘုရား။"

"သွားရမယ့်လမ်းက နဲနဲကြမ်းတယ်၊ သွားလမ်းသိအောင်တော့ ပြလိုက်ရတာပေါ့၊ ကျိုက်ထိုဘက်ကို မသွားကြနှင့်၊ ဖြတ်လမ်းရှိတယ်။"

ဤသို့ အမိန့်ရှိပြီးလျှင် သွားရမည့် ခရီးစဉ်ကို ညွှန်ကြားတော်မူလိုက်သည်။

ညွှန်ကြားလိုက်တော့ ခရီးစဉ်အတိုင်း ထိုကျောင်းမှ ထွက်ခွာ၍ ကော့ကရိတ် ဘက်သို့ မျှော်မှန်းကာ လာကြရာ၊ ညနေစောင်းတွင် ကရင်ရွာ ကရင်ကျောင်းသို့ ဆိုက်ရောက်ကြသည်။ ထိုကျောင်းတွင် အများတည်းခိုရန် အလယ်ကျောင်းဆောင် ကြီးနှင့် ကျောင်းထိုင်ဘုန်းကြီး သီတင်းသုံးသော ကျောင်းကလေး တကျောင်း ရှိရာ၊ ကျောင်းကြီးမှာ အပြင်ပတ်လည်၌သာ ထရံရှိ၍ အတွင်း၌ကား ခန်းဆီး အကန့်များ မရှိ၊ ဟာလာ ဟင်းလင်း ကျောင်းပေါ်၌သာ ရှင်လူရဟန်း မခွဲဘဲ တည်းခိုကြရလေသည်။

ကရင်လူမျိုး ကျောင်းဘုန်းကြီးထံ ဝင်ရောက် ကန်တော့ကြသောအခါ အလယ်ကျောင်းဆောင်ကြီးတွင် သီတင်းသုံးကြရန် နေရာချထားသဖြင့် အခြား ကျိုက်ထီးရိုးပြန် ဧည့်သည်များနှင့်အတူ ကြမ်းတပြေးတည်း တည်းခိုကြရသည်။ ယောကျ်ား မိန်းမ ဧည့်သည် ပေါင်းစုံတို့ ဆုံမိကြသောနေရာ၊ တမိုးတရံတည်း ဖြစ်နေရကား အာဂန္တု အရှင်နှစ်ပါးတို့မှာ မိုးလင်းသည့် တိုင်အောင် ထိုင်လျက်သာ ကျိန်းစက်တော်မူကြသည်။

နံနက် မိုးလင်းလျှင် ကျောင်းထိုင်ဘုန်းကြီး ကြွလာ၍ "အာဂန္တု ကိုယ်တော် များအတွက် ဆွမ်းအုပ် စီစဉ်ထားကြောင်း၊ ဘုန်းကြီးကိုယ်တိုင်မှာ ဆွမ်းစား ပင့်ထား၍ ရွာထဲသို့ ကြွစရာရှိနေကြောင်းနှင့် ကပ္ပိယက ကြည့်ရှုဆွမ်းကပ်မည့် အကြောင်း" အမိန့်ရှိပြီးလျှင် ရွာထဲသို့ ကြွသွားလေသည်။

နံနက် ၆ နာရီလောက် ရောက်လျှင် ရွာထဲမှ ဆွမ်းအုပ်များ အသီးသီး ပို့လာကြသည်။ ပို့လာကြသော ဆွမ်းအုပ်များမှ ဟင်းဖလှယ်(ထည့်)ရန် အိုးကြီး နှစ်လုံးသာ ထားရှိသည်။ အကြောင်းမှာ ဆွမ်းအုပ် အားလုံးတွင် ငါးပိရည်တစ်ခွက် တာတပေါဟင်းတစ်ခွက် ဟူ၍ နှစ်ခွက်စီသာ ပါလာလေသည်။ ငါးပိရည် မှန်သမျှကို အိုးတစ်လုံးတွင် ထည့်၍ တာတပေါဟင်း မှန်သမျှကို အိုးတစ်လုံးတွင်

ထည့်ရသဖြင့် အိုးခွက် ပန်းကန် သက်သာလှသည်။ ဆွမ်းကလည်း အရောင် ညိုတိုတိုနှင့် ကြမ်းလှသည်။ ဆွမ်းအုပ်ချင်းမတူ ခြားနားသော်လည်း ဟင်းနှင့် ဆွမ်းမှာ တိုင်ပင်ညှိနှိုင်း၍ ချက်ထားသကဲ့သို့ ခြားနားခြင်း မရှိကြချေ။

ကပ္ပိယသည် ကျောင်းဘုန်းကြီးက အမိန့်ပေးထားခဲ့သည့်အတိုင်း အိုးကြီး နှစ်လုံးမှ ဟင်းနှစ်ခွက် ခပ်ယူကား ထိုဟင်းနှစ်ခွက်ဖြင့် ဆွမ်းကပ်လေသည်။ ခရီးပန်းလာ၍ ဆာဆာနှင့် မည်သည့်အစာမဆို စားနိုင်မည်ဟု ထင်ထားကြသော အရှင်နှစ်ပါးတို့မှာ ငါးပိရည်နှင့် တာတပေါဟင်းတို့မှ ထွက်လာသော ဟင်းနံ့ တို့ကြောင့် ပျို့မတက်အောင် အတော်သတိပြုနေကြရသည်။ ဆွမ်းပွဲကို ကြည့်ကာ ဤရပ်ရွာနေ လူများနှင့် ကျောင်းဘုန်းကြီးတို့ကို သနားလည်း သနားမိ၏။ ချီးမွမ်းလည်း ချီးမွမ်းမိ၏။ တော်သင့်ရုံ ကြမ်းသော ဆွမ်းနှင့် တော်သင့်ရုံ အနံ့ပြင်းသော ဟင်းဖြစ်ပါမူ မြိန်ရှက်အောင် ဆင်ခြင်ပြီး ဝင်အောင်စားနိုင်ပေမည်။ တခါမျှ မတွေ့မကြုံဘူးသော ဆွမ်းပွဲမျိုးနှင့် ရင်ဆိုင် နေကြရလေပြီ။

ခရီးကလည်း ဆက်စရာရှိ ဝမ်းကလဲဟာ တနည်းနည်းနှင့် စားမှဖြစ်မည်၊ အစာမရှိက မသွားနိုင်၊ သို့ဖြစ်၍ ကပ္ပိယကို အနီးသို့ ခေါ်၍ –

"ကပ္ပိယကြီး၊ ဆီကလေး ဆားကလေးများ မရှိဘူးလား"ဟု မေးရတော့ သည်။ ဆီနှင့်ဆား ရှိကြောင်း သိရသဖြင့် ကပ်စေပြီးလျှင် ဆီဆမ်းဆားဖျူးဖြင့် ဝမ်းမီးလောင်ခြင်းမှ သက်သာစေရန် အတင်းမျိုကြရသည်။

သိဒ္ဓတ်မင်းသား တောထွက်လာခါစ ပဏ္ဍဝတောင်ခြေတွင် ရသမျှသော ဆွမ်းကိုစားတော့မည်ဟု ကြည့်လိုက်ရာ ရင်မဆိုင်ဘူးသော အစာအာဟာရ အတွက် ပျို့အန်ထွက်သည်ဟု ဆိုသည်မှာ ယုတ္တိရှိလှပေသည်။ "ငါတို့ လူသာမန် စား ဟိုမှာ ဘုရားအလောင်း သာကီဝင် မင်းသား ငါတို့ လူသာမန်ပင် အနံ့ မခံနိုင် သဖြင့် ပျို့အန်ချင်သေးသည်။ သာကီဝင် ဘုရင်တပါးဖြစ်သော ဘုရား အလောင်းမှာကား အဘယ်ဆိုဖွယ် ရှိတော့အံ့နည်း"ဟု ဆင်ခြင်တော်မူမိလေသည်။

ခရီးဆက်နိုင်ရုံမျှ ဖြစ်သလို ဘုဉ်းပေးကြပြီးလျှင် ဘုန်းတော်ကြီးကို ခွင့်ပန်လျှောက်ထား၍ ထိုကျောင်းမှ ထွက်ခွာလာကြပြန်သည်။ လမ်းကလည်း ကြမ်းချမ်းကလည်းချမ်း ဝမ်းကလည်း မတောင့် စခန်းကလည်း မဖြောင့် ဆိုရလောက်အောင် အခက်အခဲ အမျိုးမျိုးကို သည်းခံပြီး မှန်မှန်ကြီး လျှောက်လာခဲ့ကြရာ ကရင်ရွာ ကရင်ကျောင်းတစ်ကျောင်းသို့ ရောက်ကြပြန်လျှင် ယခင်နည်းအတိုင်း တည်းခို၍ ယခင်ကျောင်းနှင့်မခြား ဆီနှင့်ဆားကိုသာ အားထားပြီး စားသောက်ကြရပြန်သည်။ ထိုရွာ ထိုကျောင်းတို့၌ စားသောက် သုံးဆောင်ကြရသော အမာခံ အာဟာရမှာ ထမင်းနှင့် ငါးပိရည်၊ တာတပေါဟင်း တို့ကိုသာ တွေ့ရသည်။ အစားအသောက်ဘက်တွက် ထူးခြားခြင်းမရှိ၊ တစ်ညီတည်း တစ်တန်းတည်း ဖြစ်နေသည်မှာ အံ့သြစရာပင် ဖြစ်တော့သည်။ အစားအသောက်ကြောင့် ပရိယေသန ဒုက္ခမများ မာန်တက်ဖွယ်လည်း မရှိ၊ ရသမျှ ရှိသမျှနှင့် တင်းတိမ် ရောင့်ရဲနိုင်ကြပေသည်။ တောမိမင်းသား တောထွက်စဉ်က ထမင်းမရှိ၊ ဆီဆားမပါ၊ ကပျည်းရွက် ရေလုံပြုတ်ကိုသာ စားသောက်နိုင်ပုံနှင့် စာသော် ငါးပိရည်၊ တာတပေါဟင်းတို့က အပုံကြီးသာပေ (ကောင်းပေ) သေး၏ဟု နှလုံးသွင်းဖွယ်ပင်ဖြစ်တော့သည်။

## ကော့ကဒွတ်သို့ ပြန်ရောက်ခြင်း

ထိုကရင် ကျောင်းမှ ထွက်လာကြပြီးနောက် ကော့ကဒွတ်သို့ ရောက်ကြပြန်သည်။ ကော့ကဒွတ် ကျောင်းတွင် တပို့တွဲ လဆုတ် ၄–ရက်မှ ၎င်းလဆုတ် ၉–ရက်ထိ (၆)ရက်မျှ ရပ်နားနေကြသည်။ (ထိုကော့ကဒွတ်ကျောင်းကြီးကား ဘုန်းတော်ကြီး ဦးသီလ သီတင်းသုံးတော်မူဘူးသော ကျောင်းကြီးတည်း။)ထိုသို့ ရပ်နားနေစဉ်အတွင်း ဆွမ်းခံခြင်းဖြင့်သာ မျှတတော်မူကြသည်။ ခရီးကြမ်း လျှောက်ခဲ့ရခြင်း အနေအစား မမှန်(ချို့တဲ့)ခြင်းတို့ကြောင့် နွမ်းနယ်ခြင်း ပင်ပန်း

ခြင်းတို့ ဖြစ်နေရာ ၎င်းတို့မှ သက်သာစေရန် ဤသို့ရပ်နားနေခြင်း ဖြစ်လေသည်။

အစားအသောက်မမှန် ရရာ အစာအာဟာရများကို စားသောက်ရသော်လည်း ကတွန်ဘုန်းတော်ကြီး ပေးလိုက်သော နန်းတွင်း လျှာပွတ်ဆေး၏ စွမ်းရည်သတ္တိကြောင့် တစုံတရာ နေမကောင်း ထိုင်မသာမရှိ ပကတိ ကျန်းမာလျက်ပင် ရှိကြသည်။

ခြောက်ရက်ပြည့်လျှင် ဦးတေဇဝန္တ၏ ဒကာများက မီးရထားလက်မှတ်များ လှူလိုက်ကြပြန်သဖြင့် အရှင်သောဘနက ဒုံဝန်းဘူတာထိ ဦးတေဇဝန္တက သထုံဘူတာထိ လက်မှတ်များဖြင့် တောင်စွန်းဘူတာမှ မီးရထားစီးကာ ခရီးဆက်ကြပြန်သည်။

## ဘုန်းကြီးဦးအုန်းခိုင်ကျောင်း

ဒုံဝန်းဘူတာသို့ ရောက်လျှင် အရှင်သောဘန တစ်ပါးတည်းသာ ဆင်းနေရစ်ခဲ့၍ ဘုန်းကြီး ဦးအုန်းခိုင် ကျောင်းရှိရာကို စုံစမ်းယင်း ဘူတာမှ တဖြည်းဖြည်း လမ်းလျှောက်လာသည်။ ဘုန်းကြီး ဦးအုန်းခိုင် ကျောင်းမှာ ဒုံဝန်းဘူတာမှ (၅)မိုင်သာသာ ဝေးကွာသော ရွှေရောင်ပြတောင်ခြေတွင် တည်ရှိလေသည်။ ခရီးမှာ ကျိုက်ထီးရိုး တက်လမ်းလောက် မကြမ်း၊ ဝေပုလ္လတောင်မှ ကျိုက်ထိုသို့ သွားသော ဖြတ်လမ်းလောက်လည်း မဆိုးလှ၊ အနည်းငယ် ခဲယဉ်းသည်မှာ လမ်းဆုံ လမ်းခွဲ လမ်းမြွာတွေ များသဖြင့် ဟိုဘက် လိုက်ရနိုးနိုး သည်ဘက် သွားရနိုးနိုးနှင့် ဝိစိကိစ္ဆာ သဘောမျိုး ဖြစ်ရသည်။

အဆင့်ဆင့် မေးမြန်းခြင်းဖြင့် ညနေချမ်း မှောင်ရီရီ ညီအစ်ကို မသိတသိ အချိန်လောက်ရောက်မှ ဦးအုန်းခိုင် ကျောင်းဝင်း အဝင်ဝသို့ ရောက်သည်။ မီးရောင်ကလေး တလက်လက် ထွန်းထားလေပြီ။ ကျောင်းဝသို့ မရောက်မီ တောစပ်တွင် ဘုန်းတော်ကြီးတစ်ပါးနှင့် ရဟန်းတစ်ပါးကို တွေ့ရ၍ "ဒီကျောင်း

ဟာ ဘုန်းကြီး ဦးအုန်းခိုင် ကျောင်းဘဲလား ဘုရား"ဟု လျှောက်ထားသည်တွင် "ဩော် ဟုတ်ပါတယ်, ဟုတ်ပါတယ် ကြွသာကြွသွားပါ နေရာထိုင်ခင်းများ သဘောရှိ နေနိုင်ပါတယ်။ ကပ္ပိယလဲ ရှိပါတယ်"ဟု အမိန့်ရှိသဖြင့် ကျောင်းသို့ အရောက် ဝင်သွား၍ ကပ္ပိယနှင့် တွေ့လေသည်။

"ဘုန်းကြီး ဦးအုန်းခိုင် ရှိပါသလား။"

"မရှိဘူး ခုတင်ကဘဲ ထွက်ကြွသွားပြီ၊ လမ်းမှာ မတွေ့လိုက်ဘူးလား ဘုရား၊ ဦးပဥ္စင်းအဖော်တစ်ပါးလဲ ပါတယ်။"

"ဩော် တွေ့လိုက်တယ်၊ ဘုန်းကြီး ဦးအုန်းခိုင်မှန်း မသိလိုက်ဘူး၊ ဦးအုန်းခိုင် ဘဲလို့လဲ အမိန့်မရှိဘူး၊ ဘယ်ကြွသွားသလဲ။"

" ကျောင်းမှာ ညအချိန် ကျိန်းလေ့ မရှိဘူး၊ ဒီမှာ လာနေကြတဲ့ ရဟန်း၊ ရသေ့များလဲ ဘုန်းကြီးလိုဘဲ ကျောင်းမှာ မကျိန်းကြရဘူး၊ နံနက်လင်းမှ ဆွမ်းခံပြီး ပြန်လာကြတာဘဲ။"

"ဘယ်သွားကျိန်းကြသလဲ။"

"သုသာန် သင်္ချိုင်းရှိရာ ကြွပြီး တစ်ညလုံး နေကြတာဘဲ၊ ကျိန်းကြတယ် လို့တော့ မရှိဘူး ထင်ပါတယ်။"

ဘုန်းကြီးဦးအုန်းခိုင်ကား ချီးမွမ်းဖွယ် ပုဂ္ဂိုလ်ကြီးပေတကား၊ ကျောင်းပေါ်တွင် ခေါင်းအုံးဟူ၍ မယ်မယ်ရရမရှိ၊ သံရိုက်ထားသော သစ်သားခုံ ကလေးများသာ ရှိသည်။ ဖျာအနည်းငယ် ရှိသည်။ ဦးအုန်းခိုင်မှာ သီးခြားကျောင်းကလေး တစ်ဆောင်တွင် သီတင်းသုံးသည်။ ယောဂီရဟန်းများအတွက် သီးခြား ကမ္မဋ္ဌာန်း ကျောင်းကလေးများလည်း ရှိသည်။ ကျောင်းဆောင် ကောင်းကောင်း ကျောင်း ကြီးကြီး ဆောက်ခွင့်မပြုဟု သိရသည်။ ပရိဘောဂ အသုံးအဆောင်ဟူ၍ မတွေ့ရ၊ ဘုရားလက်ထက်တော်က ရဟန်းကျောင်းများကဲ့သို့ တစ်ဝါကျွတ် တစ်ခါပြောင်း

သစ်ရွက်မိုးကျောင်းများနှင့် အလားတူလှသည်။ ရပ်ရွာနှင့် ဝေးကွာ၍ သားငှက် တိရစ္ဆာန် လူသံတိတ်ဆိတ်လှသည်။ တရားရှာသူ (ယောဂီ)များနှင့် သင့်လျော်၍ တောပျော်ပုဂ္ဂိုလ်တို့ နှစ်မြို့က်ဖွယ် ဌာနဖြစ်ပေသည်။ ဤမျှ တိတ်ဆိတ် ငြိမ်သက် သောဌာန ဖြစ်ပါလျက် ညအခါ ကျောင်းတွင်မနေ သုသာန်ရှိရာသို့ ကြွတော်မူ၍ သုသာန်စုတင် အာရညကင်စုတင် ရုက္ခမူစုတင်များ ရရှိအောင် ကျင့်သုံးတော် မူကြသေး၏။

ထိုည၌ အရှင်သောဘန တစ်ပါးတည်း ကျိန်းစက်ရသည်။ နံနက်မိုးလင်း ၍ မကြာမီပင် ဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့် ရဟန်းတော်(၁၀)ပါးတို့ သပိတ် ပိုက်ကာ ပြန်ကြွလာကြသည်။ ကျောင်းသို့ ရောက်လျှင် ဆွမ်းခံရာမှ ရလာသမျှ သော ဆွမ်းနှင့် ဟင်းများကို ဇလုံကြီးများ ခွက်များ၌ အားလုံးပေါင်းစုထားသည်။ ၉–နာရီခန့်မှာ ထိုပေါင်းစုထားသော ဆွမ်းများ ဟင်းများမှ မိမိတို့လိုသလောက် အသီးအသီး မိမိတို့ သပိတ်၌ ထည့်ယူပြီးလျှင် မိမိတို့နေရာ ကျောင်းသို့ သွား၍ ဆွမ်းဘုဉ်းပေးကြသည်။ အားလုံး သက်သတ်လွတ် ဟင်းချည်း ဖြစ်သော်လည်း စားစချင့်ဖွယ် ရှိလှပေသည်။ ဘုန်းတော်ကြီး ဦးအုန်းခိုင်၏ ဘုန်းကံအားလျော်စွာ ပတ်ဝန်းကျင် ရပ်ရွာနေ လူအပေါင်းတို့မှာ ချက်ရေးပြုတ်ရေး ဘက်တွင်သာမက ရဟန်း သံဃာများနှင့် ဆက်ဆံရာ စသည်တို့မှာလည်း ယဉ်ကျေး ပြေပြစ်ရှိကြပုံ ရပေသည်။

နေ့ခင်းအချိန်တွင်လည်း ဆွမ်းကိစ္စပြီးသည်နှင့် တပြိုင်နက် နေရာ၌ ဝိုင်းဖွဲ့ မနေကြဘဲ ကိုယ့်ဆိုင်ရာဆိုင်ရာ ကျောင်းသို့ ကြွရောက်ကာ တိတ်ဆိတ် ငြိမ်သက်စွာ သီတင်းသုံးကြလေသည်။ ဘုန်းတော်ကြီးထံ သွားရောက်၍ ဖူးမြော် ကန်တော့ယင်း အလ္လာပ သလ္လာပ ပြောဆို လျှောက်ထားရာ၊ အမူအရာ အဆို အမိန့် သိမ်မွေ့ပုံတို့ကို တွေ့ရသည်။ ထိုအခါ ဘုန်းတော်ကြီးမှာ သက်တော်

(၆၀)မျှ ခန့်မှန်းရသည်။ ငယ်စဉ်က စာပေ ကျမ်းဂန်ကို သင်ကြားခြင်းမပြုခဲ့ရသော်လည်း (ပိဋကတ် အခြေခံရအောင် စာသင်တိုက်ကြီးများတွင် သင်ကြားခြင်း မရှိခဲ့သည်ကို ဆိုလိုပါသည်။) မိမိတတ်သမျှ သိသမျှကို သဒ္ဓါတရား ထက်သန်စွာနှင့် ထိထိရောက်ရောက် ကြိုးစား အားထုတ်တော်မူသည်မှာ အတုယူလောက်ပါပေသည်။

အသက်ခန္ဓာကို မငဲ့ကွက်၊ ပဋိပတ်သက်သက်ကို တစ်ဘဝတည်းနှင့် ကိစ္စပြီးလုံ့လကြီးစွာနှင့် အားထုတ်တော်မူသည်ကို ဒိဋ္ဌ တွေ့မြင်ရသဖြင့် မကြည်ညိုသေးသူကို ကြည်ညိုစေရမည်၊ ကြည်ညိုပြီးသူတို့ တိုး၍ ကြည်ညိုစေရမည်၊ (အပ္ပသန္နာနံ ပသာဒါယ၊ ပသန္နာနံ ဘိယျော ဘာဝါယ)ဟူသော ဝိနည်းပိဋကတ်လာ ဒေသနာတော်နှင့် ညီညွတ်လှပေသည်။ ကိုးကွယ်ဆည်းကပ်ကြသော ဒကာ ဒကာမတို့ကား ရဟန္တာ(အရိယာ)ကို ကိုးကွယ် ဆည်းကပ်ကြရသလို စိတ်ပါဝင်စား အားထား ကြည်ညိုကြလေသည်။

အရှင်သောဘနအဖို့ နဂိုက ပဋိပတ်ဘက်သို့ စိတ်ညွတ်လျက် ရှိရာတွင် ဘုန်းတော်ကြီးကို တွေ့ရသောအခါ သဒ္ဓါတရား တိုးတက်ကာ ဓာတ်ကောင်းကူးစက်လျက် စိတ်အားထက်သန်ခြင်း တိုးတက်ခဲ့လေသည်။ (သုသာန်ဇုတင်ဆောက်တည်ရာ၌ ထင်ရှားပါလတ္တံ့။)

### ဘုန်းတော်ကြီးအား လျှောက်ထားခြင်း

အရှင်သောဘနသည် ဘုန်းတော်ကြီး၏ ပဋိပတ်ကျင့်စဉ် ကျင့်နည်းကို သိလိုလှသဖြင့် "အရှင်ဘုရား နှလုံးသွင်းတော်မူတဲ့ လိုရင်းတရားကို တပည့်များ သိလိုပါသည်၊ ခဲခဲယဉ်းယဉ်း ရောက်လာရတဲ့အခါ အမိန့်ရှိတော် မူပါဘုရား"ဟု လျှောက်၏။

"အထူး မဟုတ်ပါဘူးကိုယ်တော်၊ ခန္ဓာ၊ အာယတန၊ ဓာတ်များကို နှလုံးသွင်းပြီး ဒါတွေဟာ အနိစ္စ၊ ဒုက္ခ၊ အနတ္တတွေဘဲလို့ ဆင်ခြင်နေပါတယ်၊ ကြိုးကြိုးစားစား အားထုတ်ဖို့ဘဲ လိုပါတယ်။"

ဤမျှသာ အမိန့်ရှိတော်မူသည်။ တရားလမ်းစဉ်တစ်ခုကို လက်ဆုပ်လက်ကိုင်ရရှိအောင် "ဤသို့ အားထုတ်ရသည်" ဟူသော နည်းလမ်းကိုကား မသိရချေ။

ဘုန်းတော်ကြီးမှာ သီလပဋိပတ်ကို အထူး အလေးပြုတော်မူပြီးလျှင် သမာဓိဘက်က အခြေခိုင်ခဲ့တော်မူနေပြီဟု အကဲခတ်နိုင်သည်။ ကျောင်းကန် ပရိဘောဂကို အရေးမထား သက်သတ်လွတ် ဘုဉ်းပေးတော်မူသည်။ ကျောင်း၌ အစဉ်မီးနိုးတိတ်၍ သပိတ်ကိုသာ အားပြုတော်မူသည်။ ညစဉ် ရဟန်းတစ်ပါးကို အဖော်ပြုကာ သုသာန်ရှိရာသို့ ကြွ၍ သုသာန်ဓုတင် ဆောက်တည်တော်မူသည်။ ရွာနှင့်ဝေးကွာသော တောရကျောင်းဖြစ်၍ အာရညကင်ဓုတင်လည်းရသည်။ ကျိန်းစက်သောအခါ လျောင်းခြင်းမရှိ၊ ထိုင်လျက်သာ ကျိန်းသဖြင့် နိသဇ်ဓုတင်၊ ဆွမ်းအမြဲခံသောကြောင့် ပိဏ္ဍပါတ်ဓုတင်၊ ဆွမ်းစားရာတွင် တစ်နေရာတည်း တစ်ခွက်တည်းစားသောကြောင့် ဧကာသနိက်ဓုတင်နှင့် ပတ္တပိဏ်ဓုတင်၊ သင်္ကန်း သုံးထည်ကိုသာ အမြဲဆောင်သောကြောင့် တိစီဝရိတ်ဓုတင်၊ သုသာန်စောင့်သောအခါ သစ်ပင်အောက်၌သာ နေသောကြောင့် ရုက္ခမူဓုတင် ဤသို့လျှင် –

၁။ သုသာန်ဓုတင်

၂။ အာရညကင်ဓုတင်

၃။ နိသဇ်ဓုတင်

၄။ ပိဏ္ဍပါတ်ဓုတင်

၅။ ဧကာသနိက်ဓုတင်

၆။ ပဋ္ဌာပိဋကစာတင်

၇။ တိပိဋကဓရိတ်စာတင်

၈။ ရက္ခမူစာတင်

ဟူသော ဓုတင်(၈)ပါးကို အစဉ်မပြတ် ရရှိတော်မူသည်။ အလွန်အားထုတ်နိုင်ခဲ့သော ဓုတင်ပဋိပတ်များကို လက်မလွှတ်တမ်း ကြိုးပမ်းတော်မူပုံကို တွေ့မြင်ရသောအခါ ဘုရားလက်ထက်တော်အခါက မဟာသာဝကမထေရ်ကြီးများလည်း ဤကဲ့သို့ပင် ခန္ဓာအသက်ကို မငဲ့ကွက်ဘဲ တရားကိုသာ အသက်ပြုကာ အားထုတ်တော်မူကြပေလိမ့်မည်ဟု အာရုံတန်း မှန်းမိပေသည်။

### သုသာန်သို့လိုက်ပါသွားခြင်း

ဘုန်းတော်ကြီး ဦးအုန်းခိုင်မှာ အဖော်ရဟန်းတစ်ပါးနှင့်အတူ သုသာန်သို့ နေ့စဉ် ညနေ ၅–နာရီခန့်တွင် ကျောင်းမှ ထွက်သွားလေ့ရှိ၏။ ကျန်ရဟန်းတို့က တပေါင်းတည်း အခြားရွာ သုသာန်သို့ ကြွကြ၍ သုသာန်စောင့်လေ့ရှိကြသဖြင့် ဘုန်းတော်ကြီးနှင့် သုသာန် တခြားစီ ဖြစ်လေသည်။ သုသာန် တစ်ခုတစ်ခုတွင် (၃)ရက်သာ နေ၍ (၃)ရက်ပြည့်လျှင် အခြား သုသာန်သို့ ပြောင်းရွှေ့ကြ၏။

တပို့တွဲလဆုတ် ၁၁–ရက်နေ့ ညနေ ၅–နာရီသည် ဆောင်းရာသီဖြစ်၍ တောင်စွယ်နေကွယ်တော့မည့်အချိန်ဖြစ်သည်။ ဘုန်းတော်ကြီးလည်း ကြွသွားလေပြီ၊ အာဂန္တု အရှင်သောဘနမှာ အခြားရဟန်းများနှင့်အတူ (ရသေ့များလည်း ပါသည်) မိမိတို့နေရာ ကျောင်းသင်္ခမ်းမှ ထွက်ကြွလာကြ၍ လွန်ခဲ့သော နှစ်ရက်က နှစ်ညနေပြီးသောသုသာန်သို့ရောက်ကြလျှင် အသီးသီး နေရာယူရန် ပြင်ဆင်လျက်ရှိကြသည်။ ထိုအခိုက် လူရွယ်(လူလတ်)တစ်ယောက် သုသာန်သို့ ရောက်လာပြီးလျှင်–

"နက်ဖြန်ည တပည့်တော်တို့ရွာ သင်္ချိုင်းမှာ သုသာန်စောင့်ရန် အလှည့်ကျ ပါသည်၊ သို့ပေမယ့် ဒီကနေ့ညဘဲ ကြွတော်မူပါဘုရား"ဟု ပင့်လျှောက်၏။ ရဟန်းတစ်ပါးက -

"ဘာကြောင့် ကြိုတင် ပင့်ရသလဲကွယ့်"ဟု မေးလေသည်။ "တပည့်တော်ရဲ့ နမတစ်ယောက် ဒီနေ့မှာဘဲ ကြိုးဆွဲချသေပါတယ်ဘုရား၊ အစိမ်းသေ ဖြစ်တော့ ညအိပ် မထားရ၊ ချက်ချင်း သင်္ဂြိုဟ်လိုက်ရပါတယ်၊ အစိမ်းသေ ဆိုတော့ ပယောဂ အောက်လမ်းဆရာများ လာပြီး အလောင်းကို ဆေး စီရင်ဖို့ တူးဖော်ယူတတ်ပါတယ်၊ အနီးအနားမှာ လူသူမရှိယင် စိတ်မချ ရပါ၊ သူတို့ထင်သလို လုပ်ကြပါလိမ့်မယ်၊ ဒီလို အဖြစ်မခံနိုင်လို့ လာရောက် ပင့်ရပါတယ် ဘုရား"

ဟု အကြောင်းပြ လျှောက်ထားလေသည်။ ဟုတ်လည်း ဟုတ်သည်။ ပယောဂ အောက်လမ်းဆရာများသည် အစိမ်းသေ ရှိသည်ဟု ကြားလျှင် (သူတို့အဖို့ မင်္ဂလာ သတင်းကောင်းဟု သဘောထားကြသည့်အတိုင်း) အစိမ်းသေ သင်္ဂြိုဟ်ရာ သုသာန်သို့ တိတ်တဆိတ်လာရောက်၍ သုသာန်တွင် မြှုပ်နှံထားပြီး ဖြစ်စေကာမူ ၎င်းတို့၏ အောက်လမ်းဂါထာမန္တန်ဖြင့် မန်းမှုတ်ကာ မြေပုံတွင်းက အလောင်း ထွက်လာအောင် ပြုလုပ်တတ်ကြသည်။ အလောင်းကောင်မှ လက်ဖျံရိုး စသည်ကို ဖြုတ်ယူပြီး ဆေးစီရင်ကာ လိုရာတွင် အသုံးပြုတတ်ကြသည်။ ဤသို့ အသုံး ပြုခြင်းခံရသော အလောင်းကောင် ကာယကံရှင်မှာ အစိမ်းဘဝမှ မကျွတ်လွတ် နိုင်ဘဲ ပယောဂဆရာ၏ အစေခံအဖြစ်သို့ ရောက်ရတော့သည်ဟု အယူရှိကြလေ သည်။

## အစိမ်းသေမြေပုံနှင့် ရင်ဆိုင်ရခြင်း

"စစချင်း ဆောက်နဲ့ထွင်း"ဆိုသကဲ့သို့ သုသာန်သို့ တခါတခေါက်မျှ အကာလ ညအခါ မလိုက်ဘူး (မဆောက်တည်ဘူး)သော အရှင်သောဘနမှာ ရုတ်တရက်သော် ကျောစိမ့်၍သွားပေမည်။ ယနေ့ညမှ ဤသို့သော အစိမ်းသေ မြှုပ်ရာ သုသာန်မျိုးနှင့် တိုက်ဆိုင်မိခြင်းသည်လည်း အံ့တပါးပင် ဖြစ်တော့သည်။ အစိမ်းသေလည်း ဖြစ်ပြန် လတ်လတ်ဆတ်ဆတ်လည်း ဖြစ်ပြန်၊ တစ္ဆေခြောက်ရိုး မှန်လျှင် ဤလိုအခါမျိုးသည် စံချိန်ကျိုးအောင် ခြောက်မည့်အခါဘဲဟု စွဲလမ်း ထားတတ်ကြလေရာ ညအခါ သုသာန်သို့ တခါတခေါက်မျှ မရောက်ဘူးသူ ဖြစ်ပါလျှင် မည်သို့ဖြစ်လိမ့်မည်နည်း။ (ဖြစ်တတ်မည်နည်း။)

ရဟန်းတော်များက "အေးအေး ကောင်းပြီ"ဟု အမိန့်ရှိကြပြီးနောက် ပင့်လာသူနှင့်အတူပင် ရှေ့မှ ရဟန်းတော်များက ကြွကြ၍ နောက်ပါအားလုံး အစိမ်းသေမြှုပ်နှံရာ သုသာန်သို့ ဦးတည် ကြွသွားကြသည်။ ရဟန်းတော်များမှာ သုသာန်တစ်ခုမှ သုသာန်တစ်ခုသို့ ပြောင်းရွှေ့၍ သုသာန်ဓုတင် ဆောက်တည် တော်မူကြကြောင်းကို ပတ်ဝန်းကျင်က သိပြီးဖြစ်သည့်ပြင် နောက်ညမှာ ထိုသုသာန်သို့ အလှည့်ကျသည်ကိုလည်း သိပြီးဖြစ်နေသောကြောင့် ဤသို့ လာရောက်ပင့်ခြင်း ဖြစ်သည်။

## သုသာန်ဓုတင်

သုသာန်ဓုတင်ဆောက်တည်သော ပုဂ္ဂိုလ်သည် လမ်းမ (အများသွားနေကျ လမ်း)က မသွားဘဲ ခရီးလမ်း မဟုတ်ရာက လျှို့ဝှက်စွာ သွားရမည်ဟု ဝိသုဒ္ဓိမဂ် တွင် ဆိုသည့်အတိုင်း တောလမ်း(လမ်း မတွင်ရာ)က ဖြတ်၍သွားကြရာ မကြာခင်ပင် အစိမ်းသေမြှုပ်ရာ သုသာန်သို့ ရောက်ကြသည်။ ညဦးယံဖြစ်ခြင်း၊

တောချုံ သစ်ပင်တို့ ဖုံးလွှမ်း နေခြင်း၊ လဆုတ်ပက္ခ (လ မထွက်သေးသော)အချိန် ဖြစ်ခြင်းတို့ကြောင့် မှောင်ထု ပတ်လည်ဝိုင်းလျက် ရှိချေပြီ။ ပတ်ဝန်းကျင်တွင် တိတ်ဆိတ် ငြိမ်သက်လျက် သစ်ရွက် လေခတ်သံမျှလောက်သာ ကြားရသည်။ မှုန်မှုန်မွှားမွှား မြင်ရသော အာရုံများမှာ သူကောင်မြှုပ်ရာ မြေပုံအဟောင်းအသစ်တို့သာ ဖြစ်ချေသည်။

သုသာန်သို့ရောက်သောအခါ တနေရာ(နေရာတခုတည်း)တွင် စု၍မနေရ၊ ကိုယ့်နေရာနှင့်ကိုယ် ခွဲ၍ နေရမြဲဖြစ်သည့်အတိုင်း အသီးသီးနေရာကို ခွဲဝေလိုက်သောအခါ အရှင်သောဘနမှာ ပုဂ္ဂိုလ်သစ် ဖြစ်သည့် အားလျော်စွာ အစိမ်းသေ မြေပုံသစ်ခေါင်းရင်းတွင် မဲကျလေတော့သည်။ တရားကို အထူးနှလုံးသွင်းအောင် တိုက်ဆိုင်မိခြင်း ဖြစ်ပေလိမ့်မည်။

သုသာန်တွင် အသီးသီး ထိုင်ကြသောအခါ ကောက်ရိုး အခင်းသာ ရှိကြ၏။ ကောက်ရိုးကို လူအများက အသင့်ပေးထားကြသည်။ တစ်နေရာနှင့် တစ်နေရာ ပေအစိတ် သုံးဆယ်မျှ ဝေးကွာ၍ သစ်ပင် ချုံဖုတ်ကလေးများကလည်း ကွယ်လျက် ရှိသဖြင့် တစ်နေရာမှ တစ်နေရာသို့ မမြင်နိုင်ပေ။

ကိုယ့်နေရာနှင့်ကိုယ် ထိုင်မိကြလျှင် ဘုရားဂုဏ်တော်ကိုလည်းကောင်း၊ ကမ္မဋ္ဌာန်းဆိုင်ရာ စာကိုလည်းကောင်း၊ မေတ္တာပို့ကိုလည်းကောင်း တိုးတိုးကလေး ရွတ်ဆို ပွားများကြသည်ကို တိတ်ဆိတ်သော ညအခါဖြစ်၍ ကြားရသည်။ ညဥ့်နက်သန်းခေါင်လောက် ရောက်သောအခါ ထိုရွတ်ဆိုပွားများသံများ တိတ်ဆိတ်၍ လေတိုက်သံမျှလောက်သာ ကြားရတော့သည်။ တစ်ခါတစ်ခါ ခပ်လှမ်းလှမ်းတောစပ်ဆီမှ ညကျက်စားလေ့ရှိသော ငှက်များ၏ မြည်သံ၊ အတောင်ခတ်သံများကိုလည်း ကြားရသည်။

အရှင်သောဘနမှာ မြေပုံသစ်၏ ခေါင်းရင်း မနီးမဝေး သုံးတောင်ခန့်တွင်

သစ်ပင်၊ ထိုသစ်ပင်ရင်း၌ ကောက်ရိုးခင်းထားသော နေရာတွင်ထိုင်လျက် မြေပုံသစ်ကိုသာ စူးစိုက် အာရုံပြုလျက်နေသည်။ အစိမ်းသေမှာ သေပြီး အလောင်းကောင်ဖြစ်ခြင်း၊ သေဆုံးသူမှာ မိန်းကလေးဖြစ်၍ မသေမီက ရဟန်းသံဃာများအပေါ်၌ ကြည်ညိုစိတ်နှင့် နူးညံ့သော စိတ်များရှိခြင်းတို့ကြောင့် ဘာမျှကြောက်ရွံ့ဖွယ်မရှိချေ။ သို့ရာတွင် သူသေကောင် အမှိုပြုပြီး "အညီရှိ ယင်အုံ" ဆိုသကဲ့သို့ ဘီလူး၊ သဘက်တွေ လာရောက် ခြောက်လှန့်တတ်သည်ဟူသော ကျမ်းဂန်စာပေ စကားအရ ဤအချက်ကိုသာ စဉ်းစားကြံတွေးလျက် ကျောအေးသလို ဖြစ်မိလေသည်။ အသက်အရွယ်အားဖြင့် (၂၇)နှစ် ပျိုမျစ်တုန်းအရွယ်တွင် ဤသို့သော သုသာန်လယ် ဤသို့သော အစိမ်းသေခါင်းရင်း၌ အကာလညအခါ မှောင်ကြီးမည်းမည်းမှာ အရဲစွန့်ကာ ဖွဲကောင်းကောင်းနှင့် နေနိုင်ခြင်းကား တရားထူးရခြင်း မရခြင်းကို အပထား၊ အံ့အားသင့်ဖွယ် ချီးကျူးဖွယ်တစ်ရပ်ဟု သတ်မှတ်သင့်ပေသည်။

ခုတင် ၁၃-ပါးတွင် သုသာန်ခုတင်သည် အခဲယဉ်းဆုံးဖြစ်သည်။ လူတိုင်းကြောက်ရာ(စက်ဆုပ်ရာ)ဌာနတွင် ကြောက်ရွံ့ခြင်းကို တိုး၍ ဖြစ်စေသော ညအချိန်တွင်မှ သွားရောက် ကျင့်သုံးရသည်။ ယခုခေတ်မှာ သူသေအလောင်းများကို မြေတွင်မြှုပ်ထားပြီးဖြစ်၍ အလောင်းကို မမြင်ရသဖြင့် တော်သေး၏ဟု ဆိုသင့်၏။ ရှေးရှေးအခါကမူ သူသေအလောင်းကို အဝတ်ပတ်၍ သုသာန်တွင် ပစ်ထားကြရာ တောခွေး၊ အိမ်ခွေးစသော အသားစား တိရစ္ဆာန်နှင့် ဘီလူး၊ သဘက်၊ တစ္ဆေ၊ မြေဘုတ် စသော သချိုင်းပြိတ္တာတို့၏ အန္တရာယ်တို့လည်း များပြားလှသည်။ ကျမ်းဂန်များတွင် အသုဘ ၁၀-ပါး ရေတွက်၍ ရနိုင်ခြင်းသည် သုသာန်၌ သူသေကောင်များကို မြေမမြှုပ်(မသင်္ဂြိုဟ်)ဘဲ ပစ်ထားသောကြောင့်သာ ဖြစ်လေသည်။ ဤမျှကြောက်ရွံ့စက်ဆုပ်ဖွယ် ကောင်းလှသည်။ သို့ဖြစ်၍ ဝိသုဒ္ဓိမဂ် ခုတင်ခန်းတွင်း -

"သုသာန်မှာ စကြံ၊ မလျှောက်၊ စသည်ကို ပြုလုပ်မထားရ သောက်ရေ သုံးဆောင်ရေအိုး တည်ထား၍ တရားပေစာ ပို့ချမနေရ၊ ဤစုတင်သည် ဆောက်တည်ရန် ခဲယဉ်းလှ၏။ ဝန်လေးလှ၏။ ဖြစ်လာမည့် ဘေးရန်ကို ကာကွယ်နိုင်ရန် သံဃမထေရ်ကြီးကို လည်းကောင်း၊ ရပ်ရွာသူကြီးတို့ကိုလည်းကောင်း ကြိုတင် တိုင်ကြားထားရမည်။ သုသာန်တွင် မမေ့မလျော့ နေရမည်။ စကြံလျှောက်လျှင် မျက်စိတစ်ဘက် (မျက်စိတစ်ဝက်)ဖြင့် သူသေကောင်ကို ကြည့်ရမည်။ သုသာန်သို့ သွားသောအခါ လမ်းရိုးလမ်းက မသွားဘဲ ခရီးလမ်းမဟုတ်ရာက သွားရမည်။ (လျှို့ဝှက်စွာသွားရမည်။) နေ့အခါကပင် သုသာန်သို့သွား၍ သုသာန်အခြေအနေ သစ်ငုတ် ချုံဖုတ် စသည်တို့ကို ကြည့်မှတ်ထားရမည်။ (သို့မဟုတ်လျှင် သစ်ငုတ်ကို တစ္ဆေထင်၊ ချုံဖုတ်ကို ဘီလူးထင် ဖြစ်တတ်သည်။) ဘီလူး၊ သရဲ စသည်တို့က ကြောက်လန့်စဖွယ် မြည်တမ်းအော်ဟစ်လာလျှင် တုတ်၊ လုံးတုံ၊ အုတ်ခဲ၊ ကျောက်ခဲတို့ဖြင့် မပစ်ခတ်ရ၊ သုသာန်သို့ တနေ့မပြတ် သွားရမည်။ သုသာန်တွင် သန်းခေါင်ယံကို ကုန်စေ၍ ပစ္ဆိမယံအချိန် သုသာန်မှ ထွက်ခွါ လာရမည်။ (မိုးလင်းချိန်ရောက်အောင်မနေရ) ဘီလူး၊ သရဲတို့ ကြိုက်သော ဆီထွေး၊ နှမ်းလှော်၊ ပဲ၊ ထမင်း၊ ငါး၊ အမဲ၊ နို့ရည်၊ ဆီ၊ တင်လဲများကို မစားရ (ဖုတ်လှော်ကင်ထား၍ သင်းနေသော ခဲဘွယ်ကို မစားရ) သုသာန်မှအပြန်တွင် မည်သည့်လူနေအိမ်သို့မျှ မဝင်ရ၊ (နေရာကျောင်းသို့ တန်းပြန်ရမည်) ဤသို့ ပြဆိုထားလေသည်။

## သုသာန်စုတင် ဆောက်တည်ပုံ

သုသာန်စုတင် ဆောက်တည်လိုသော ပုဂ္ဂိုလ်သည် သုသာန်သို့ ရောက်သောအခါ ဤသို့ ဆောက်တည်ရသည်။

"သုသာန် လက္ခဏာမှ ကင်းသော နေရာအရပ်ကို ပယ်ပါ၏။ သုသာန်

လက္ခဏာ ရောက်သောအရပ်၌ နေခြင်း အကြောင်းအင်္ဂါကို ဆောက်တည်ပါ၏" ဟူ၍ ဆောက်တည်ရသည်။ သုသာန် လက္ခဏာမှာ သူသေကောင် မဖုတ်ဘူး၊ မမြှုပ်ဘူးသေးသော အရပ်သည် သုသာန်မမည်၊ သူသေကောင် ဖုတ်ပြီး၊ မြှုပ်ပြီးသည်မှနောက်(၁၂)နှစ်တိုင်အောင် (နောက်ထပ် မဖုတ်၊ မမြှုပ်စေကာမူ)သုသာန်မည်သည်။ သုသာန်ခေါ်သည်။

## သုသာန်ဓုတင်ဆောင် ပုဂ္ဂိုလ် (၃) မျိုး

သုသာန်ဓုတင်ဆောင် ပုဂ္ဂိုလ်သည်၊ ၁–အမြတ်စား ဥက္ကဋ္ဌ၊ ၂–အလတ်စား မဇ္ဈိမ၊ ၃–အယုတ်စား မုဒုဟု (၃)မျိုး ရှိ၏။ ထိုတွင် သူသေကောင် မပြတ်ဖုတ်ခြင်း၊ အပုပ်နံ့ မပြတ်ရှိခြင်း၊ ငိုကြွေးသံ မပြတ်ရှိခြင်း ဟူသော အင်္ဂါ ၃–ချက်နှင့် ပြည့်စုံသော သုသာန်၌ ဆောက်တည်နေလျှင် အမြတ်စား ဥက္ကဋ္ဌဖြစ်၏။ ဤအင်္ဂါ ၃–မျိုးတွင် တမျိုးမျိုးရှိနေသော သုသာန်၌ ဆောက်တည်နေလျှင် အလတ်စား မဇ္ဈိမဖြစ်၏။ သုသာန်လက္ခဏာ ရှိကာမျှသော သုသာန်၌ ဆောက်တည်နေလျှင် အယုတ်စား မုဒု ဖြစ်၏။

ဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့်တကွ ကျောင်းနေ ရဟန်း (အာဂန္တုပါမကျန်) တို့မှာ သက်သတ်လွတ် ဆွမ်းကိုသာ ဘုဉ်းပေးကြသဖြင့် အစားအသောက် အတွက်ကြောင့် ဘီလူး သဘက်တို့ အန္တရာယ် ပြုနိုင်ဖွယ် မရှိပေ။ သို့ရာတွင် သုသာန်သင်္ချိုင်းမှန်လျှင် ဘီလူး သဘက်တို့ ခိုအောင်းရာ၊ ခြောက်လှန့်ရာဟု အစွဲရှိနေကြသဖြင့် သုသာန်ထဲတွင် ထိုင်နေဖို့ဝေးစွ၊ ညအခါ ဖြတ်သန်းသွားလာဖို့ပင် မဝံ့ကြချေ။ လူသူ အသွားအလာ မရှိသော အရပ်မျိုးဖြစ်၍ သူခိုး ဒမြတို့သည် အခြားအရပ်မှ ပစ္စည်းများကို ခိုးယူတိုက်ခိုက်လာပြီးလျှင် သုသာန် သင်္ချိုင်းတွင် ဝင်ရောက် ဝှက်ထားတတ်ကြသည်။ ထို့ပြင် ဥစ္စာရှင် အရပ်သားတို့က သူခိုး

ဒမြတို့ နောက်မှ ထပ်ကြပ်မကွာ လိုက်ပါလာကြသောအခါ၊ ပစ္စည်းဥစ္စာထုပ်ကို ဆောင်ယူပြေးသွားနေလျှင် လိုက်လာသူတို့ မှီလာပါက ၎င်းတို့ မဖမ်းဆီးနိုင်ရန် သုသာန်သင်္ချိုင်းကိုဖြတ်၍ အမှတ်မဲ့ ပစ်ထားခဲ့ပြီးလျှင် လက်လွတ်ထွက်ပြေးသွားတတ်၏။ ထိုအခါ ဥစ္စာရှင် လူတစ်စုတို့ ခြေရာခံကာ လိုက်လာယင်း သုသာန်တွင်းသို့ ရောက်လာတတ်ကြရာ၊ သူခိုး ဒမြကို မမိဘဲ ဥစ္စာထုပ်နှင့်တကွ သုသာန်စောင့် (ခုတင်ဆောက်တည်)နေသော ရဟန်းတော်များကို သူခိုးဟု စွပ်စွဲကာ ဖမ်းဆီးတတ်လေသည်။ ဤသို့သော အန္တရာယ်မျိုး မဖြစ်စေရန် ရပ်ရွာသူကြီးများကို ကြိုတင်တိုင်ကြား အသိပေးထားရခြင်း ဖြစ်သည်။

ဤသို့သော အန္တရာယ်များ၍ ကြောက်ပါးလိလိဖြစ်သော သင်္ချိုင်းအလယ်တွင် ရောက်ခါစဖြစ်သော အရှင်သောဘနသည် ညဦးနက်သန်းခေါင်တိုင်အောင် သတိကြီးစွာဖြင့် အစိမ်းသေ မြေပုံကိုသာ စူးစူးစိုက်စိုက် ကြည့်ရှုနေစဉ် အပြင်အပ အခြောက်အလှန့် ဟူ၍ ဘာမျှမတွေ့ရ၊ တိတ်ဆိတ် ငြိမ်သက်သော ညသဘာဝအတိုင်း ချိုးချိုးချွတ်ချွတ် အသံများကိုသာ ကြားရသည်၊ အပြင်က မခြောက်၊ ကိုယ့်ကိုယ်ကို ကိုယ်ပြန်ခြောက်နေခြင်းသာ ရှိလေသည်။ သန်းခေါင်ကျော် အချိန်လောက်ကျမှ ကြောက်စိတ် ပြေသဖြင့် သစ်ပင်ကို မှီကာ ထိုင်ယင်းပင် ကျိန်းစက်ခြင်းသို့ ရောက်သွားလေသည်။

ည၏နောက်ပိုင်း(ပစ္ဆိမယံ) အချိန်မကုန်မီ ရုတ်တရက် နိုးလာသောအခါ အထက်မေးရိုးက အောက်မေးရိုးပေါ်သို့ ခပ်ကျပ်ကျပ် ဖိထားသော ဒဏ်ချက်ကြောင့် သွားများ နာကျင်နေသည်ကို သိရသည်။ ထိုင်လျက် အိပ်စက်နေကျမဟုတ်သဖြင့် အိပ်ပျော်နေစဉ် အထက်မေးရိုးနှင့် အောက်မေးရိုးတို့ သဘာဝအတိုင်း တင်းတင်းကျပ်ကျပ် စေ့စပ်အောင် ဆွဲဆောင်သော အရှိန်ကြောင့် ဖြစ်ဟန်ရှိလေသည်။

သုသာန်ဓုတင်ဆောင် ပုဂ္ဂိုလ်များလည်း သုသာန်မှအပြန် ဆွမ်းခံနေကျ ဖြစ်သည့်အတိုင်း သပိတ်များကို ပြင်ဆင်ကြသည်။ သုသာန်တွင် အသင့်ပြင်ဆင် (တည်)ထားသော မျက်နှာသစ်ရေအိုးမှ ရေဖြင့် အသီးသီး မျက်နှာသစ်ကြ ပြီးနောက် သပိတ်လွယ်ကာ သုသာန်မှ ထွက်ခဲ့ကြသည်။

ဆွမ်းခံရာ ရပ်ရွာသို့ ရောက်သောအခါ နံနက်ကျဲကျဲ လင်းနေပြီဖြစ်၍ ဆွမ်းလောင်းရန် ပြင်ဆင် စောင့်ဆိုင်းနေကြခြင်းမှာလည်း အဆင်သင့်ပင် ဖြစ်နေ ပေသည်။ ဆွမ်းခံရာတွင် ခရီးရှည်ကြီး လျှောက်မနေရ၊ ရပ်ရွာ ဒကာ ဒကာမတို့က တစ်နေရာတွင် စုပေါင်းကာ ဆွမ်းရော ဟင်းရော အလုံအလောက်ပင် လောင်းလှူ ကြလေသည်။ လောင်းလှူသမျှ ဟင်းတို့မှာလည်း သက်သတ်လွတ်ဟင်းတို့သာ ဖြစ်ပေသည်။

ကျောင်းသို့ ပြန်ရောက်ကြလျှင် ယခင်နေ့ကအတိုင်းပင် စုပေါင်းခွဲဝေကာ သပိတ်ကိုယ်စီဖြင့် ဆွမ်းဘုဉ်းပေးကြသည်။ တစ်ခွက်တည်း စားရသောကြောင့် ပတ္တပိဏ္ဍိကဓုတင်၊ နေရာမရွေ့ တစ်နေရာတည်း စားရသောကြောင့် ဧကာသနိက် ဓုတင်၊ ဆွမ်းခံ၍သာ စားရသောကြောင့် ပိဏ္ဍပါတ်ဓုတင် ဤဓုတင် ၃-မျိုးကို ရရှိတော်မူကြသည်။

## သုသာန်ဓုတင်ဆောင် ကိုရင်တစ်ပါး၏ ကိုယ်တွေ့အဖြစ်

စာရေးသူ၏ ဦးလေးတော် ဓနုဖြူမြို့ ဂန္ဓာရုံ ဆရာတော်ကြီးသည် ငယ်စဉ် ကပင် ပဋိပတ်ဘက်၌ စိတ်ပါဝင်စားတော်မူခဲ့သည်၊ ဂန္ဓာရုံ ဆရာတော်သည် မင်းကွန်းဇေတဝန် ဆရာတော်နှင့် တစ်ရွာတည်းသား ဆွေမျိုးနီးစပ် တော်ကြသည်။ ငယ်စဉ်အခါ စစ်ကိုင်းခရိုင် စာရေးလေးရွာအဝင် ကန်ကြီးကုန်းရွာကျောင်းမှ ပြောင်းရွှေ့၍ စာရေးအနောက်ရွာ တောရပြာသာဒ်ကျောင်းတွင် ကိုရင်အဖြစ်နှင့်

စာပေသင်ရသည်။ စာသင်ကြားနေစဉ် ဆရာဘုန်းတော်ကြီးထံမှ သုသာန် ဆောက်တည်သော အကြောင်းအရာများကို ကြားသိရသဖြင့် သုသာန် ဆောက်တည်လိုသော ဆန္ဒ ဖြစ်ပေါ်လျက်ရှိ၏။ အသက်အရွယ်မှာ ၁၆–နှစ်သာ ရှိသေးသဖြင့် သုသာန် ဆောက်တည်လိုသော အကြောင်းများကို မည်သူ့အားမျှ မပြောဝံ့သေးချေ။

ပြာသာဒ်ကျောင်းမှာ တောရကျောင်းဖြစ်၍ သုသာန်နှင့် ဝေးကွာလျက်ရှိ၏။ ညီအစ်ကိုဝမ်းကွဲတော်သူ ကိုရင်တစ်ပါးကို အဖော်လိုက်ပါရန် ခေါ်ကြည့် သော်လည်း မလိုက်ဝံ့၊ အခြားအရွယ်တူ စာသင်ဘက်များနှင့် တိုးတိုးတိတ်တိတ် တိုင်ပင်ကြည့်၏။ မည်သူမျှ သဘောမတူ၊ ဤနည်းဖြင့် အချိန်သာ ကုန်ခဲ့သည်။ တနေ့သ၌ သတင်းတစ်ခုကြားလာသည်မှာ ခရီးသွားလှည်းသမား ကုန်သည်များ ပြာသာဒ်ကျောင်းနှင့် မလှမ်းမကမ်း လှည်းလမ်းကြောင်း အနီးတွင် လှည်းသမား တစ်ယောက် ရုတ်တရက် အနိစ္စ ရောက်သွားသဖြင့် အလောင်းကို ယူမသွားနိုင်၊ ညအချိန်မဲ့ ဖြစ်၍ အကူအညီလည်းမရနိုင်။ အသိအကျွမ်းလည်း မရှိသည်နှင့် အလောင်းကို မြှုပ်ထားခဲ့ကြသည်ဟူသော သတင်းပင် ဖြစ်၏။

ဤသတင်းကို ကြားလျှင် ဂန္ဓာရုံ ဆရာတော်လောင်း ကိုရင်သည် ဟုတ် မဟုတ်ကို သေချာစွာ သိရအောင် မြှုပ်ရာမြေပုံကို အမှတ်မဲ့ သွားကြည့်၏။ မြေပုံ ကို တွေ့ရသောအခါ "နေရာကျပြီ၊ လူသေမြှုပ်ပြီးနောက် ၁၂–နှစ်ထိအောင် သုသာန်ဖြစ်သတဲ့၊ ဒီသုသာန်မှာဘဲ ငါသုသာန် ဆောက်တည်မည်"ဟု ဆုံးဖြတ်ကာ ကျောင်းသို့ ပြန်လာ၏။ ထိုအခါ လဆုတ်အချိန်ဖြစ်၍ လထွက်နောက်ကျ၏။ မြေပုံရှိရာနှင့် ပြာသာဒ်ကျောင်းမှာ တခေါ်သာသာလောက် ဝေး၏။ ဘုရားရှိခိုး ပြီးချိန် လောက်ကစ၍ ကျောင်းသား ကိုရင်များ စာပြန်နေကြသည်။ ည ၉–နာရီလောက်တွင် တဖြည်းဖြည်း စာပြန်သံ တိတ်ဆိတ်သွား၏။ ကျောင်းမှ

ထွက်ရန် အားခဲလျက်ရှိသော ကိုရင်ကလေးကို အဖော်လိုက်ဖို့ စပ်ကြည့်၏။ မလိုက်ဝံ့ရုံမက မသွားရန်ပင် ကန့်ကွက်နေသဖြင့် အခက်ကြုံနေပြန်၏။ သွားလိုသော ဆန္ဒက ပြင်းထန်နေသဖြင့် နောက်ထပ် မည်သူ့ကိုမျှ မပြောတော့ဘဲ အခြားကိုရင် ကျောင်းသားများ အိပ်ရာဝင်ကြသည်နှင့် တပြိုင်နက် ကျောင်းမှ တကိုယ်တည်း ထွက်ခွာလာခဲ့လေသည်။

လရောင်ကလေးကလည်း မပီမသ၊ ဆောင်းဦးပေါက် နှင်းကလေးကလည်း ခပ်ကျကျ၊ ကိုရင်မှာ ခေါင်းရိတ်ထားစဖြစ်၍ ကတုံးပြောင်ပြောင် အပိုခြုံစရာ သင်္ကန်းကလဲ မပါလာ၊ ရှေ့သောကြီးစွာနှင့် ထွက်လာရာ မကြာခင်ပင် လှည်းလမ်းဘေး မြေပုံရှိရာသို့ ရောက်ခဲ့လေသည်။ သစ်ပင်ကြီးကြီးဟူ၍ မရှိ၊ ချုံဖုတ်များသာ ကွက်ကျားကွက်ကျားရှိ၏။ ချုံဖုတ်တွင် ခိုအောင်းလျက် ရှိသော ငှက်များလည်း လူ့ခြေသံကြားသဖြင့် ရုတ်တရက် လန့်ပျံသွားကြ၏။ မြေခွေးခေါ်ခွေးအများလည်း ခပ်ဝေးဝေးက အူလျက်ရှိ၏။ တစ်တီတူးခေါ် (တီတီတွတ်) ငှက်များကလည်း တီတီတွတ်–တီတီတွတ်နှင့် ပျံဝဲမြည်တွန်ကြ၏။ အဖော်မပါဘဲ အရဲစွန့်၍ ထွက်လာခဲ့သော ကိုရင်မှာ ဤသို့သော အချိန်မဲ့ ဖြစ်ပုံများကို တွေ့သောအခါ ငယ်ရွယ်သူ ဖြစ်သည့်အတိုင်း ကြောက်စိတ်ဝင်လာခဲ့သည်။

သို့သော်လည်း သတ္တိဓာတ်ခံရှိသူ ဖြစ်ရကား၊ မြေပုံ ခေါင်းရင်းဘက်က ထိုင်ပြီးလျှင် သုသာန်ဓုတင် ဆောက်တည် လေတော့သည်။ ဘာကို နှလုံးသွင်းရမှန်း မသိ၊ မြေပုံအနီးတွင် ထိုင်ကာ မြေပုံကို စူးစိုက်ကြည့်နေရုံသာ ရှိလေရာ လကလေး တော်တော် မြင့်လာသောအခါ ကွင်းပြင်တောစပ်ရှိ အာရုံများကိုလည်း မြင်နိုင်သည်။ မြောက်လေကလေး တိုက်ခတ်သဖြင့် အအေးဓာတ်ကိုလည်း ခံစားရသည်။ နှင်းများ ကျသဖြင့် ကတုံးပြောင်မှာ အေးစက်လျက် အခံရခက်သလို ဖြစ်လာသည်။ အတွေ့အကြုံ နည်းပါးရာတွင် တောစပ် မြေပုံအနီးတွင်

တကိုယ်တည်း ဖြစ်ရုံမက အအေးဓာတ်ကဖိသဖြင့် မရှိသလို ဖြစ်နေဆဲတွင် ခပ်လှမ်းလှမ်း တောစပ်မှ ဖြူဖြူဖွေးဖွေး ခွေးလိုလို ကြောင်လိုလို အကောင်တကောင် ပြေးလာနေသည်ကို တွေ့ရသည်။ "ဃော... ဒီအကောင် ဘာကောင် ပါလိမ့်၊ ငါ့ကို ခြောက်လှန့်တာ ထင်တယ်၊ မကြောက်ဘူး"ဟု အားခဲထားလေ၏။ သို့ရာတွင် သွေးလန့်သလို ဖြစ်လာ၏။ မကြာခင်ပင် ထိုအကောင်သည် တောယုန် သောက် ဖြစ်လာကာ ကိုရင်ရှိရာသို့ အတင်းပြေးကပ်လာပြီး ကိုရင်၏ ညာဘက် နံ့ဆားကို ကိုက်တော့သည်။ ကိုက်ပြီးလျှင် ပြီးချင်း ထိုအကောင် ကွယ်ပျောက်သွား လေရာ ကိုရင်မှာ ကြောက်အားကြီးစွာနှင့် ကျောင်းသို့ ပြန်ပြေးလာခဲ့လေသည်။ အအေးမိခြင်း လန့်ဖျပ်ခြင်းတို့ကြောင့် အပြင်းဖျားလေတော့သည်။

ပြာသာဒ်ကျောင်း ဘုန်းကြီး၏ အကြောင်းကားချက်အရ စာရေးသူ၏ အဘိုးနှင့် အဖေတို့မှာ ကန်ကြီးကုန်းရွာမှ လေးမိုင်မျှ ဝေးကွာသော တောရကျောင်းသို့ သွား၍ (သုသာန်ဆောက်တည်၍)အပြင်းဖျားနေသော ကိုရင်ကို စောင်ပုခက်ဖြင့် ထမ်းယူလာခဲ့ရလေသည်။ ရွာသို့ ရောက်သောအခါ အဖျား ပြင်းထန်လှသဖြင့် ဆေးဆရာကောင်းများကို ပင့်ခေါ်၍ တစ်လလောက် ကြာအောင် ဆေးကုစားမှ သက်သာခွင့်ရလေသည်။ စာရေးသူ၏ အဖေက ပြောပြသည်မှာ "ကိုရင်မှာ လူမှန်းမသိအောင် ဖျားလိုက်တာ၊ ငါတော့ ရမယ်တောင် မထင်ဘူး၊ သေမှာဘဲလို့ တထစ်ချ မှတ်ထားတာ၊ ကံကောင်းလို့ပေါ့ကွယ်၊ ငယ်ငယ်ကလေးနဲ့ သုသာန်စောင့်သတဲ့ကွယ်"ဟူ၏။

ဂန္ဓာရုံဆရာတော်သည် ၁၃၀၁-ခု သက်တော်(၇၀)တွင် ဓနဖြူမြို့ ဂန္ဓာရုံတိုက်၌ ပျံလွန်တော်မူသွားပြီ။ ဤသုသာန်စောင့် အဖြစ်အပျက်ကို စာရေးသူ ၏ အဖေကလည်းကောင်း၊ ထိုစဉ်က ဂန္ဓာရုံဆရာတော်လောင်းနှင့် ကျောင်းနေဖက် ညီဝမ်းကွဲတော်သူ ဦးဖိုးကင်း(စာရေးသူ၏ ဝမ်းကွဲဦးလေး)က လည်းကောင်း

အကြောင်းစုံ ပြောပြသဖြင့် သိရခြင်း ဖြစ်ပါသည်။

ဤသို့သောအဖြစ်မျိုးကို ထောက်ထား၍ သုသာန်ဓုတင်ကို အသက်အရွယ်ငယ်သူသော်လည်းကောင်း၊ အဖော်မပါလျှင်သော်လည်းကောင်း ဆောက်တည်ရန် မသင့်ချေ။ ဘုန်းတော်ကြီး ဦးအုန်းခိုင်မှာ သက်ရွယ်ကြီးရင့်၍ သတ္တိရှိပြီး ဖြစ်သော်လည်း အဖော်ရဟန်းတစ်ပါးကို သုသာန်သို့ ခေါ်သွားလေ့ရှိသည်။ အန္တရာယ်များသော ဌာနဖြစ်၍ တစုံတရာ အကြောင်းပေါ်လာက အဖော်မပါလျှင် ခက်ဘိတောင်း။

## ဘုန်းတော်ကြီး ဦးအုန်းခိုင်

ဘုန်းတော်ကြီး ဦးအုန်းခိုင်ကား လွန်ခဲ့သော နှစ်ပေါင်းငါးဆယ်ကျော်လောက်က မြန်မာနိုင်ငံတွင် ပဋိပတ်ဘက်က ထင်ရှားကျော်စောတော်မူသော ဘုန်းတော်ကြီး ဦးသီလ၏ တရားတော်ကို ကြားနာရသူ (ကြည်ညိုလေးစားသူ) တပည့်ဖြစ်သည်ဟု သိမှတ်ခဲ့ရပါသည်။ ဘုန်းတော်ကြီး ဦးသီလသည် ၈–ဝါအထိ ပိဋကတ်ကျမ်းဂန်တွင် နှံ့စပ်တတ်မြောက်အောင် သင်ယူတော်မူပြီးနောက် ၉–ဝါ ရရှိပြီးသောအခါ ပဲခူးနယ် ဈေးညောင်ပင်ရွာ သုသာန်၌ ရှေးဦးစွာ နေတော်မူ၍ နောက်တွင် ရွာမှ ကုလားလေးတာ ငါးရာကျော်ဝေးသော တောရကျောင်း၌ နေသည်။ ရဟန်း ၁၂–ဝါမှစ၍ ဓုတင် ၁၀–ပါး ၁၁–ပါးအမြဲ၊ ၁၂–ပါး ၁၃–ပါး ရံခါရသည်။ တောကျောင်းနှင့် သုသာန်ကား ခရီးသွားခိုက် ဖြစ်ပါက ရသည်လည်းရှိ၏။ မရသည်လည်းရှိ၏။ ပိဏ္ဍပါတ်ဓုတင်၊ သပဒါနစာရိကဓုတင်တို့ဖြင့် နေ့စဉ် ဆွမ်းခံတော်မူ၏။ အရွယ်ကြီးသောအခါ ကျောင်းသို့ အရောက်လာ၍ ဆွမ်းလောင်းကြ၏။ ပံ့သကူဓုတင် ဆောင်ရာ၌ အဝတ်နွမ်းကို ကောက်၍ ချုပ်ဆိုးရသည် မရှိ၊ အချို့ကား သုသာန်၌လည်းကောင်း၊ လမ်းမ လမ်းဆော်၌လည်းကောင်း၊ သင်္ကန်းချထားခဲ့၍ အသုဘရှု ကြွတော်မူပါဟု လာပင့်ကြ၏။

အချို့ကား စကြံ၌လည်းကောင်း၊ ကုဋီလမ်း၌လည်းကောင်း ချထား၍ "အဖူး အမြော်ခံ ကြွတော်မူပါ"ဟု လာပင့်ကြ၏။ အချို့ကား ခြေရင်းအနီး၌ ချထားကြ၏။ ပုံသကူသင်္ကန်းကို ကောက်ယူ ဝတ်ဆင်ပြီးလျှင် အဟောင်းကို စွန့်တော်မူ၏။ တိစီဝရိက်ဓုတင်လည်း မြဲ၏။ ရံခါ တနေ့တည်း ငါးကြိမ် ခြောက်ကြိမ် အသစ်လဲရ၏။ မလဲမူ၍ ရမြဲတိုင်းစွန့်ထားသော ပုံသကူသင်္ကန်းတို့လည်း တပုံကြီးဖြစ်၏။ "ဝမ်းမနာဘဲ ကုဋီသွားရသည်၊ မသာမရှိဘဲ အသုဘရှုလိုက်ရသည်"ဟု ရံခါ မိန့်တော်မူလေသည်။ ဆွမ်းဘုဉ်းပေးသောအခါ ကောသနိက် ပတ္တပိဏ်ဓုတင်ဖြင့် တစ်နေရာတည်း တစ်ခွက်တည်း ဘုဉ်းပေးတော်မူသည်။ သက်သတ်လွတ်သာ အမြဲဘုဉ်းပေးတော်မူသည်။

## အတုလိုက်ကြခြင်း

မိမိနှင့်တွေ့ဆုံသော ရဟန်းတို့အား တောကျောင်းနေချင်အောင် ဟောလေ့ရှိ၏။ အများအားဖြင့် ကျမ်းဂန်တတ် ပုဂ္ဂိုလ်တတ် ပုဂ္ဂိုလ်များ အတုလိုက်ကြကုန်၏။ ရွာကျောင်းစွန့်၍ တောကျောင်းနေကြ၏။ နေ့စဉ်လည်း ဆွမ်းခံလေ့ရှိကြ၏။ ကျမ်းဂန်ဗဟုသုတ ရှိပြီးဖြစ်သောကြောင့် မိမိကိုယ်ကို သဒ္ဓါတရား အတုအစစ် ဝေဖန်နိုင်ကြ၏။ သတိတရား ပြည့်ဝသောအခါ ဆုတ်နစ်ခြင်း မရှိကြကုန်။ ရဟန်းငယ်တို့အား စာသင်ခြင်းကိုသာ တိုက်တွန်းတော်မူလေသည်။

## တရား ဟောတော်မူပုံ

ဘုန်းတော်ကြီးဦးသီလသည် တရားဟောတော်မူသောအခါ "သူ့အသက် မသတ်နှင့်၊ သူ့ဥစ္စာမခိုးနှင့်၊ သန်းဥမတုပ်နှင့် ငရဲကြီးသည်။ သရက်ပင်စိုက်မှ အသီးချိုသည်။ တမာပင်စိုက်လျှင် အခါးသီးသည်။ ရတနာသုံးပါးကို အစစ်အမှန်

ဟု ယုံကြည်ကြ" ဤအနေမျှ ဟောပြီးလျှင်"သွားကြ သွားကြ"ဟု မိန့်တော်မူလေ့ရှိသည်။ တရားနာသို့ကား တသက်လုံး မမေ့နိုင်ကြ။"သန်းဥမတုပ်နှင့်"ကိုပင် နှစ်သက်စွာ နာယူ ထိတ်လန့်ကြ၏။ တရံတခါကား ရူပက္ခန္ဓာ အနိစ္စ ဒုက္ခ အနတ္တ စသည်ဖြင့် ခန္ဓာငါးပါး ဝိပဿနာ တင်ပုံမျှလောက် ချပေးတော်မူသည်။ ဘုန်းတော်ကြီးနှင့် သုံးဝါခန့် အတူနေဘူးသော မထေရ်တစ်ပါး မိန့်တော်မူဘူးသည်ကား "ဘုန်းတော်ကြီး အမြဲလက်သုံး နှလုံးသွင်းတရားသည် ငါတို့သိသော နည်းနှင့် မကွာလှ၊ မဆုတ်မနစ် စွန့်စားခြင်းနှင့် ဖြောင့်စင်းခြင်းမျှသာ ကွာသည်" ဟူ၏။

### လာဘ်ပေါ်ခြင်း

ရောက်ရာအရပ်တို့၌ ဖယောင်းတိုင်၊ မီးခြစ်၊ ဆပ်ပြာ၊ သပိတ်၊ သင်္ကန်း၊ ကော်ဇော၊ ဆေးပုလင်းစသော လာဘ်တို့ဖြင့် ပေါများလှ၏။ ထိုလာဘ်တို့ကို ရောက်ရာကျောင်း၌ သံဃာတို့အား အကုန်လှူသည်။ မိမိကား သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်၊ သားရေနွယ်တစ်ချပ်မျှဖြင့် ရောင့်ရဲတော်မူ၏။ ရံခါ ကပ္ပိယ မပါဘဲ တစ်ပါးတည်း ကြွရာ၌ မိမိပရိက္ခရာအားလုံးကို ပေါ့ပါးလွယ်ကူစွာ ယူဆောင်၍ မပင်မပန်း ကြွသွားတော် မူနိုင်လေသည်။ သားရေနယ်ကား ခပ်ပါးပါး ခပ်ကြီးကြီးဖြစ်၍ ဆောင်းအခါ အိပ်ရာထဲ၌ ခြုံသည်၊ စောင်ခြုံလေ့မရှိ။ ဤကား ဘုန်းတော်ကြီး ဦးသီလ၏ အကြောင်းအရာ အကျဉ်းချုပ်တည်း။

ဘုန်းတော်ကြီး ဦးသီလသည် မော်လမြိုင်၊ မုတ္တမ၊ သထုံ၊ ဇင်းကျိုက်၊ ကျိုက်ထို၊ ရွှေကျင်၊ ဘီလူးကျွန်းစသော တနင်္သာရီတိုင်းအတွင်းရှိ မြို့ရွာတို့သို့ လှည့်လည်ကြွသွားတော်မူကာ တောရဆောက်တည်တော်မူခဲ့သည်။ မော်လမြိုင်မြို့နှင့် မုဒုံကြား ကျောက်တလုံးတောရသို့ (ဦးလေးတော် ဂန္ဓာရုံဆရာတော်

သီတင်းသုံးခိုက်) စာရေးသူကိုယ်တိုင် ရောက်သွားဘူးသဖြင့် ဘုန်းတော်ကြီး ဦးသီလ သီတင်းသုံးသွားဘူးသော ဂူကြီးကို တွေ့မြင်ခဲ့ရပါသည်။ ယခုအခါ ပြိုပျက်နေချေပြီ။ ဤသို့ လှည်လည်ကြွသွားတော်မူသဖြင့် ကျောင်းကန်နေရာ ဒကာ ဒကာမ ရဟန်းတပည့် လူတပည့်တို့လည်း အမြောက်အမြားပင် ရှိခဲ့သည်။ ဤသို့သော တပည့် အမြောက်အမြားတို့တွင် ဘုန်းတော်ကြီး ဦးအုန်းခိုင်လည်း တစ်ပါးအပါအဝင် ဖြစ်သည်ဟု ပြောစမှတ် ပြုကြသည်။

ဘုန်းတော်ကြီး ဦးသီလ၏ ကျင့်စဉ်အတိုင်း ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် ဆွမ်းခံခြင်း၊ သက်သတ်လွတ်စားခြင်း၊ တောရဆောက်တည်ခြင်း၊ သုသာန်ဓုတင် စသည်တို့ကို ဆောက်တည်ခြင်း၊ မဆုတ်မနစ် စွန့်စားခြင်း၊ ဖြောင့်စင်းခြင်းတို့နှင့် ပြည့်စုံတော်မူသည်။ ပဋိပတ်အလုပ်ကို လုပ်ရာ၌ မိမိသိသမျှကို စွန့်စွန့်စားစား နောက်မဆုတ်တမ်း ဖွဲကောင်းကောင်းနှင့် အားထုတ်ဖို့အရေးကြီးကြောင်းကို ဘုန်းတော်ကြီးသည် နှုတ်ဖြင့်မပြော အလုပ်ဖြင့်သာ ပြောတော်မူသည်။

## နောက်ညများ

ဒုတိယ၊ တတိယ၊ စတုတ္ထ ညများ၌လည်း အစိမ်းသေမြှုပ်ရာ သုသာန်သို့ပင် ကြွရောက် ဆောက်တည်ကြရသည်။ ဘုန်းတော်ကြီးကိုယ်တိုင် စွန့်စွန့်စားစား မားမားမတ်မတ် ရပ်တည်တော်မူကာ သွန်သင်လမ်းပြသည့် အလား ကြိုးစားတော်မူသဖြင့် အရှင်သောဘနမှာ ပဋိပတ်သို့ ညွတ်ကိုင်းသော စိတ်ရှိရာတွင် ဤသို့သော နေရာ ဤသို့သောပုဂ္ဂိုလ်မြတ်ကြီးမှ ဓာတ်ကောင်းကူးစက်သဖြင့် အားတက်သော စိတ်များသာ တိုးပွားခဲ့လေသည်။

## သုသာန်ဆောက်တည်ရသောအကျိုး

စကားအလျဉ်းသင့်သဖြင့် သုသာန်ဓုတင် ဆောက်တည်ရသောအကျိုးကို သင့်ရုံ ဖော်ပြလိုပါသည်။ သုသာန်သချိုင်း၌ အကာလ ညအခါတွင် ငြိမ်သက်စွာ ဆောက်တည်ရခြင်းဖြင့် -

၁။ ငါလဲ သေရဦးမည်ဟူသော မရဏာဿတိတရား ထင်ရှားဖြစ်ပေါ် လာခြင်း။

၂။ ဤသို့သော သုသာန်အတွင်း၌ မေ့လျော့နေခြင်းငှာ မသင့်ဟု အပ္ပမာဒ (သတိ)တရား ဖြစ်ပေါ်လာခြင်း။

၃။ ခန္ဓာကိုယ်မှန်သမျှ မတင့်တယ်၊ စက်ဆုပ်ဖွယ်သာ ဟူသော အသုဘ နိမိတ်ကို ရရှိခြင်း။

၄။ ခန္ဓာကိုယ်သည် ပျက်စီးတတ်၏၊ အခိုင်အမြဲမဟုတ်ပါတကားဟု ခန္ဓာကိုယ်၏သဘောကို သိမြင်နိုင်လာခြင်း။

၅။ ခန္ဓာကိုယ်အပေါ်၌ ထိတ်လန့်သော သံဝေဂ ဉာဏ်မျိုးများစွာ ဖြစ်ခွင့် ရခြင်း။

၆။ သုသာန်၌ မြှုပ်နှံထားသော အလောင်းတို့မှာ နပျိုစဉ် အနာရောဂါ တစ်ခုခုကြောင့် သေဆုံးရသူ၊ အိုမင်း ရင့်ရော်၍ သေဆုံးရသူတို့သာ ဖြစ်ကြသည်ဟု သဘောပေါက်သဖြင့် "ငါဟာ ရောဂါကင်းသူဟု မာန်တက်ခြင်း အာရောဂျမဒ၊ ငါဟာ ပျိုရွယ် ငယ်နုသူဟု မာန်တက် ခြင်း ယောဗ္ဗနမဒ၊ ငါဟာ အသက်ရှည်သူဟု မာန်တက်ခြင်း ဇီဝိတမဒ၊ ဤမာန်တက်ခြင်း သုံးမျိုးကို ပယ်နိုင်ခြင်း။

၇။ ဖြစ်ပေါ်လာသော ဘေးရန်များကို ခံနိုင်ရည်ရှိခြင်း။

၈။ ဘီလူး၊ သဘက်၊ သချိုင်းပြိတ္တာတို့ မခြောက်မလှန့် အလေးပြုထိုက် ခြင်း။

၉။ ပစ္စည်း လာဘ်လာဘ တို့ကို ရလိုသော သဘောများနည်းပါးခြင်း ဟူသော အကျိုးများကို အထိုက်အလျောက် ရရှိနိုင်သည်။

၁၂၉၃–ခု၊ တပို့တွဲလဆုတ် ၁၃–ရက်နေ့ည သုသာန်ဓုတင် ဆောက်တည်၍ ထိုညတစ်ညလုံး သုသာန်၌နေပြီးလျှင် ထိုမှ သထုံမြို့သို့ ခရီးဆက်ရန်ရှိသဖြင့် ယနေ့နံနက်ပင် သထုံဘက်သို့ သွားရပါမည့် အကြောင်းနှင့် ဘုန်းတော်ကြီးအား ကြိုတင် လျှောက်ထားပြီး ဖြစ်လေသည်။ ဤသို့ လျှောက်ထားပြီး ဖြစ်သည့်အတိုင်း ထိုနေ့နံနက်စောစော သုသာန်မှ ထွက်ခွာလာကာ ဘုန်းတော်ကြီးနှင့် အတူပင် ဆွမ်းခံရွာတွင် ဆွမ်းခံခဲ့၍ တောကျောင်းသို့ ပြန်မလိုက်တော့ဘဲ တဆက်တည်း ကျိုက်ကော်သို့ မှန်း၍ ခြေကျင်ကြွလာသည်။

လမ်းခရီးတွင် အမည်မသိ ရွာတစ်ရွာသို့ ရောက်သောအခါ ရွာပြင်ဘက် ခြံတစ်ခုရှိ သစ်ပင်တစ်ပင်အောက်၌ ခေတ္တရပ်နား၍ ပါလာသော ဆွမ်းဖြင့် နေ့ဆွမ်း ကိစ္စကို ပြီးစေတော်မူသည်။ ကိစ္စပြီး၍ ခရီးဆက်ပြန်ရာ တပို့တွဲ လဆုတ် ၁၄– ရက် (လကွယ်နေ့) နေမဝင်မီပင် ကျိုက်ကော်ရွာ သုခိတာရုံ ရွှေကျင်ကျောင်းသို့ ဆိုက်ရောက်တော်မူ၍ ထိုကျောင်းတွင် ဥပုသ်ပြုတော်မူသည်။

အရှင်သောဘနသည် မော်လမြိုင်မြို့မှ ထွက်ခွါလာ၍ ဇင်းကျိုက်တောင်၊ ကေလာသတောင်၊ မြသပိတ်တောင်၊ ဝေပုလ္လတောင် ဟူသော တောစခန်း တောင်စခန်းများကို လှည့်လည်ကြည့်ရှုယင်း စေတီတော်များကို ဖူးမြော်ရာ၌ ကျိုက်ထီးရိုးတောင်ထိပ်အထိ ရောက်အောင် ခြေကျင်တက်၍ ဖူးမြော်ခဲ့ခြင်း၊ ကျိုက်ထီးရိုးတောင်မှ ဆင်းကာ ခြေကျင်ခရီးဖြင့် ရောက်ရာတွင် စခန်းချ၍ ကော့ကဒွတ်ကျောင်းကြီးအထိ လာခဲ့ခြင်း၊ ထိုမှတဖန် ရွှေရောင်ပြတောရ ဘုန်းတော်ကြီး ဦးအုန်းခိုင် ကျောင်းသို့ ရထားတတန် ခြေကျင်တတန်ဖြင့် လာခဲ့ ခြင်း၊ ဘုန်းတော်ကြီး၏တပည့် ရဟန်းတော်များနှင့်အတူ ၄–ညတိုင်တိုင် ဆိုင်ရာ

စုတင်များကို ကျင့်သုံးခဲ့ခြင်း၊ ဤသို့သော ကြိုးပမ်းချက်တို့မှာ ပဋိပတ်လုပ်ငန်း၏ အုတ်မြစ်ချ အခြေခံမျှသာဟု သဘောပိုက်တော်မူလေသည်။

ပဋိပတ်ကို အားထုတ်ရာ၌ ကျန်းမာဖို့၊ ဆင်းရဲဒုက္ခများကို ခံနိုင်ရည်ရှိဖို့၊ ကိုယ့်အသက် ကိုပင် မငဲ့ညှာဘဲ စွန့်စားနိုင်ဖို့၊ ဆရာကောင်း ဟူသော (ဥပနိဿယ) အမှီကောင်းရဖို့ အရေးကြီးလှ၏။ အရှင်သောဘန၏ ရည်မှန်းချက်ကား – သထုံမြို့ မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးထံ အရောက်သွား၍ သတိပဋ္ဌာန် လက်တွေ့လုပ်ငန်းစဉ်ကို ထိထိရောက်ရောက် သင်ယူလေ့လာ အားထုတ်ရန်ပင် ဖြစ်ပေသည်။

## အရှင်သောဘနစဉ်းစားမိပုံ

"သထုံမြို့ မင်းကွန်းဇေတဝန် ဆရာတော်ဘုရားသည် ဘုရားဟော ပါဠိတော်၊ မဟာသတိပဋ္ဌာနသုတ်(သတိပဋ္ဌာန်)နည်းဖြင့် လက်တွေ့ တရား အားထုတ်ပုံကို ရှင်းလင်းအောင် ဟောပြနေတော်မူသည်။ ငါတို့ကိုယ်တိုင်လည်း မဟာသတိပဋ္ဌာနသုတ် ပါဠိ အဋ္ဌကထာ ဋီကာများကို ပရိယတ္တိနည်းအရ ကောင်းကောင်း လေ့လာသင်ကြားထားပြီးပင် ဖြစ်သည်။ သို့ရာတွင် မင်းကွန်း ဇေတဝန် ဆရာတော်ကြီးမှာ သာမာန်ပုဂ္ဂိုလ် မဟုတ်ပေ၊ ပါဠိ အဋ္ဌကထာ ဋီကာ ပိဋကတ်ဆိုင်ရာတို့၌ ကျနစွာ တတ်မြောက်တော် မူသည့်ပြင် တရားကိုလည်း ထိထိရောက်ရောက် လက်တွေ့ကျင့်သုံးထားပြီး ဖြစ်ပေသည်။ တပည့် ရာထောင် များစွာတို့အားလည်း လက်တွေ့ညွှန်ပြ ဟောကြားနေသော ဆရာတော်ကြီး ဖြစ်တော်မူပေသည်။ သို့ဖြစ်၍ ပရိယတ်ပဋိပတ် စွယ်စုံဖြစ်တော်မူသော ဇေတဝန် ဆရာတော်ကြီးထံတွင် လက်ဆုပ်လက်ကိုင် ရရှိအောင် နည်းနိဿယ ခံယူကာ အားထုတ်သင့်သည်"ဟု စဉ်းစားထားယင်း ရှိတော်မူသည်။

သုခိတာရုံကျောင်းတွင် တစ်ညဦးကျိန်းစက်၍ နံနက်အချိန် ဆွမ်းကိစ္စပြီးလျှင် ကျိုက်ကော်မှ သထုံသို့ ထွက်ကြွလာခဲ့သည်။ နားနားနေနေ တစ်နေ့လုံး လျှောက်လာခဲ့ရာ ၁၂၉၃–ခု၊ တပေါင်းလဆန်း ၁–ရက်နေ့ ညနေတွင် သထုံမြို့ ယခင်တည်းခိုခဲ့ရာ ကျောင်းသို့ ဆိုက်ရောက်တော်မူသည်။

ပျို့ရွယ် ငယ်နတော်မူစဉ်ဖြစ်၍ ဤမျှလောက် အပင်အပန်း ခံနိုင်ရည် ရှိတော်မူခြင်း ဖြစ်ပေသည်။ ပဋိပတ်ဘက်သို့ စိတ်ပါဝင်စား လိုလားကိုင်းညွတ်ခြင်း မည်မျှ ထက်သန်(ပြင်းထန်)စေကာမူ အရွယ် အိုမင်း၍ ကျန်းမာခြင်း မရှိခဲ့လျှင် ဤမျှလောက် အပင်ပန်းခံနိုင်မည် မဟုတ်ချေ။ သို့ဖြစ်၍ ရဋ္ဌပါလသုတ်တွင် မြတ်စွာဘုရားဟောတော်မူခဲ့သည်မှာ –

ယုဝါစရေ ဗြဟ္မစရိယံ၊ ဗြဟ္မစာရီ ယုဝါသိယာ။

ယုဝဿ ဗြဟ္မစရိယံ၊ ဧတံ ဗုဒ္ဓေဟိ ဝဏ္ဏိတံ။

ဗြဟ္မစရိယံ၊ မြတ်သောအကျင့်ကို။ ယုဝါ၊ ပျို့ရွယ်ငယ်နစဉ်က (ပျို့ရွယ် ငယ်နသောသူသည်။) စရေ၊ ကျင့်ရာ၏။ ဗြဟ္မစာရီ၊ မြတ်သောအကျင့်ကို ကျင့်သူသည်။ ယုဝါသိယာ၊ ငယ်ရွယ်သူ ဖြစ်ရာ၏။ ယုဝဿ၊ ပျို့ရွယ်ငယ်န သူ၏။ ဧတံ ဗြဟ္မစရိယံ၊ ဤသို့ မြတ်သောအကျင့် ကျင့်ခြင်းကို။ ဗုဒ္ဓေဟိ၊ မြတ်စွာဘုရားတို့သည်။ ဝဏ္ဏိတံ၊ ချီးမွမ်းတော် မူအပ်၏။

ထိုသုတ်ကိုမှီး၍ ကိုးခန်းပျို့ ပိုဒ် (၄၁) ၌ –

ယစ်မူးစည်းစိမ်၊ မေ့ထိမ်ကုသိုလ်၊ ဝန်တိုဆို့ပိတ်၊ ရမ္မက်စိတ်ဖြင့်၊ ညစ်ကြိတ်ယန္တရား၊ ကြံဖတ်လားသို့၊ မြေသားမြေစည်၊ ပျော်တာရှည်၍၊ ချစ်ရည်ခန်းခြောက်၊ အိုမင်းရောက်မှ စွန့်မြောက်လူ့ဘော်၊ တောထွက်သော်လည်း၊ မလျော်လည်းကောင်း၊ ဇရာထောင်းမူ၊ ပျောင်းပျောင်းညှံ့ညှံ့၊ ငါဆော်အံ့ဟု၊ မခံလုံ့လ၊ ထကြွပျဉ်းထိုင်း၊ လိုတိုင်းမပါ၊ ပညာပေတုံး၊ နလုံးလည်းငြီး၊ နူတ်သီးလှုပ်ဆန်း၊

စီးဖြန်းဘာဝနာ၊ များစွာမပြန့်၊ မိုတ်တုတ်ကြန့်ခဲ့၊ တောင်ညွှန့်ကုန်းတက်၊ ကမ်းရိုးသက်ဝယ်၊ အနက်အဖြိုး၊ ရေပြည့်အိုးကို၊ ကြိုးကြိုးပမ်းပမ်း၊ မဖိတ်ထမ်းလည်း၊ လူစွမ်းသဖွယ်၊ ပျိုနုနယ်က၊ စင်ကြယ်သိမ်မွေ့၊ ရသေ့ရဟန်း၊ ဖြစ်ထွန်းလေငြား၊ ထိုသူအားကို၊ ဘုရားကစ၊ ပဏ္ဍိတတို့၊ လွန်လှကြည်ညို၊ ချီးမွမ်းဆို၏၊ ထိုထိုစာနှာ၊ ငယ်သောခါက၊ သဒ္ဓါနှိုးပင့်၊ တရားကျင့်လိမ့်၊ သက်ရင့်မကြီး လမိတည်း။

အသိဉာဏ်ဟူသော နာမ်တရားသည် ရုပ်ကိုမှီရ၏၊ မှီရာဖြစ်သော ရုပ်က ပျိုရွယ်နုထွား အားရှိနေလျှင် မှီတတ်သော နာမ်တရားလည်း အားရှိ၏။ အသိဉာဏ် နာမ်အားရှိမှ အမှန်တရားကို ဖျတ်လတ်လျင်မြန်စွာ ထိုးထွင်းသိနိုင်ပေမည်။ သို့ဖြစ်၍ ပျိုရွယ်နုနယ်စဉ် အခါက တရားအားထုတ်ခြင်းကို မြတ်စွာဘုရား ချီးမွမ်းတော်မူခြင်း ဖြစ်ပေသည်။

## ဆင်းရဲခံနိုင်ခြင်း၏ အကြောင်းရင်း

အရှင်သောဘနသည် ဖိနပ်မပါ စောင်မပါဘဲ ဤမျှသော ခရီးခဲနှင့် ဤမျှချမ်းအေးသောရာသီဥတုတွင် ခြေကျင်သွားခြင်းကို အားကိုးကာ ဆင်းရဲပင်ပန်းစွာ ထွက်ကြွလာနိုင်ခြင်း (ခံနိုင်ရည်ရှိခြင်း) မှာ- ငယ်စဉ်ကစ၍ ဆင်းရဲသော မိဘ၏ အရိပ်အငွေ့၌ ဆင်းရဲကို တွေ့နေကျဖြစ်သောကြောင့် ဆင်းရဲခံနိုင်ခြင်း ဖြစ်သည်ဟု ထင်ကောင်းထင်ကြမည်၊ ဤသို့ကား မဟုတ်ချေ။ ဤနေရာ ခေတ္တ ရပ်ဆိုင်း၍ အရှင်သောဘန၏ ဇာတိမြစ်ရင်းနှင့် ကြီးပွားလာခဲ့ပုံများကို စာရှုသူတို့ ကြည်ညိုဖွယ် ဖြစ်စေရန် အချုပ်အားဖြင့် ဖော်ပြပါအံ့။

မြန်မာရာဇဝင် ကုန်းဘောင်ဆက်၏ မူလ ရေသောက်မြစ် ဖြစ်သော ငါးမည်ရ ပြည်ရွှေဘိုခေါ် ရွှေဘိုမြို့မှ အနောက် (၇)မိုင်ကွာ ဆိပ်ခွန်ရွာတွင် သက္ကရာဇ် ၁၂၆၆-ခုနှစ်၊ ဒုတိယ ဝါဆိုလပြည့်ကျော် ၃-ရက်၊ သောကြာနေ့

နံနက် (၃)နာရီ အချိန် အဖ ဦးကံဘော်၊ အမိ ဒေါ်ဖွားအုပ်တို့မှ ဖွားမြင်ခဲ့သော သားကောင်းရတနာ ဖြစ်ပေသည်။ ငယ်မည်မှာ သောကြာသား ဖြစ်၍ မောင်သွင်ဟု မှည့်ခေါ် ထင်ရှားလေသည်။

မဟာစည် ဆရာတော်၏ ဖွားသက္ကရာဇ် လ ရက် နာရီ အပြည့်အစုံကို ရေးမှတ်ပြီးလျှင် ဗေဒင်လွှတ်တော် ကျိုက်လတ် ဆရာချစ်ထံသွား၍ မည်သူ၏ ရက်ချုပ်ဟူ၍ မဖော်ပြဘဲ ဇာတာနှင့် ဟောစာတမ်းလောက်ကိုသာ ရေးပေးပါရန် တောင်းပန်ကာ သက္ကရာဇ် လ ရက် နာရီ များကိုသာ ပေးထားခဲ့ရာ မကြာမီပင် ဇာတာပုံနှင့်တကွ ဟောစာတမ်းကို စာရေးသူထံသို့ ပေးပို့လိုက်ပါသည်။ ဆရာချစ်အားလည်း ဉာဏ်ပူဇော်ခ ငါးကျပ် ပူဇော်လိုက်ပါသည်။ မဟာစည်ဆရာတော်၏ ဇာတာဟူ၍ ဆရာချစ် မသိပါချေ။




| စင် |
| --- |
| ၂၂ |
| ၁ |
| ၅ |
| ၀ |
| ၈ |



သက္ကရာဇ် ၁၂၆၆-ခု၊ ဒုတိယဝါဆိုလပြည့်ကျော် ၃-ရက် သောကြာနေ့ နံနက် စက်(၃)နာရီသာသာမှာ မွေးဖွားသည်။

## ဇာတာဘွဲ့ တေးထပ်

ဆဲ့နှစ်စုံဒွေဇက်၊ ဝသန်ခေတ်ချိန်ခါ၊ ဒုတိယ လ နွယ်တာ၊ ဆုတ် ပက္ခာ ကြိမ်ရေ။ ။ သုံးရက်မြောက်နေ့ သောကြာ၊ မေထုန်မှာ လက်နှင့်ခြသေ့်။ ။ ကြကင့်စက်ဘုံမှာ၊ ငှက်ဂဠုန် ဆင်ဇေ့။ ပူးမက္ခာ ညီညာမွေ့ပါလို့၊ သီဟာမွေ့ ဟိုင်းမှီ။ ။ စန်းစနေ မကာရ၊ ဂြိုဟ်ဇီဝမိဿမှာတည်။ ။ လင်းအရဏ် မလာမီ၊ သုံးနာရီသာသာ ရှိချိန်၌၊ မာတာမိ အားတက်ရှင်ကာ၊ ဖွားလျက် မြင်လာ။ ။ မြတ်သုံးဝ မှူးမျက်ရတနာကို ဦးထက်မှာ ပန်ရင်းနှင့်လေး။

## ဇာတ်နက္ခတ်စသည် အဟော

အထက်ပါ ဇာတာရှင်မျာ "စမ္မခဏ်း၊ ယမ္မခဏ်း၊ ခေါ်မှန်း နှစ်ပါး၊ ဖွားဇာတ် နံဇာတ်၊ ပညတ်နှစ်ဘော်၊ ဥစ်နှင့်သော်မူ၊ အကျော်ငါးခွင်" ဆိုသည့်အတိုင်း အကျော်ငါးပါး ရှိသည့်အနက် ဖွားဇာတ်ဆန်း ပါပအိမ်ဖြစ်သော မေထုန်ရာသီ၌ မူလလက်တည်ခြင်း၊ ဖွားဇာတ်ပျက် ကောလီအိမ်ဖြစ်သော မကာရရာသီ၌ မူလ စန်းရှိခြင်း၊ အမြိတ္တ အာပေါဇာတ်အိမ်၌ မွေးနံ သောကြော အာပေါဂြိုဟ်တည်၍ နံဇာတ်မိခြင်း ဟူသော ဖွားဇာတ်အကျော်နှင့် နံဇာတ်အကျော် (၂)ပါးကို ရရှိသဖြင့် လူ့လောက၌ ထင်ပေါ်ကျော်ကြားသော ယောကျ်ားကောင်း ပုဂ္ဂိုလ်ထူး ဖြစ်မည်။

ၡင်းအပြင် ပါပဖွား ဇာတ် နက္ခတ်သေ (၁၈)လုံး ၂-ပါဒ်သည် စတုရပါဒ် အားဖြင့် ခနရာသီ၌ရှိ၍ၡင်း၊ ခနရာသီအိမ်ပိုင်ရှင် ကြာသပတေး၏ နံဇာတ်

ရာသီပြိဿနှင့် သောကြာမွေးနံ၏ စမ္မခဏ်းရာသီတို့ ထပ်မိခြင်း၊ ထိုသို့ ထပ်မိသော ရာသီအိမ်မှာ မူလလက်မှ ထောက်သော် ဗျာယကြုံခြင်းတို့ကြောင့် ၎င်းဇာတာရှင်မှာ မင်း အမတ် စစ်သူကြီး စသော ဂုဏ်အသရေရှိ ဂိုဏ်းဝင်ပုဂ္ဂိုလ်ဖြစ်မည်။ ဤအချက်ကို ဟောရခြင်းမှာ –

"စတုရပါဒ်၊ နက္ခတ်နှင့်သာ၊ ဖွားခါမည်မှတ်၊ ဇာတ်နက္ခတ်သော၊ တူလေရာသီ၊ ယှဉ်မှီကသစ်၊ ကိန်းလျှင် ဖြစ်၏။ ကသစ်ကိန်းမှီ၊ ဇာတ်ရာသီနှင့်၊ ပြိုင်ညီထွန်းပ၊ စမ္မခလျှော်၊ ယမ္မခေါ်သည်၊ နှစ်ဘော်ရာသီ၊ ထိုငါးလီသည်၊ အာရီဗျာယ၊ မရဏာစင်စစ်၊ ရောက်သည်ဖြစ်မူ၊ ကသစ်အိမ်ရှင်၊ ဂုဏ်အင်နှင့်သော်၊ ထိုက်လျော်ကဲမိုး၊ အစိုးရခြင်း၊ မင်းလျှင်တသီး၊ စစ်သူကြီးက၊ စသည်ထင်ပေါ်၊ လူ့ဒွ ကျော်သည်။ ။တောဇော်ကြီးမြင့် မောက်ဖြိုးတည်း။"

ဟူသော ပညာရှိ မင်းတိုင်ပင်အမတ် မင်းလှကျော်ထင်၏ စကားကို ကိုးကား၍ ဟောရခြင်း ဖြစ်ပေသည်။

၎င်းပြင် ပြည့်စန်းနက္ခတ် ၁၉–လုံး ၂–ပါဒ် ၄–ဃဋီသည် မေထုန်လက်ကို မြင်လျက်ရှိသည့်အပြင် ဗျာယဇာတ် အိမ်ရှင် တနင်းလာနှင့် ဥပဒ် ကြုံလျက် ရှိချေသည်။ ဖွားစင်နက္ခတ် ၂၂–လုံး ၁–ပါဒ် ၅ဃဋီသည် အာရီဇာတ် အိမ်ရှင် စနေ၏ ယမ္မခဏ်း ဖြစ်သည့်ပြင် တိုင်ဦးနက္ခတ် ၁၄–လုံး ၃–ပါဒ် ၉–ဃဋီသည် ဗျာယအိမ်ရှင်သောကြာနှင့် ဥပဒ်ကြုံလျက် ရှိချေသည်။

ဤအချက်များ သည်လည်း အထက်ပါ ဟောချက်ကို ထောက်ခံသော အချက်များပင် ဖြစ်ပေသည်။

## လက်စန်းကြိုဟ်နေအဟော

နရလက်–ပသုလက်–အမ္ဗုလက်–ကီတလက် ဟူ၍ လက်၄–ပါး ရှိရာ အထက်ပါ ဇာတာတွင် မေထုန်ရာသီမှာ လက်တည်သောကြောင့် နရလက်ဟူ၍

ခေါ်ရပေသည်။ နရလက်တွင် အင်္ဂါဂြိုဟ်ပူး၍ အင်္ဂါကိန်း အစစ်ရသောကြောင့် "ကေသရ ကိန္နရကြုံမူ၊ ဖြူရှစ်စုံမိုးမယ့်ယောက်ျား၊ "ဆိုသည်နှင့်အညီ မင်းဖြစ်ခြင်း မင်းနှင့်တူသော စည်းစိမ်းရှိသည့် ပုဂ္ဂိုလ်ဖြစ်ခြင်းတို့ကို အဟောရှိပါသည်။ မေထုန်လက်အင်္ဂါပူး၍ မကာရစန်း စနေပူးသော သောကြာသား ဖြစ်ခြင်းကြောင့် "လက်နှင့်ဘောမ၊ တူစွမကျွာ၊ ဖွားသည်မှာကား၊ ယော်ကမသေ၊ ရှင်တုံပေမူ၊ ကြီးထွေသူ့အား၊ လွန်ကောင်းစားအံ့"ဟူ၍ လည်းကောင်း၊ "ဘောမတမူ၊ ပူးမူနဂါး၊ ထင်ရှားအာဏာ၊ ကေသရာသို့၊ အာဏာ လင်းပြောင်၊ အုပ်စိုးနှောင်သည်။ အခေါင်ထိုသူ့ဇာတာတည်း"ဟူ၍လည်းကောင်း အဆိုရှိသည့်အတိုင်း လောကတွင် ကြီးကဲသူ အုပ်စိုးသူ မြင့်မြတ်သူ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် ပုဂ္ဂိုလ်ချွတ် ဖြစ်တတ်ပေသည်။ မူလလက်မှ မွေးနံသောကြာ အိမ်ရှင်တူရာသီထိ ရေတွက်သော် ၅-တန့် ကြုံသောကြောင့် တစ်ဆောပွတ္တိဉာဏ်ကောင်းခြင်း၊ အခြွေအရံ ပရိသတ် ပေါများခြင်း များတတ်ပေသည်။ လက်၏ ၈-တန့် မကာရရာသီတွင် စန်းနှင့် စနေ ပူးခြင်းကြောင့် မတော်တဆ တွင်းဆိုး ကျင်းဆိုးသို့ ကျတတ်သည်။ ကြကဋ် ရာသီမှာ တနင်္ဂနွေ ဗုဒ္ဓဟူး သောကြာပူး၍ တြိဂြိုဟ ယုတ်ရသောကြောင့် အထူးထူးသော စည်းစိမ်ချမ်းသာရှိသူဖြစ်တတ်သည်။ ၁၁-တန့် လာဘအိမ်မှာ ကြာသပတေး တည်သောကြောင့် ပညာဉာဏ် အထူးကောင်းတတ်သည်။ မိတ်ကောင်းဆွေကောင်းများနှင့် ပေါင်းသင်း ဆက်ဆံရတတ်သည်။ ဆွေမျိုး အလယ်မှာ လစန်း သဖွယ်ကဲ့သို့ တင့်တယ်ခြင်း ရှိတတ်သည်။ ရာဟုဂြိုဟ် သိဟ်ရာသီမှာ တည်သောကြောင့် ယော်စဉ် ပိန်လှီ၍ ကြီးပြင်းမှ ဝဖြိုးလာတတ်သည်။ အရပ်တပါးမှာ ကျော်စောခြင်း ရှိတတ်သည်။

## တီသင်းစီးအဟော

တနင်္ဂနွေဂြိုဟ် ကြာသပတေး တီသင်းစီးသောကြောင့် ဂုဏ်ထူးဝိသေသ ရှိသော ပုဂ္ဂိုလ် ဖြစ်မည်။ တနင်္လာဂြိုဟ် ဗုဒ္ဓဟူး တီသင်းစီးသောကြောင့် ပညာရှိ ပုဂ္ဂိုလ်ဖြစ်မည်။ အင်္ဂါဂြိုဟ် အင်္ဂါတီသင်းစီးသောကြောင့် စွမ်းအား သတ္တိရှိမည်။ ဘုန်းတန်ခိုးရှိမည်။

ဤကား မဟာစည်ဆရာတော်၏ ဇာတာအရ
ဟောစာတမ်းဖြစ်ပါသတည်း။

## သာသနအမွေ ခံယူခြင်း

ဆိပ်ခွန်ရွာကို ချိုပါရွာနှင့်တွဲ၍ "ဆိပ်ခွန်ချိုပါ"ဟု ခေါ်လေ့ရှိကြသည်။ ထို ဆိပ်ခွန်ရွာကြီးကား အိမ်ခြေပေါင်း တထောင့် လေးရာ (၁၄၀၀)ရှိ လူချမ်းသာ ပေါများသော ရွာကြီးဖြစ်၍ အလွန်ထင်ရှားလှပေသည်။

ဦးကံဘော်၊ ဒေါ်ဖွားအုပ်တို့မှာ ကိုယ်တိုင်က အလွန်ကြွယ်ဝသူများ မဟုတ် ကြသော်လည်း ရှေးဘိုနယ်တွင် ပစ္စည်းဥစ္စာဘက်က အစဉ်အဆက် ချမ်းသာ ကြွယ်ဝလာသော ဆွေမျိုးညာတိတို့ဖြင့် သိုက်သိုက်ဝန်းဝန်းရှိသူများ ဖြစ်ကြလေ သည်။ သားသမီးများအား ချမ်းသာစွာ ကြီးပွားစေနိုင်သည် အားလျော်စွာ မဟာစည် အလောင်းအလျာဖြစ်သော သားငယ်ကို အရွယ်အလိုက် မိဘဝတ္တရား မပျက် ချီးမြှောက်ခဲ့ကြသည်။

အသက် ၆–နှစ် အရွယ်တွင် ဆိပ်ခွန်ရွာ ပျဉ်းမနားကျောင်း ဘုန်းတော်ကြီး ဦးအာဒိစ္စထံ၌ အပ်နှင်း၍ ပညာသင်စေခဲ့ရာ ပါရမီဓာတ်ခံ ဇာတိဉာဏ်ပါလာသော

သူငယ် ဖြစ်သည့်အတိုင်း သူငယ်တို့ ဆိုင်ရာ စာပေတို့ကို မပင်မပန်း ချမ်းသာစွာပင် ရေးနိုင် ဖတ်နိုင်သည်အထိ တတ်မြောက်ခဲ့လေသည်။

အသက်(၁၂)နှစ် အရွယ် ရောက်လျှင် ငယ်ဆရာရင်း ဘုန်းတော်ကြီးထံ၌ပင် (ရှင်ပြုမင်္ဂလာ ကျင်းပ၍) သာမဏေ အဖြစ်သို့ ရောက်အောင် ချီးမြှောက် ကြသည်။ ကိုရင်သောဘနဟု ဘွဲ့မည် ချည်ခဲ့သည်။ ဓာတ်ကြီး ၁၀-ဘွဲ့ သင်ရိုးများကို သင်ကြားရာ၌ ကိုရင်သောဘန၏ ဉာဏ်ထက်မြက်ပုံကို ရိပ်မိတော်မူလေပြီ။ သို့ဖြစ်၍ အဆင့်အတန်း မြင့်သော ပိဋကတ် အခြေခံ ကျမ်းများကို သဒ္ဒါ အခြေခံ ကျမ်းများကို သဒ္ဒါအခြေခံမရှိဘဲ သင်ကြားပေးတော်မူသည်။ ပိဋကတ်ကို သင်ကြား ရာတွင် သုတ်ပြီး ရုပ်ပြီးဟူသော သဒ္ဒါ သဘောများ ရှိထားရမြဲ ဖြစ်လေသည်။ ကိုရင် သောဘနအား ဘယ်ဝိဘတ် ဘယ်ကြိယာဟု စသည်ဖြင့် ပိုင်းခြား နိုင်ခြင်း မရှိသေးမီ ကိုရင်(သာမဏေ)ဘဝကပင် ဝိနည်းပါဠိတော် အဋ္ဌကထာတို့ကို သင်ကြားနိုင်ခဲ့လေသည်။

"ဓာတိဉာဏ်နိုင် တပင်တိုင်" ဟူသော စကားအရ ဘဝဘဝက ဆည်းပူးခဲ့ သော ပါရမီဓာတ်ခံ ရင့်သန်၍ ဓာတိဉာဏ် ရှိလာသူတို့မှာ မည်သည့် ပညာကို မဆို သင်ကြားရာ၌ သိန္ဓောမြင်းနှင်သကဲ့သို့ လျင်မြန်စွာ ပေါက်ရောက်နိုင်လေ သည်။ ဓာတိဉာဏ်သည် အရေးကြီးလှ၏။ ထို့ကြောင့် ရှေးဆရာတော်ကြီးတို့က တပည့်များအား "ဖြစ်လေရာ ဘဝ၌ ဉာဏ်ပညာ ထက်မြက်သူ ဖြစ်ပါစေသား" ဟူ၍ ဆုတောင်းကြရမည်ဟု ဩဝါဒ ပေးတော်မူလေ့ ရှိကြသည်။

အခြေခံ သဒ္ဒါကျမ်းကို သင်ယူသော အခါ၌လည်း နန်းကျောင်း နိဿယ၊ ဒက္ခိဏာဝန်နိဿယဟူသော နိဿယကြီးများကို ကိုယ်တိုင်ကိုင်ကာ သဒ္ဒါဆိုင်ရာ ရုပ်တွက်ပုံ ရုပ်တွက်နည်းနှင့် အဆုံးအဖြတ်များကို ကျွမ်းကျင်ခဲ့သည်၊ နိုင်နင်း အောင် လေ့လာခဲ့သည်။ ဤနည်းဖြင့် ရူပသိဒ္ဓိ ရှာသများကိုပင် သူတပါး

(စာသင်သား)တို့အား ချပို့ပေးနိုင်သည် အထိ အခြေခံရရှိ၍ အခြား သာမဏေ တို့အား သဒ္ဒါသင်္ဂြိုဟ် တို့ကို ပို့ချပေးနိုင်ခဲ့လေသည်။ ဋီကာကျော်ကိုလည်း ဆရာ့ထံမှာ စာဆိုရင်းပင် အလိုလို နှုတ်တက်ရနေသဖြင့် အာဂုံဆောင်ခဲ့ ဘူးလေသည်။

လောကီဘက်၌လည်း ၁၆–နှစ် အရွယ်က ဂဏာဂမ္ဘီရခေါ် ဂဏန်းသင်္ချာ စာအုပ်ကြီးကို မိမိအလိုလို ကြည့်ရှု လေ့လာ တွက်ချက်ခြင်းဖြင့် ထိုစာအုပ်ပါ တွက်နည်းတွက်ပုံ အလုံးစုံကို တစ်လခန့် အတွင်းမှာပင် ကောင်းစွာ တတ်သိ နားလည်ခဲ့လေသည်။

အသက် ၁၉–နှစ် အရွယ်တွင် ဆရာဘုန်းတော်ကြီး ဦးပရမက သမ္မောဟ ဝိနောဒနီအဋ္ဌကထာကို မူလဋီကာနှင့် တွဲဖက်၍ ပို့ချရာ ကိုရင်သောဘနကိုပင် စာဆိုစေသည်။ ထိုအခါက ဆရာဘုန်းတော်ကြီးက အနည်းငယ်လောက်သာ ပြောပြရသည်။ အများအားဖြင့် ကိုရင်သောဘန၏ သဘောဉာဏ်ဖြင့်ပင် မူလဋီကာကို အနက်ဖော်၍ ဆိုသွားလေသည်။ ထို့ကြောင့် စာအတူတက်သော ဘုန်းကြီးတစ်ပါးက "ကိုရင်ဋီကာနိဿယကို ကြည့်ထားသလား"ဟူ၍ပင် မေးဘူး လေသည်။

ဤနည်းဖြင့် စာပေသင်ကြား၍ အသက်ပြည့်သဖြင့် ရဟန်းဘောင်သို့ တက်ရောက်ရန် အချိန်ကျလာသောအခါ ကိုရင် သောဘနက ဤသို့ စဉ်းစား ဆင်ခြင်လေသည်။ ယခုအခါ ရဟန်းအဖြစ်သို့ တက်မည်လော၊ လူ့လောကသို့ ပြန်မည်လော၊ လူ့လောကသို့ပြန်လျှင် ဘုရားဟော ဒေသနာတော်တို့ကို ကောင်းကောင်း လေ့လာခွင့်ရမည် မဟုတ်၊ ရဟန်းအဖြစ်သို့ တက်ရောက်လျှင် ဘုရားဟော ဒေသနာတော်တို့ကို ကောင်းကောင်း လေ့လာခွင့်လည်း ရမည်၊ ဘာဝနာ တရားကိုလည်း လွတ်လွတ်လပ်လပ် အားထုတ်ခွင့်ရမည်။ ထို့ကြောင့်

ရဟန်းအဖြစ်သို့သာ တက်မည်ဟု စဉ်းစားဆုံးဖြတ်ခဲ့သည် ဟူ၏။

ထိုသို့ ဆုံးဖြတ်ပြီးနောက် ၁၂၈၅-ခုနှစ်၊ တန်ဆောင်မုန်း လပြည့်ကျော် ၅-ရက်နေ့တွင် ဦးလေးဖြစ်သူ ဦးအောင်ဘော်၊ ဒေါ်သစ်တို့က ပစ္စည်း ၄ ပါး ဒကာ ရဟန်းဒကာ အဖြစ်ဖြင့် ခံယူ၍ ဆိပ်ခွန်ရွာ အင်ကြင်းတောတိုက် ဗဒ္ဒသိမ်တွင် သုမေဓာ ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ဓမ္မာစရိယ နိဿယာစရိယဖြစ်သော သူကြီးကျောင်း ဆရာတော် ဦးပရမ စသော ကမ္မဝါ ဆရာတော် ၉-ပါး၊ ကမ္မကာရက ဆရာတော် ၃၇-ပါးတို့က ချီးမြှောက်တော် မူကြသဖြင့် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့လေသည်။ ရဟန်းဖြစ်ပြီးခါစ သုံးလေးလ အတွင်းမှာ စာသင်ယင်း စာချယင်းပင် ရက္ခမူစုတင်၊ ပိဏ္ဍပါတ်စုတင်၊ ကောသနိက်စုတင်၊ ပတ္တပိုဏ်စုတင် စသည်တို့ကိုလည်း ဆောက်တည် ကျင့်သုံးခဲ့လေသည်။ တခါက ဆွမ်းခံရာမှ ဆွမ်းနှင့်ပဲကြော် တခွက်မျှကိုသာ ရခဲ့လေသည်။ ထိုအခါက သီတင်းသုံးဖော် အများ သံဃာတော်တို့၏ ဆွမ်းဝိုင်း၌ ဟင်းခွက်ပေါင်း လေးငါးဆယ်ကျော် ရှိနေပါသော်လည်း ထိုသံဃာများထံမှ တောင်းယူခြင်းမပြုဘဲ ရသမျှနှင့်ပင် ရောင့်ရဲမည်ဟု နှလုံးသွင်းကာ ပဲကြော်တစ်ခွက်မျှနှင့်ပင် ဘုဉ်းပေး မျှတတော် မူခဲ့သည်ဟူ၏။

စာမေးပွဲအောင်ခြင်းကို ဦးစားပေးသောခေတ် အားလျော်စွာ ရဟန်းသိက္ခာ တစ်ဝါအရတွင် အစိုးရ ပထမပြန်စာမေးပွဲ၌ ပထမငယ်တန်းတွင် ဝင်ရောက် ဖြေဆိုတော်မူသည်။ ထိုအခါက မည်သို့သော မေးခွန်းမျိုးကို မေးတတ်သည် ဟူ၍ပင် မတွေ့ဘူး မကြုံဘူးပေ၊ သို့သော် ဝင်ရောက်ဖြေဆိုသောအခါ အလွယ် တကူနှင့်ပင် ဖြေဆိုနိုင်၍ နှစ်ချင်းပင် ပထမငယ်တန်း၌ အောင်မြင်တော်မူခဲ့ပေ သည်။ နောက်နှစ်များ၌လည်း ပထမလတ်၊ ပထမကြီးတန်းများကို ဝင်ရောက် ဖြေဆိုပြန်ရာ နည်းတူပင် အလွယ်တကူနှင့် အောင်မြင်တော်မူခဲ့ပေသည်။ ဆိပ်ခွန်

ရွာ၌ ကျင်းပသော ဝိနည်း စာပြန်ပွဲ၌လည်း ဝိနည်းငယ် လေးစောင်ကို ဂုဏ်ထူးနှင့် ပြန်ဆို အောင်မြင်တော် မူခဲ့လေသည်။

ရဟန်းသိက္ခာ ၄–ဝါရ ၁၂၈၉–ခုနှစ်ရောက်လျှင် အာစရိယဝါဒ(ဆရာ့ အယူအဆ)စုံလင်စေရန် မန္တလေးမြို့သို့တက်၍ ထိုမြို့ အနောက်ပြင် ခင်မကန် ကျောင်းတိုက် ဘွားတော်ကျောင်းတွင် နေထိုင်ကာ စာပေပိဋကတ် အရပ်ရပ်ကို ထင်ရှားသော ဆရာတော်ကြီးများထံ နည်းခံသင်ယူ ဆည်းပူးတော်မူသည်။ ဤနည်းဖြင့် ရဟန်းသိက္ခာ(၅)ဝါ ရသည့်တိုင်အောင် ကြိုးကြိုးပမ်းပမ်း သင်ကြား ဆည်းပူးတော်မူရာ ပဋိပတ်သို့ မလှမ်းခင် ပရိယတ်စခန်း၌ မည်မျှ အခြေခံရရှိ နေပြီးဖြစ်သည်ကို မှန်းဆနိုင်ခွင့် ရှိပါသည်။

ပစ္စည်းဥစ္စာ ချမ်းသာကြွယ်ဝသော မိဘများ၏ သားသမီးတို့မှာ များသော အားဖြင့် လောကီချမ်းသာဘက်သို့သာ တိမ်းညွတ်တတ်ကြလေသည်။ လောကုတ္တရာဘက်သို့ တိမ်းညွတ်သူကား ရှားပါးလှ၏။ သာသနာရေးဘက်တွင် စိတ်ပါဝင်စား၍ ပရိယတ်ကို တတ်မြောက်လိုခြင်း၊ ပရိယတ်မှ ပဋိပတ်သို့ တဆင့် တက်လှမ်းလိုခြင်းဟူသော ဆန္ဒဓာတ်မျိုး ကိန်းအောင်း၍ သာသနာရေးကို သက်စွန့်ကြိုးပမ်း ထမ်းဆောင်မည်ဟု သဒ္ဓါသက်သက်ဖြင့် ရဟန်းပြုလာသော သဒ္ဓါပဗ္ဗဇိတပုဂ္ဂိုလ်တို့ကား –

"ချမ်းသာကြီးကို လိုလျှင် ချမ်းသာကလေးကို စွန့်ရမည်။"

"ဆင်းရဲကြီးကို ကြောက်လျှင် ဆင်းရဲကလေးကို သည်းခံရမည်။"

ဟူသော ရှေးပညာရှိတို့၏ ဆုံးမချက်ကို သဘောပေါက်ပြီး ဖြစ်ကြသည့်အတိုင်း မွန်မြတ်လှသော ပရိယတ် ပဋိပတ်အလုပ်ကို အားထုတ်ရာ၌ တွေ့ကြုံရမြဲ ဖြစ်သော ဆင်းရဲဒုက္ခများကို အမှုမထားဘဲ ရဲဝံ့စွာ စွန့်စား ရင်ဆိုင်တတ်ကြလေသည်။ အလောင်းတော် သိဒ္ဓတ်မင်းသားသည် နိဗ္ဗာန်ချမ်းသာကြီးကို အလိုရှိသဖြင့်

လောကီစည်းစိမ်ဖြစ်သော ဘုရင်အဖြစ် (ချမ်းသာကလေးကို) ရက်ရက် စွန့်ခဲ့လေသည်။ သံသရာ ဝဋ်ဆင်းရဲ၊ အပါယ်ဆင်းရဲကြီးကို ကြောက်ရွံ့တော်မူသဖြင့် ခြောက်နှစ်ပတ်လုံး တောမြိုင်အတွင်း၌ အဖော်မမှီး တကိုယ်တည်းဖြင့် သေလုမြောပါးဖြစ်သော ဒုက္ခများကို ဆင်းရဲကလေးဟု သဘောပိုက်ကာ ရဲရဲဝံ့ဝံ့ ရင်ဆိုင် (သည်းခံ) တော်မူသည်။

အနောက်နိုင်ငံ ဥရောပတိုက်သားတို့မှာ လောကုတ္တရာ မဟုတ်သော လောကီဘက်က အထွတ်အထိပ် ကြီးပွားလိုကြသောကြောင့် အန္တရာယ်များလှသော သမုဒ္ဒရာကြီးကို ဖြတ်ကျော်ကာ အာရှတိုက်အတွင်းသို့ လာရောက်ကြပြီးလျှင် သက်စွန့်ကြိုးပမ်း နယ်ချဲ့ကြ၏။ ဒုက္ခအမျိုးမျိုးကို ခံယူကြ၏။ ထိုသူတို့၏ စွန့်စားမှု အားထုတ်မှုကြောင့် အာရှတိုက်ရှိ နိုင်ငံတို့မှာ များသောအားဖြင့် ၎င်းတို့၏ လက်အောက်သို့ ရောက်ကြရ၏။ အဆီအနှစ်များကိုလည်း သဘောရှိ ပိုင်ဆိုင်ခံစားကြ၏။ အလွန်ထင်ရှားသော သာဓကကြီး မဟုတ်ပါလော။

ပါရမီဓာတ်ခံ ပါလာပြီးဖြစ်သော အရှင်သောဘနသည် ချမ်းသာအဆင့်ဆင့်ကို မျှော်လင့်ခြင်းဖြင့် လောကုတ္တရာ ချမ်းသာကြီးကို ရရှိရေးအတွက် လောကီ ပစ္စည်းဥစ္စာ ချမ်းသာများကို စွန့်ပယ်တော်မူခဲ့၏။ ချမ်းသာ အထွတ်အထိပ်ကို လက်ဆုပ်လက်ကိုင် ပိုင်ပိုင်ရရှိနိုင်ရန် သာမန် အားထုတ်ရုံမျှ (ဆင်းရဲ ခံရုံမျှ)ဖြင့် မရနိုင်ကြောင်းကိုလည်း မြင်ပြီး ဖြစ်တော်မူ၏။ ဤအကြောင်းအရာများသည် စာရေးသူက အာဝဇ္ဇန်းရွှင်ရွှင်ဖြင့် ချဲ့ထွင်ရေးသားရန်မလို၊ အတ္ထုပ္ပတ္တိရှင်၏ နဂိုကောင်း သဘောများပင် ဖြစ်ပေသည်။ ဒုက္ခဘုံအတွင်း၌ ဒုက္ခဖြင့် ရင်းနှီးမှ ချမ်းသာသုခကို ရနိုင်မည်ကို အာဇာနည်ပုဂ္ဂိုလ်မှန်သမျှ သဘောပေါက်ပြီး ဖြစ်ကြလေသည်။

သက္ကရာဇ် ၁၂၉၁-ခု၊ ရဟန်းသိက္ခာ(၅)ဝါရတွင် မော်လမြိုင်မြို့သို့

ဆိုက်ရောက်တော်မူ၏။ အကြောင်းဆက်ပုံမှာ မော်လမြိုင်တောင်ဝိုင်ကလေး တိုက်ကျောင်းဆရာတော်ကြီးသည် ရွှေဘိုနယ် ဆိပ်ခွန်ဇာတိ ဖြစ်တော်မူ၏။ အရှင်သောဘန၏ ပရိယတ်အခြေခံကို ရရှိပြီးဖြစ်သည်ကို သိတော်မူသည့်အတိုင်း သက်တော်ကြီးရင့်သောအခါ စာသင်သား တပည့်များအား စာပေပို့ချရေးဘက်က ထင်သလောက် ခရီးမရောက်သဖြင့် အရှင်သောဘနကို မော်လမြိုင်မြို့သို့ လာရောက်၍ ပရိယတ်သင်ကြားမှု အကူအညီပေးရန် မှာထားတော်မူသဖြင့် ရောက်လာရခြင်း ဖြစ်ပေသည်။

ဖော်ပြခဲ့သည့်အတိုင်း စာသင်သား (ထိုအခါက တောကျောင်းဖြစ်သည့် အတိုင်း ၁၅–ပါးမျှသာ ရှိသည်။) သံဃာတို့အား ရဟန်းသိက္ခာ (၈) ဝါအထိ စာပေပို့ချတော်မူရာမှ ပဋိပတ္တိကိုလည်း လက်တွေ့ကျင့်သုံး အားထုတ်မည်ဟူသော ဆန္ဒဇာတ်ဖြင့် (ပရိယတ်မှ ပဋိပတ်သို့) ထွက်ခွါလာတော် မူခဲ့လေသည်။

**မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီးထံသို့ ဆိုက်ရောက်ခြင်း**

ထိုနှစ် တပေါင်းလဆန်း ၅–ရက်နေ့တွင် သထုံမြို့ ကျူးဟောင်း အတွင်းရှိ ဇေတဝန်ကျောင်းတိုက် (ချောင်) ဆရာတော် ဘုရားကြီးထံသို့ ဆည်းကပ်ခိုဝင် တော်မူသည်။ ထိုအခါ ဆရာတော် ဘုရားကြီးမှာ သက်တော် ၆၃–နှစ် ရှိတော် မူပြီ။

ဆည်းကပ်ရန် ရောက်လာသော တပည့်သံဃာများအား ဆရာတော်ဘုရား ကိုယ်တိုင် နေရာချပေးတော်မူခြင်းဖြင့် အရေးတယူ ပြုတော်မူသည်။ ဆရာတော် ဘုရားကြီး၏ ပြုစုယုယတော်မူပုံမှာ ပြုနေကျ ဖြစ်စေကာမူ တပည့်သံဃာ (ရဟန်းငယ်)တို့ အဖို့ အားနာသော စိတ်ထားမျိုး ဖြစ်စေသည်။ ဆရာတော် ဘုရားကြီး အပေါ်၌လည်း အလွန်အားထားခြင်း လေးစားခြင်းကို ဖြစ်စေသည်။

ထိုနေ့မှာပင် ရက်မဆိုင်းဘဲ ကမ္မဋ္ဌာန်းတောင်းလေရာ ဆရာတော်ဘုရားကြီးကလည်း လိုအင်ဆန္ဒအတိုင်း ထိုနေ့ည (၇)နာရီလောက်မှစ၍ နေတ္တိပါဠိတော်ကို မူတည်လျက် တစ်ပိုဒ်စီ တစ်ပိုဒ်စီ အနက်အဓိပ္ပါယ်ပြန်ကာ ရှုမှတ်ပုံ ကမ္မဋ္ဌာန်းနည်းကို ပေးတော်မူသည်။ အချိန်ကာလကို လေးစားခြင်း၌ အတုယူဖွယ်ကောင်းလှပါပေသည်။

## နည်းပေးတော်မူပုံ

"သတောဘိက္ခု ပရိဗ္ဗဇေတိ တေန ဒိဋ္ဌဓမ္မ သုခဝိဟာရတ္ထံ အဘိက္ကန္တေ ပဋိက္ကန္တေ အာလောကိတေ ဝိလောကိတေ သမိဉ္ဇိတေ ပသာရိတေ သင်္ဃာဋိ ပတ္တစီဝရဓာရဏေ အသိတေ ပိတေ ခါယိတေ သာယိတေ ဥစ္စာရ ပဿာဝ ကမ္မေ ဂတေ ဌိတေ နိသိန္နေ သုတ္တေ ဇာဂရိတေ ဘာသိတေ တုဏှိဘာဝေ သတောန သမ္ပဇာနေန ဝိဟာတဗ္ဗံ"

မြန်မာပြန်။ ။"သံသရာ ဘေးကို ရှုသော ရဟန်း(ပုဂ္ဂိုလ်)သည် အမှတ်ရလျက် ကျင့်သွားရာ၏" ဟူရာ၌ (အနက်အဓိပ္ပါယ်ကို ဤသို့သိအပ်၏။) သံသရာ ဘေးကို ရှုသော ထိုသူ (ရဟန်း)သည် မျက်မှောင်ဘဝ၌ပင် (ရဟန္တာဖြစ်လျက်) ချမ်းသာစွာ နေရခြင်း အကျိုးငှာ ရှေ့သို့သွားလျှင်၊ နောက်သို့ ဆုတ်လျှင်၊ တည့်တည့်ကြည့်လျှင်၊ စောင်းငဲ့၍ ကြည့်လျှင်၊ လက်ခြေတို့ကိုကွေးလျှင်၊ ဆန့်လျှင်၊ သင်္ကန်း သပိတ်ကို ကိုင်ယူသုံးစွဲလျှင်၊ စားလျှင်၊ သောက်လျှင်၊ ခဲလျှင်၊ လျက်လျှင်၊ ကျင်ကြီး ကျင်ငယ်စွန့်လျှင်၊ သွားလျှင်၊ ရပ်လျှင်၊ ထိုင်လျှင်၊ အိပ်လျှင်၊ နိုးလျှင်၊ ပြောဆိုလျှင်၊ ဆိတ်ဆိတ်နေလျှင် အမှတ်ရလျက် မှန်စွာသိ၍ နေအပ်၏။

ဤပါဠိတော်ကို တစ်ပိုဒ်စီ ရှင်းလင်းလျက် ကမ္မဋ္ဌာန်း ပေးတော်မူနေသည်မှာ တစ်နာရီခန့် အချိန်ကြာသွား၏။ နာယူနေသော အရှင်သောဘနသည်

"ဆရာတော် ဘုရားကြီး ယခုရှင်းပြကာ ကမ္မဋ္ဌာန်း ပေးတော်မူသည်မှာ စာတွေ့ သဘောမဟုတ်၊ ကိုယ်တိုင် လက်တွေ့ကျင့်သုံးထားသည့် (ငါတွေ့)သဘော ဖြစ်ပေသည်"ဟု စိတ်ချလျက် နှစ်နှစ်ခြိုက်ခြိုက် သဘောကျသွားလေသည်။

## ဝိပဿနာ၏ ဇ၊ လယ်၊ ဆုံး

ထို့ကြောင့်ပင် အရှင်သောဘနသည် မိမိနေရာသို့ ရောက်သော အခါ ဆရာတော်ဘုရားကြီး နည်းပေးတော်မူလိုက်သည့်အတိုင်း ထိုည၌မှစ၍ မပြတ် အစဉ် သက်ဝင်ယုံကြည်ကာ ရိုရိုသေသေရှုမှတ် အားထုတ်လေတော့သည်။ သို့ရာတွင် အားထုတ်ခါစ ရက်အနည်းငယ်အတွင်း၌ "သွားခြင်း၊ ရပ်ခြင်း၊ ထိုင်ခြင်း၊ လျောင်းခြင်း၊ ကွေးခြင်း၊ ဆန့်ခြင်း စသည်တို့ကို ရှုမှတ်ရသည်မှာ ဝိပဿနာ၏ အစပိုင်း အခြေခံလောက်သာ ဖြစ်မည်။ နောက်တဆင့်တက်၍ အားထုတ်ရန် နည်းသစ်များကိုလည်း ပေးလိမ့်ဦးမည်"ဟု ထင်မြင်မျှော်လင့်လျက် ရှိခဲ့လေသည်။

ထို့နောက် အတော်အသင့် အားထုတ်မိသော အခါကျမှ ကောင်းကောင်း သဘောပေါက် လာပေသည်။ ထိုအခါ၌ "သွားခြင်း၊ ရပ်ခြင်း စသော ကိုယ်အမူအရာတိုင်းကို သိအောင် မပြတ်ရှုမှတ်ခြင်း၊ စိတ်အမူအရာတိုင်းကို ရှုမှတ်ခြင်းမှာ အစမျှသာ မဟုတ်၊ အမှန်အားဖြင့် ဖြစ်ပေါ်တိုင်းသော ရုပ်နာမ် ဟူသမျှကို အမှန်အတိုင်း ပိုင်းခြား၍ သိနေသောကြောင့် ဝိပဿနာ၏ အစ အလယ် အဆုံး သုံးပါးလုံးပင်ဖြစ်ပေသည်။ အခြားနည်းဖြင့် ပြောင်းလဲပြုပြင်၍ အားထုတ်ရန် မလိုတော့ပြီ"ဟု သဘောပေါက်လာလေသည်။

## နတ်ပြဟ္မာပင် ဖြစ်သော်လည်း

မိမိ သဘောပေါက်လာသော အကြောင်းကို ဇေတဝန် ဆရာတော်ဘုရားကြီးအား လျှောက်ထားသောအခါ "ဤသဘော ပေါက်လာသည့်အတိုင်း မှန်ပေသည်" ဟု ပြန်လည် မိန့်ကြားတော်မူပြီးလျှင် "လူသာမန်ကို မဆိုထားဘိ နတ်တွေ၊ ဗြဟ္မာတွေပင် ဖြစ်သော်လည်း မြတ်စွာဘုရားထံမှ သတိပဋ္ဌာန် ရှုမှတ်နည်းကို မရလျှင် ရုပ်နာမ် သဘောတရားတွေကို အမှန်အတိုင်း မသိနိုင်ကြောင်း၊ မြတ်စွာဘုရားထံမှ သတိပဋ္ဌာန် ရှုမှတ်နည်းကို ရပြီး ဒီနည်းအတိုင်း ရှုမှတ်မှသာ ရုပ်နာမ် သဘောတွေကို အမှန်အတိုင်း သိမြင်လျက် မဂ်ဖိုလ်နိဗ္ဗာန်ကို မျက်မှောက်ပြုကြရကြောင်း" စသည်ဖြင့် ရှင်းလင်း မိန့်ကြားတော်မူလေသည်။

## ဟောရှုင်းအစွမ်း ရောဂါကင်းစေသည်

အရှင်သောဘနသည် ဆရာတော်ဘုရားကြီး၏ ထံပါး၌ ဝိပဿနာနည်းကို ခံယူ၍ "မနေမနား မီးပွတ်သော ယောကျ်ားကဲ့သို့" ဆိုသည့်အတိုင်း နေ့ရောညဉ့်ပါ မပြတ်အစဲ ရှုမှတ်အားထုတ် နေသည်မှာ ၁၂၉၄-ခု ဝါဆိုလဆန်း ၆-ရက် အထိ လေးလခန့်ကြာသွားသည်။ ထိုလေးလ အတွင်းမှာ စကားပြောစရာ အရေးကြီးသော အကြောင်းထူး မရှိသည့်အတွက် စကားလုံးဝ မပြောဘဲ အဆက်မပြတ် ဆက်တိုက် အားထုတ်သော ရက်များမှာလည်း မနည်းလှချေ။ မအိပ်မနေ အားထုတ်သော ရက်များ၊ နေ့လုံးပေါက် စင်္ကြံသွားလျက် အားထုတ်သော ရက်များလည်း ပါဝင်သည်။

ထိုသို့ ပြင်းထန်စွာ အားထုတ်သော်လည်း ထိုလေးလ အတွင်းမှာပင် နေမကောင်း ထိုင်မသာ မကျန်းမာခြင်းဆို၍ တစုံတရာ အနည်းငယ်မျှ မဖြစ်ပေ။ ထိုသို့ ရောဂါကင်းရှင်းသည်ကို ထူးထူးခြားခြား အံ့ဩလှသောကြောင့် ဆရာတော်

ကြီးအား လျှောက်ထားသည်တွင် "တရား အားထုတ်နေသူမှာ ဗောဇ္ဈင်တရားတွေ ဖြစ်ပွား နေသောကြောင့် ထိုဗောဇ္ဈင်တရားများ၏ စွမ်းရည်အလျောက် ရောဂါ ကင်းရကြောင်း၊ ဗောဇ္ဈင်တရားသည် ဖြစ်ပြီးသော ရောဂါကိုပင် ကင်းပျောက် စေနိုင်ကြောင်း၊ ဗောဇ္ဈင်၏ စွမ်းအင်ကြောင့် ရောဂါကင်းတာဘဲဟု မှတ်ယူ အပ်ကြောင်း" ဆရာတော်ဘုရားက မိန့်ကြားတော်မူသည်။

## အဓိပ္ပာယ်ဆွဲလျှင် လွဲတတ်သည်

တရားအားထုတ်နေဆဲဖြစ်သော လေးလအတွင်း၌ ဆရာတော်ဘုရားကြီး တရားဟောတော်မူသည်ကို လေးငါးကြိမ်မျှ ကြားနာရသည်။ တရားဟောပုံမှာ သုတ္တန်ပါဠိတော် တစ်ခုခုကို မူတည်၍ ထိုပါဠိတော် အနက်မြန်မာပြန်ပြီးလျှင် အဓိပ္ပာယ်ကို ရှင်းပြတော်မူသည်။ အဓိပ္ပာယ် ပြောခြင်းမှာ အနက်မြန်မာပြန် ပါဠိကို နတ်၍ မြန်မာ သက်သက်ကို ပြောသွားခြင်းမျိုး ဖြစ်ပေသည်။ အပို ထပ်မံ ထည့်သွင်းပြောချက်ဟူ၍ များစွာ မပါပေ။ "ဒါလောက်ဆိုလျှင် ပြည့်စုံပြီ၊ အနက် အဓိပ္ပာယ် ဆွဲလျှင် လွဲသွားတတ်သည်"ဟူ၍လည်း အမိန့်ရှိလိုက်သေးသည်။ သို့သော် တရားနာသူတို့မှာ တရားအားထုတ်ဘူးသူချည်းလိုလိုပင် ဖြစ်သောကြောင့် ဆရာတော်ဘုရားကြီး ဟောပြောတော်မူသော တရားကို အများအားဖြင့် သဘော ပေါက် နားလည်ဖွယ်ရှိကြပေသည်။ ထို့ပြင် သက်ဆိုင်ရာ အခန်း၌ ဝိပဿနာ ဉာဏ် ဖြစ်ပုံများနှင့် မဂ်ဖိုလ်ဉာဏ် ဖြစ်ပုံတို့ကိုလည်း ထည့်သွင်း ဖော်ပြပြီးလျှင် ထိုတရားကို ကြားနာရခြင်းဖြင့် မိမိတို့၏ ဉာဏ်အဆင့်ဆင့်ကို ယောဂီတို့ ကိုယ်တိုင်ပင် သိရမည် ဟူ၍လည်း အမိန့်ရှိတော်မူ၏။

## အရှင်သောဘန မေးလျှောက်ပုံ

အခါတပါး ဆရာတော်ဘုရားကြီးအား မေးလျှောက်သည်မှာ "အရှင်ဘုရား၊ ကျမ်းဂန်တို့၌ ပုဗ္ဗေနိဝါသ အဘိညာဉ်ဖြင့် ရှေးရှေးဘဝများ၌ ဖုံးလွှမ်းသော အဝိဇ္ဇာကို ပယ်သည်ဟု အဆိုရှိပါသည်။ သုက္ခဝိပဿက ရဟန္တာများမှာ ရှေးဘဝကို သိနိုင်သော ပုဗ္ဗေနိဝါသ အဘိညာဉ်ကို မရကြပါ။ ထို့ကြောင့် သုက္ခဝိပဿက ရဟန္တာတို့၌ ရှေးရှေးဘဝများကို ဖုံးလွှမ်းသော အဝိဇ္ဇာ ကျန်ရှိနေသေးသကဲ့သို့ ဖြစ်နေပါသည်။ အဘယ်သို့ မှတ်ယူရပါမည်နည်း ဘုရား" ဟူ၍ ဖြစ်၏။

## ဆရာတော်ဘုရားကြီး ဖြေတော်မူပုံ

ဆရာတော် ဘုရားကြီးက "လောကီ အဘိညာဉ်များဖြင့် ကိလေသာကို ပယ်သည်မှာ ဝိက္ခမ္ဘနပဟာန်မျှသာ ဖြစ်၍ အမြစ်ပြတ် မငြိမ်းစေနိုင်ကြောင်း၊ အရိယာမဂ်ဖြင့် ပယ်မှသာ သမုစ္ဆေဒပဟာန် ဖြစ်၍ အမြစ်ပြတ် ငြိမ်းစေနိုင်ကြောင်း၊ ရဟန္တာမှာ အဘိညာဉ်ကို မရသော်လည်း အဝိဇ္ဇာကို အရဟတ္တမဂ်က သမုစ္ဆေဒ ပဟာန်ဖြင့် ပယ်ပြီး ဖြစ်သောကြောင့် အဝိဇ္ဇာ အားလုံးပင် ကင်းစင်သည်ဟု ယူဆ အပ်ကြောင်း" စသည်ဖြင့် ရှင်းလင်းမိန့်ကြားတော်မူလေသည်။

အရှင်သောဘနသည် သထုံဖေတဝန် ဆရာတော်ဘုရားကြီးထံ၌ တစ်နှစ်မျှ နေထိုင်၍ တရားအားထုတ်ရန် ဆန္ဒရှိပြီးဖြစ်၏။ သို့ရာတွင် ထိုနှစ် ဝါဆိုလဆန်း (၇)ရက် မတိုင်မီ တစ်ညဉ့်တွင် ထားရှိပြီး ဆန္ဒ မပြည့်ဝဖို့ နိမိတ် အိပ်မက်တစ်ခု မြင်မက်လာသည်မှာ –

"ကျယ်ဝန်းသော နေရာဌာနရှိ ကျောင်းတစ်ကျောင်းတွင် ဘုန်းတော်ကြီး တစ်ပါး ပြန်လွန်တော်မူသဖြင့် ဘုန်းကြီးပြန် ရျာပန ကျင်းပရန် ပြင်ဆင် နေကြ၏။ ကျောင်းနေရာ (အာဝါသ)က ကျဉ်းနေ၍ အလုံအလောက်

ကျင်းပနိုင်ရန် မိုးလုံလေလုံ မဏ္ဍပ်ကြီးတစ်ခုကို ဆောက်လုပ်ကြပြီးလျှင် ၎င်းအတွင်း၌ပင် အလောင်းစင် စသည်ကို ပြင်ဆင်ထားကြ၏။ မိုးအခါ ဖြစ်၍ ဈာပနသို့ ကြွလာကြသော ရဟန်းပရိသတ်၊ လူပရိသတ်တို့လည်း ထိုကျယ်ဝန်းလှသော မဏ္ဍပ်အတွင်းမှာပင် နေထိုင်ကြရ၏။ ဈာပန ပရိသတ် အားလုံး တစုတရုံးတည်း နေထိုင်နိုင်လောက်အောင် ဆောက်လုပ်ထားသော မဏ္ဍပ်ကြီးမျိုးကို ဤတစ်ခါသာ မြင်ဘူးသည်။ အံ့သြဖွယ်ကြီးပင် ဖြစ်၏။ အဂ္ဂိဈာပန ကျင်းပသောအခါလည်း ဤမဏ္ဍပ်ကြီးအတွင်းမှာပင် အလောင်းကို သံလျင်းတွင် ထည့်ကာ သံလျင်းကို ကြိုးဖွဲ့လျက် အထက်မဏ္ဍပ်အမိုး၌ ဆွဲချည်၍ ယောဉ်ကျူးယင်း မီးသဂြိုဟ်ကြသည်။"

ဤသို့ မြင်မက်ပြီးလျှင် ရုတ်တရက် နိုးလာ၍ ရှေးက မမြင်မက်စဘူး ထူးခြားသော အိပ်မက်ကို စဉ်းစားမိလေသည်။ မည်သို့သော အကျိုးအပြစ်ကို ဖြစ်စေမည့် အိပ်မက်မျိုး ဟူ၍ကား မမှန်းဆနိုင်ချေ။

၁၂၉၄–ခု ဝါဆိုလဆန်း (၇) ရက် နေ့တွင် "မော်လမြိုင်မြို့ တောင်ဝိုင်း ကလေးတိုက်ကျောင်း ဆရာတော်ကြီး အသည်းအသန် မကျန်းမာ ဖြစ်နေ၍ ပြန်ကြွလာပါ"ဟူသော ကြေးနန်းတစ်စောင် ရောက်လာလေသည်။ သို့ဖြစ်သောကြောင့် ၎င်းလဆန်း ၈–ရက်နေ့ မော်လမြိုင် တိုက်ကျောင်းသို့ အရောက် ပြန်ကြွတော်မူခဲ့ရလေသည်။

ဗျာဓိဒုက္ခ ဖိစီးသဖြင့် အသည်းအသန် မကျန်းမာ ဖြစ်တော်မူ နေသော ကျေးဇူးရှင် ဆရာတော်ကြီးကို (၇) ရက်မျှ ကိုယ်ဖိရင်ဖိ ပြုစုတော်မူသည်။ သို့ရာတွင် အရွယ်တော်ကလည်း ခုနစ်ဆယ့်ရှစ်နှစ်၊ ဇရာဒုဗ္ဗလ အားနည်းတော်မူ၊ ရောဂါကလည်း ပြင်းထန်၊ ဥတုရာသီကလည်း လူအိုလူမင်းကို အထူးနှိပ်စက်သော မိုးရာသီ၊ ဤသို့ အကြောင်းသုံးချက် ညီနေသောကြောင့် ပတ်ဝန်းကျင်

တပည့်များက စွမ်းအားရှိသမျှ ပြုစုကုမယင်းကပင် ဆရာတော်ကြီးသည် တစ်ဘ၀ ဇာတ်သိမ်း၍ချုပ်ငြိမ်းတော်မူသွားရှာလေသည်။

## ရဟန်း ကျင့်ဟန်

မော်လမြိုင်ခရိုင်အတွင်းရှိ ရွှေကျင်ဂိုဏ်းဝင် သံဃာတို့သည် ဘုန်းတော်ကြီး ဦးသီလကို အကြော်းပြု၍ ပြန့်ပွားလာသော တောရဂိုဏ်းနှင့် သဘောတူပင် ဖြစ်ကြ၏။ ရွှေကျင် ဆရာတော်ကြီးနှင့် ဒုတိယ ရွှေကျင် သာသနာပိုင် ဝိသုဒ္ဓါရုံ ဆရာတော်ကြီးတို့သည် ဘုန်းတော်ကြီး ဦးသီလကို လေးစားကြည်ညိုရင်း ရှိတော်မူကြသည့်အတိုင်း မိမိ၏ တပည့် သံဃာ ရဟန်း ပရိသတ် လူပရိသတ် တို့၌လည်း ဘုန်းတော်ကြီး၏ဂုဏ်ကို ထုတ်ဖော်အံ့ချီး၍ "အလေးပြုကြ-ပူဇော်ကြ" ဟု ဆုံးမတော်မူလေ့ ရှိကြသည်။

ဘုန်းတော်ကြီး ဦးသီလသည် ဘုန်းကြီးပြန် ရက်ရှည်ထားခြင်းကို ရှက်ဖွယ် အပြစ်ဆိုတော်မူခဲ့၏။

"ဘုန်းကြီးပြန်တော်မူလျှင် ရှေးက သံဝေဂ ဖြစ်ကြသည်။ ယခု အူရွှင် ကြသည်။ ကလေးသူငယ် တရုတ် ကုလား ဝမ်းသာကြ၏။ ကချေသည်တွေ မိန်းမတွေ ဝမ်းသာကြ၏။ ရဟန်းကြီးငယ် ဝမ်းသာကြ၏။ ပျက်စီး၏။ သာသနာ ထိခိုက်၏။ သေရမှာပင် ရှက်ဖွယ် ကောင်းလေစွ။ ထို့ကြောင့် ရက်ရှည်မထားနှင့်" ဟု ဩဝါဒ ပေးထား၏။ ဤဩဝါဒသည် တောရဂိုဏ်းထဲတွင် ချွတ်ယွင်းချက်မရှိ တည်တံ့လျက်ရှိ၏။

မြန်မာနိုင်ငံ အထက်ပိုင်း အောက်ပိုင်းရှိ ရွှေကျင်ဂိုဏ်းတို့၌လည်း ဘုန်းကြီး ပြန် ရက်ရှည်မထားရ ဟူသော ဩဝါဒအတိုင်း လိုက်နာ ဆောင်ရွက်တော် မူကြ သည်။ "ဘုန်းကြီးသေလျှင် ရှာကြေသည်"ဟူသော စကားအရ ဘုန်းကြီးပြန်

အတွက် ရပ်ရွာရှိလူများ ပစ္စည်းကုန် လူပန်း မဖြစ်စေရန် အမြန် ဆောင်ရွက် သင့်သော ကိစ္စဟူ၍ သတ်မှတ်ထားခြင်း ဖြစ်ပေသည်။

ဤသို့ သတ်မှတ်ထားသော ဂိုဏ်းထုံးစံနှင့်အညီ တိုက်ကျောင်းဆရာ တော်ကြီး၏ ရုပ်ကလာပ်ကို ဝါဆိုလဆုတ် ၈–ရက်နေ့တွင် နောက်ဆုံးဈာပနရက် ဖြစ် သတ်မှတ်လိုက်ကြသည်။ ဈာပန အခမ်းအနားအတွက် ရက်တို စီမံကိန်း ဖြစ်သောကြောင့် အလောင်းစင်၊ ကြာကလပ်၊ လိုက်ကာ၊ ခုတင်မျှလောက်သာ ပြင်ဆင်၍ မီးသင်္ဂြိုဟ်ရာ မြေကွက်၌သာ မိုးလွတ်စေရန် မဏ္ဍပ်(ကနဖျင်း) ဆောက်ထားရသည်။ ဈာပနသို့ (အသုဘရှု) ကြွလာသော သံဃာများအတွက် တိုက်ကျောင်းရှိ အဆောက်အဦတို့ဖြင့် လုံလောက်ပြီး ဖြစ်လေသည်။

ဆရာတော်ကြီး၏ ရုပ်ကလာပ်ကို မိုးလွတ်မဏ္ဍပ်အတွင်း၌ပင် သံဃာတော် များ ခြံရံလျက် အဆုံးစွန် ပူဇော်ခြင်းဖြင့် ပူဇော်ကာ သင်္ဂြိုဟ်လိုက်ကြသည်။ ဈာပန ကျင်းပပုံကို ကြည့်ပြီးလျှင် အရှင်သောဘနသည် "သထုံ ဓေတဝန်တွင် မြင်မက်ခဲ့သော အိပ်မက်ကား တိုက်ကျောင်းဆရာတော်ကြီး၏ ဈာပန ကျင်းပရေး အတွက် ရှေ့ပြေးနိမိတ်ပင် ဖြစ်ချေ၏"ဟု စဉ်းစားတော်မူမိလေသည်။

တိုက်ကျောင်း ဆရာတော် ဘုရားကြီး မျက်နှာ လွှဲသွားတော်မူပြီးနောက် ကျန်ရစ်သော တပည့်များအတွက် အရှင်သောဘနသည် သိက္ခာဝါ အကြီးဆုံး ဖြစ်၍ တိုက်ကျောင်း၏ အကြီးအကဲ ကျောင်းထိုင် ပုဂ္ဂိုလ်ဖြစ်ရမည့် အလားအလာ ရှိပေသည်။ သို့ရာတွင် ရွှေကျင်ဂိုဏ်း ထုံးစံအရ ရဟန်းသိက္ခာ (၁၀) ဝါရမှသာ ကျောင်းထိုင်ရမည်ဖြစ်၍ ထိုအခါက (၈)ဝါမျှသာ ရရှိသေးသဖြင့် ကျောင်းထိုင် အဖြစ်ဖြင့် မနေဘဲ ကျောင်းစောင့် အဖြစ်ဖြင့်သာ တောင်ဝိုင်း ဓေတဝန်ဆရာတော် ကြီးကို အမှီပြုနေလျက် ပရိယတ္တိ စာပေလုပ်ငန်းကို ကြိုးပမ်းပို့ချတော်မူသည်။

## ကျောင်းထိုင်အင်္ဂါ ၅-ပါး

"ဆယ်ဝါပြည့်တင်း၊ ဝိဘင်း နှစ်ဖြာ၊ ကမ္မာ ကမ္မ၊ ခန္ဓကပုဒ်၊
နာမ်ရုပ်ပိုင်ပိုင်၊ ဟောပြနိုင်၊ ကျောင်းထိုင် ငါးအင်္ဂါ"

ဤဆောင်ပုဒ်အရ (၁) သိက္ခာဝါ ဆယ်ဝါရရှိပြီးဖြစ်ခြင်း၊ (၂) ဘိက္ခုဝိဘင်း၊ ဘိက္ခုနီဝိဘင်း ဟူသော ဝိဘင်း ပါဠိများကို နှုတ်တက်ဆောင်နိုင်ခြင်း၊ (၃)ရဟန်းတို့ ဆိုင်ရာ ကံကြီးကံငယ်တို့ကို ဆုံးဖြတ်နိုင်ခြင်း(နားလည်ခြင်း)၊ (၄) ခန္ဓကဝတ်များကို နားလည်ခြင်း၊ (၅) နာမ်တရား ရုပ်တရားတို့ကို နားလည်အောင် ပိုင်ပိုင် ဟောပြနိုင်ခြင်း။

ဤအင်္ဂါ ၅-ပါးအနက် ဆယ်ဝါပြည့်ခြင်း ဟူသော အင်္ဂါတစ်ပါး လိုနေသဖြင့် ကျောင်းထိုင်အဖြစ် လက်မခံဘဲ ကျောင်းစောင့်ခန်းနေ အဖြစ်ဖြင့်သာ သီတင်းသုံးတော်မူသည်။ ၁၂၉၅-ခု သိက္ခာဝါ ၁၀-ဝါ ပြည့်သဖြင့် ကျောင်းထိုင် အင်္ဂါ ပြည့်စုံပြီ ဖြစ်သောကြောင့် ထိုနှစ်မှစ၍ တိုက်ကျောင်းပိုင် ဣဿရိယ အဖြစ်ဖြင့် သီတင်းသုံးတော်မူသည်။

## ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာခြင်း

၁၂၉၁-ခုမှ ၁၃၀၃-ခုနှစ်ထိ တစ်ဆယ့်သုံးနှစ်အတွင်း စာပေပရိယတ်ကို ပို့ချသင်ကြားပေးခြင်း၊ သထုံမြို့ ဇေတဝန် ဆရာတော်ဘုရားကြီးထံသို့ သွားရောက်၍ သတိပဋ္ဌာန်နည်းရအောင် ပဋိပတ်အလုပ်ကို ကြိုးပမ်းတော်မူခြင်း၊ တဖန် မော်လမြိုင်သို့ ပြန်ရောက်သောအခါ ပဋိပတ်အလုပ်ကို မိမိကိုယ်တိုင်သာ အားထုတ်၍ စာသင်သားများအားမူ ပရိယတ်ကိုသာ သင်ကြားပို့ချပေးခြင်း၊ ထိုအချိန်တွင် ဗြိတိသျှ အစိုးရတို့က နိုင်ငံသဘောကျ ပါဠိဘာသာ ပညာရေး အဖွဲ့ဟူ၍ ဖွဲ့စည်းကာ ပထမပြန် စာမေးပွဲနှင့်တကွ ဓမ္မာစရိယ စာချတန်းတို့ကို

ကျောင်းပနေဆဲအခါ ဖြစ်လေသည်။ ထို ဓမ္မာစရိယ စာချတန်းကား မန္တလေးမြို့ သကျသီဟစာမေးပွဲနှင့် ဂုဏ်ရည်တူ ဟူ၍ သတ်မှတ်ထားဖြင့် ပရိယတ္တိဘက်က ဆိုလျှင် ဓမ္မာစရိယ စာချတန်းကို အောင်မြင်မှသာလျှင် ခေတ်အားလျော်စွာ ဒီဂရီ ရရှိသော အဆင့်အတန်းသို့ ရောက်ရသည်။ သို့ဖြစ်၍ အရှင်သောဘနသည် သူတပါးကို စာချပေး၊ မိမိကိုယ်တိုင်လည်း ဓမ္မာစရိယ စာချတန်းအတွက် လေ့ကျက်ဆည်းပူးလျက် ၁၃၀၃–ခုနှစ် နယုန်လတွင် ရန်ကုန်မြို့၌ ကျင်းပသော အစိုးရ ဓမ္မာစရိယ စာချတန်းကို ဝင်ရောက်ဖြေဆိုတော်မူခြင်း၊ ဤသို့ အစဉ်အတိုင်း ကြိုးစားအားထုတ်တော် မူသည်။

ထိုနှစ် တနှစ်တည်းဖြင့်ပင် ကျမ်းရင်းသုံးကျမ်းနှင့် ဂုဏ်ထူးဆောင်ကျမ်း တို့ကို ဖြေဆိုအောင်မြင်တော်မူသဖြင့် "သာသနဓဇ သီရိပဝရ ဓမ္မာစရိယ"ဟူသော ဘွဲ့တံဆိပ်တော်ကို ရရှိတော်မူသည်။

ထိုအချိန်ကား မော်လမြိုင် တမြို့လုံးတွင် စစ်ဖြစ်လာသောအခါ ခိုပုန်းရန် ကျင်းများတူးခြင်း၊ ဝါဒင်ခေါ် အလုပ်သမား စည်းကမ်းတကျ ဖွဲ့ခြင်း၊ ညအခါ မီးမှိတ်လေ့ကျင့်ခြင်း စသည်ဖြင့် စိတ်မချမ်းမြေ့ဖွယ် အလုပ်တို့ဖြင့် ခြေရှုပ်နေသော အခါ ဖြစ်လေသည်။ တောင်ဝိုင်းကလေး တောင်ခြေရှိ မြေကွက်လပ်ကြီးကို လေယာဉ်ပျံကွင်း လုပ်ထားသဖြင့် ဗြိတိသျှလေယာဉ်တို့လည်း တဝီဝီနှင့် ပျံချည် ဆင်းချည် လုပ်နေလေရာ ရန်သူတို့က တိုက်ခိုက်လျှင် တောင်ဝိုင်းကလေး လေယာဉ်ပျံကွင်းကို နံပါတ် ၁ (ဗွေဆော်ဦး) အနေဖြင့် တိုက်ခိုက်မည်မှာ သေချာ သည်။

အရေးရှိလျှင် ရုတ်တရက် အသုံးပြုရန် ဗြိတိသျှ လေယာဉ်ပျံများကိုလည်း တောင်ဝိုင်းကလေးကွင်း အနီးတွင် အဆင်သင့် ထားရှိသည်ဟု ကြားသိရသည်။ ဗြိတိသျှတို့ ဖွဲ့စည်းထားသော စစ်တပ်တို့လည်း တသုတ်ပြီးတသုတ် မော်လမြိုင်မှ ကော့ကရိတ် မြဝတီဘက်သို့ ချီတက်သွားနေကြလေပြီ။

ဝင်ရိုးတန်း ၃-နိုင်ငံတွင် ပါဝင်သော ဂျပန်သည် အာရှတိုက် အရှေ့တလွှားမှနေ၍ ဗြိတိသျှ လက်အောက်ရှိ နိုင်ငံများကို စစ်သံပေးလျက် ရှိလေရာ မြန်မာနိုင်ငံသည် ဗြိတိသျှလက်အောက်ခံ ဖြစ်နေသဖြင့် ဂျပန်၏ စက်ကွင်းက မလွတ်ကင်းနိုင်ဟု တထစ်ချ ယုံကြည်ထားကြလေသည်။ စက်ကွင်း မလွတ်၍ တိုက်ခိုက်လာခဲ့သော ယိုးဒယားဘက်မှနေ၍ မြဝတီလမ်းကြောင်းမှလည်းကောင်း၊ မြိတ်ထားဝယ် လမ်းကြောင်းမှလည်းကောင်း ဝင်ရောက်လာကာ မော်လမြိုင်ကို ရှေးဦးစွာ တိုက်ခိုက်လိမ့်မည်ဟု ကောလဟလ ဖြစ်နေလေ၏။ ယုတ္တိလည်း ရှိနေ၏။ အကြောင်းမှာ ဂျပန်များ မြန်မာနိုင်ငံတွင်းသို့ ချင်းနင်းဝင်ရောက်ရန် လမ်းကြောင်းမှာ ယိုးဒယားဘက်မှနေ၍ မော်လမြိုင်သို့ ဝင်ဖို့လမ်းကြောင်းသည် ၎င်းတို့အတွက် အဆင့်အသင့်ဆုံး၊ အပြေပြစ်ဆုံး ဖြစ်နေလေသည်။

ဤလမ်းကြောင်းအတိုင်း ဝင်လာသော် ကုန်းတပ်က ရှေးဦးချီ၍ ဝင်လာမည်မဟုတ်။ လေတပ်ဖြင့် ရှေးဦးစွာ လာရောက် ဗုံးကြဲလိမ့်မည်။ ဗုံးဒဏ်လက်ချက်ဖြင့် ပွဲဦးထွက် နှိမ်ပြီး နောက်မှ ကုန်းတပ်က ဝင်ရောက် သိမ်းပိုက်လိမ့်မည်။ ဗုံးကြဲသောအခါ တစ်စခန်းရှိရာကိုသာ ထိခိုက် ပျက်စီးစေမည်မဟုတ်။ စစ်တပ်နှင့် မဆိုင်သော အဆောက်အဦ များကိုလည်း ထိခိုက်ပျက်စီးစေလိမ့်မည်။

ဗြိတိသျှ စစ်ဘက်အရာရှိတို့သည် ဤသို့ တွက်ချက် ခန့်မှန်းပြီး ဖြစ်သည့်အတိုင်း ထိုနှစ် နတ်တော်လ ဂျပန်က အမေရိကန်နှင့် ဗြိတိသျှကို စစ်ကြေညာပြီးစ အချိန်တွင် မော်လမြိုင် တောင်ဝိုင်းကလေး ပတ်ဝန်းကျင်ရှိ ကျောင်းဇရပ်တွင် သီတင်းသုံး နေထိုင်ကြသော ရှင်လူအပေါင်းတို့ကို လေယာဉ်ပျံကွင်း လွတ်ကင်းရာ အရပ်သို့ ပြောင်းရွှေ့ သွားကြရမည်ဟု တချက်လွှတ် အမိန့်ထုတ်လေတော့သည်။ ဒုတိယ ကမ္ဘာစစ်တွင် ဂျပန်က စစ်ကြေညာသည်မှာ ၁၃၀၃-ခု၊ နတ်တော်လဆုတ် ၄-ရက် (၆-၁၂-၄၁) စနေနေ့ ဖြစ်သည်။

ဤအမိန့်သည် လေယာဉ်ပျံကွင်းနှင့် ကပ်လျက်ရှိသော တောင်ဝိုင်းကလေး ဝန်းကျင် ဇေတဝန်ကျောင်း၊ ကုသိနာရုံကျောင်း၊ တိုက်ကျောင်း၊ ဂန္ဓာရုံကျောင်း၊ သိတာရုံကျောင်း၊ ဣစ္ဆိတာရုံ၊ ပဓာနိကာရုံ၊ သရက်တောကျောင်းနှင့်တကွ အနီးအပါးတွင် တည်ရှိသော ရပ်ရွာကလေးများအတွက် တိုက်ရိုက် သက်ဆိုင်လျက်ရှိသောကြောင့် မကြာမတင် နေရာဌာနကို စွန့်လွှတ်၍ ထွက်ခွါသွားကြရမည့် အမိန့်ပင် ဖြစ်လေရာ ရှင် လူ ရဟန်းတို့မှာ မော်လမြိုင်မြို့တွင်းသို့ ဝင်သူဝင်၊ တောလက်ခရိုင်သို့ ပြေးသူပြေးနှင့် ဘေးလွတ်ရာကို ရှာကြံဆွေးနွေး စိတ်မအေးသော ဒုက္ခနှင့် ရင်ဆိုင်နေကြရလေသည်။

## ရွှေဘိုနယ် ဇာတိရပ်ရွာသို့ ပြန်ကြွလာခြင်း

စစ်အဝင်ဝ တံခါးပေါက်သဖွယ် ဖြစ်နေသော မော်လမြိုင်မြို့ တောင်ဝိုင်းကလေး ဒေသကား စိမ်းလန်းစိုပြေသော အခြေအနေမှ တစတစ အတည်းအနိုမရှိသော ဇရပ်ဘဝသို့ ရောက်ရလေသည်။ လောကဓံသည် ပုံစံအမျိုးမျိုး ပြောင်းလဲအောင် ဖန်တီးတတ်ပေသည်။ ရေစီးတခါ ရေသာတလှည့်၊ မှန်ကင်းတလှည့် ထင်းတလှည့်၊ သစ်ငုတ်မြင့်တုံ မြက်မြင့်တုံ၊ ပုံလုံတလှည့် ငါးဖျံတလှည့် ဟူသော စကားပုံတို့မှာ လောကဓံက ဖန်တီးပေးသော ပုံစံများအကြောင်းကို သရုပ်ဖော်ထားခြင်းပင်တည်း။

အရှင်သောဘနသည် စစ်ဘေးဒဏ် လွတ်ကင်းရာကို ရှာကြံ၍ တောင်ဝိုင်းကလေး တိုက်ကျောင်းမှ ထွက်ခွာရမည့် အချိန်သို့ ရောက်ခဲ့လေပြီ။ ရွှေဘိုနယ်သည် စစ်နယ်မှ မလွတ်ကင်းသော်လည်း မော်လမြိုင်နှင့်စာလျှင် အလှမ်းဝေးကွာ၍ ချမ်းအေးရာဟု ဆိုနိုင်သည်။ ဇာတိရပ်ရွာ ဆွေမျိုးရင်းချာတို့လည်း ရှိကြသည်။ ပဋိပတ် လုပ်ငန်းကို ကြိုးပမ်းနိုင်ရန် အရိပ်အာဝါသ ကောင်းများလည်း ရှိသည်။ သို့ဖြစ်၍ "မော်လမြိုင်မှ ရွှေဘိုသို့"ဟူ၍ ဆုံးဖြတ်ချက်ချကာ ပြင်ဆင်ရတော့သည်။

## ပလိဗောဓကို မငဲ့ခြင်း

တိုက်ကျောင်းသည် ပထမ ဆရာတော်ကြီး လက်ထက်မှစ၍ ကြာမြင့်စွာ တည်ထောင်လာသော ကျောင်းဖြစ်ခြင်း၊ ကြည်ညိုဆည်းကပ်သူများခြင်းတို့ကြောင့် အသုံးအဆောင်ပစ္စည်း ပရိဘောဂတို့ကား လိုလေသေးသည် မရှိအောင် ပြည့်စုံလှသည်။ ဤသို့သော အခါမျိုးတွင် တစ်နေရာမှ တစ်နေရာသို့ ပြောင်းရွှေ့သိမ်းဆည်းထားဖို့လည်း ခဲယဉ်းလှ၏။ ပစ္စည်း ပရိဘောဂဆိုသည်မှာ စောင့်လည်း စောင့်ရှောက်ထိုက်၏။ စွန့်လည်း စွန့်လွှတ်ထိုက်၏။ တရားသဘော သက်ဝင်သည့် ယောဂီပုဂ္ဂိုလ်တို့အဖို့ အနှောင့်အယှက် ပလိဗောဓပင် ဖြစ်လေသည်။ ပလိဗောဓ ဖြစ်ခြင်းမှာ စိတ်နေစိတ်ထား အပေါ်၌တည်၏။ ပစ္စည်းအပေါ်၌ ဖြစ်စေ၊ ကျောင်းတိုက်အပေါ်၌ဖြစ်စေ မခွဲနိုင် မခွာရက် ငဲ့ငွက်ခြင်း ဖြစ်နေပါလျှင် ပလိဗောဓဖြစ်၏။ မငဲ့ကွက်သော ပုဂ္ဂိုလ်အဖို့ အနှောင့်အယှက် (အနှောင့်အဖွဲ့) ပလိဗောဓ မဖြစ်ပေ။

## ရဟန်းနှစ်ပါး ဝတ္ထု

သီဟိုဠ်ကျွန်း အနုရာဓမြို့တွင် မိတ်ဆွေနှစ်ယောက်တို့သည် သာသနာတော်ကို ကြည်ညိုသဖြင့် အနုရာဓမြို့မှ ထွက်လာကြပြီးလျှင် ထူပါရာမကျောင်းတိုက်သို့ သွား၍ ရဟန်းပြုကြသည်။ သူငယ်ချင်း ရဟန်းနှစ်ပါးတွင် တစ်ပါးက ဒွေမာတိကာ(ရဟန်းသိက္ခာအကျဉ်း)ကို နှုတ်ရကျက်၍ ရဟန်းငါးဝါအရ၊ သီတင်းကျွတ်လ ပဝါရဏာပြုပြီးနောက် အနုရာဓမြို့မှ အရှေ့စူးစူး ပါစိနခဏ္ဍရာဇိမည်သော တောအရပ်သို့ ကြွသွားလေသည်။ ရဟန်းတစ်ပါးမှာမူ ထိုထူပါရုံကျောင်း၌ပင် နေရစ်၏။

ပါစိနခဏ္ဍရာဇိအရပ်သို့ ကြွသွားသော ရဟန်းသည် ထိုအရပ်မှာပင် ဆယ်ဝါပြည့်သည့်တိုင်အောင် နေ၍ မထေရ်ဖြစ်လာသောအခါ "ဤအရပ်

ဤနေရာကား သင့်လျော် လျောက်ပတ်လှ၏၊ ဤအကြောင်းကို ငါ့မိတ်ဆွေ ရဟန်းထံသွား၍ ပြောပြမည်"ဟု အကြံရကာ ထိုအရပ်မှ ထွက်ခဲ့ပြီးလျှင် အစဉ်အတိုင်းလာ၍ ထူပါရုံကျောင်းတိုက်သို့ ရောက်လေ၏။ ရောက်လျှင် ရောက်ချင်းပင် သိက္ခာ ဝါတူ ဖြစ်သော ကျောင်းနေ မိတ်ဆွေရဟန်းက ခရီးဦးကြိုဆို၍ သပိတ်သင်္ကန်းကို လှမ်းယူခြင်းစသည့်ဖြင့် ဝတ်ပြုလေ၏။

အာဂန္တုမထေရ်က စဉ်းစားမိသည်မှာ "ငါ့မိတ်ဆွေသည် ထောပတ်ကိုသော်လည်းကောင်း၊ တင်လဲကိုသော်လည်းကောင်း၊ အဖျော်ကိုသော်လည်းကောင်း ပို့စေလတ္တံ့၊ ငါ့မိတ်ဆွေသည် ဤမြို့မှာ သီတင်းသုံးနေသည်ကား ကြာပြီ"ဟု စဉ်းစားမိလေသည်။ သို့ရာတွင် ဘာမျှ မပို့လာချေ။ ညအချိန်လွန်၍ နံနက်ရောက်လာပြန်သော် "နံနက်စောစောအချိန် သူ့ဒကာ ဒကာမတွေ ယူဆောင်လာသော ယာဂုခဲဖွယ်များကို ငါ့ထံ ပို့ပေးစေလတ္တံ့"ဟု စဉ်းစားပြန်၏။ သို့သော်လည်း ယာဂုခဲဖွယ်ဟူ၍ အရိပ်အငွေ့ကိုမျှ မတွေ့ရချေ။ "ယခု မတွေ့ရသော်လည်း ရွာတွင်းဝင်သည့်အခါကျမှ ဆီးကြိုလှူဒါန်းကြလိမ့်မည်"ဟု အထင်ရောက်ပြန်၏။ ဤသို့ ထင်ချက်နှင့်ပင် မိတ်ဆွေရဟန်း နောက်က လိုက်လျက် ဆွမ်းခံဝင်ခဲ့လေသည်။

### ယာဂုဆွမ်းချိန်

တစ်လမ်းတည်းဆွမ်းခံကြရာ ယာဂု တစ်မှုတ်မျှ ရကြ၍ ဆွမ်းစားဇရပ်တွင် ထိုင်ကာ နှစ်ပါး သောက်ကြ၏။ အာဂန္တုရဟန်းက "ငါ့မိတ်ဆွေမှာ ဆွမ်းဝတ် အမြဲလှူသူ ရှိဟန်မတူ၊ ဆွမ်းစားချိန်ရောက်မှ ဆွမ်းကောင်း ဟင်းကောင်းများကို ပို့လှူကြလိမ့်မည် ထင်သည်"ဟု ကြံမိပြန်၏။ ထို့နောက် ဆွမ်းချိန်ရောက်သော် ဆွမ်းခံလှည့်လည်ကြပြန်၏။ ထူးထူးခြားခြား မရ။ ရသမျှ ကလေးကို နှစ်ပါး

ဘုဉ်းပေးရလေလျှင် အာဂန္တုရဟန်းက "ဘယ့်နယ်လဲ အဆွေတော်၊ နေ့စဉ်နေ့တိုင်း ဤနည်းအတိုင်း မျှတ သုံးဆောင်နေရပါသလား"ဟု မေးရလေ၏။ "အို ငါ့ရှင် အဆွေ၊ ဟုတ်ပါသည်။ ဤအတိုင်းပင် ဖြစ်ပါသည်"ဟု အဖြေပေးတော်မူလေ၏ ။

အာဂန္တုရဟန်းက "အရှင်ဘုရား၊ တပည့်တော်၏နေရာ ပါစိနခဏ္ဍရာဇိ အရပ်သည် ပြည့်စုံချမ်းသာလှပါ၏၊ ထိုအရပ်သို့ သွားကြပါစို့"ဟု ခေါ်လေလျှင် မထေရ်သည်။ မြို့တောင်တံခါးဖြင့် ထွက်၍ အိုးထိန်းသည် ရွာလမ်းအတိုင်း ကြွသွားလေ၏။ အာဂန္တုရဟန်းက "အို အဆွေတော်၊ အဘယ့်ကြောင့် ဤခရီးသို့ ကြွရပါသလဲ"ဟု မေး၏။ "အို ငါ့ရှင်၊ သင်က ပါစိနခဏ္ဍရာဇိအရပ်၏ ဂုဏ်ကျေးဇူးကို ပြောသည် မဟုတ်ပါလား"ဟု မိန့်လေ၏။ "အရှင်ဘုရား၊ ဘယ်လိုပါလဲ၊ အကြာကြီးနေခဲ့သော အရှင်ဘုရား၏ ကျောင်းနှင့် အပိုအမို ပရိဘောဂ ပရိက္ခရာများ မရှိတော့ဘူးလား"ဟု မေးပြန်၏။ "အို ငါ့ရှင်၊ ပစ္စည်း ပရိဘောဂ မရှိပါ၊ ညောင်စောင်း အင်းပျဉ်တစ်ခုကလည်း သံဃိကပစ္စည်း ဖြစ်သည့် အတိုင်း သိမ်းဆည်းခဲ့ပါပြီ။ ဤပစ္စည်းအပြင် အခြားပစ္စည်းဟူ၍ မရှိတော့ပါ"ဟု မိန့်လေ၏။

အာဂန္တုရဟန်းက "အဆွေတော် ခေတ္တဆိုင်းပါဦး၊ တပည့်တော်၏ တောင်ဝှေး၊ ဆီထည့်သော ကျည်တောက်၊ ဖိနပ်အိတ် အဆွေတော်ကျောင်းမှာ ကျန်နေရစ်ပါသေးသည်၊ သွားယူပါရစေ"ဟု ဆိုသည်တွင် ကျောင်းနေရဟန်းက "အို ငါ့ရှင် ဘယ့်နယ်လဲ၊ တနေ့ တရက် နေရမည့် ခရီးမှာပင် ဤမျှသော ပစ္စည်းများကို ထားပါသလား"ဟု ဆိုလေသော် "အရှင်ဘုရား ထားမိပါသည်"ဟု ဝန်ခံကာ မိတ်ဆွေ ကျောင်းနေရဟန်းအပေါ်၌ ကြည်ညိုလှသဖြင့် မထေရ်ကို ရိုသေစွာ ရှိခိုးပြီးလျှင် –

"အရှင်ဘုရား၊ အရှင်မြတ်လို ပုဂ္ဂိုလ်တို့အတွက် မည်သည့်နေရာမဆို (ဘယ်နေရာမှာဘဲနေနေ) တောနေရဟန်း ဖြစ်ပါတော့သည်။ အရှင်ဘုရားနေရာ ထူပါရုံကျောင်းတိုက်သည် ဘုရားလေးဆူတို့၏ ဓာတ်တော်များ ဌာပနာရာအရပ် ဖြစ်ပါ၏။ လောဟပါသာဒ ပြာသာဒ်နှင့် သင့်လျော်လျောက်ပတ်သော တရားနာခြင်းကို လည်းကောင်း၊ မဟာစေတီဘုရားဖူးခြင်းကို လည်းကောင်း၊ မထေရ်ကြီးများအား ဖူးမြော်ခြင်းကိုလည်းကောင်း အခွင့်ရနိုင်ပါသည်။ သက်တော်ထင်ရှား မြတ်စွာဘုရား ရှိတော်မူစဉ်နှင့် မခြား ဖြစ်ပါသည်။ အဆွေတော်အရှင်မြတ်သည် ဤအရပ်မှာပင် နေတော်မူသင့်ပါသည်။ နေတော်မူပါ"ဟု လျှောက်ထားလေ၏။ နောက်တနေ့တွင် သပိတ်သင်္ကန်းကို ယူပြီးလျှင် မိမိတစ်ပါးတည်းပင် နေရင်းဌာနသို့ ပြန်သွားလေသတည်း။ (ဝိသုဒ္ဓိမဂ် ကမ္မဋ္ဌာနဂ္ဂဟနိဒ္ဒေသ ၀၁၂)။

အရှင်သောဘနသည် ယခင် မော်လမြိုင်မှ သထုံမြို့အရောက် ဘုရားဖူးတရားရှာ ထွက်လာစဉ်ကလည်း ဖိနပ်မပါ၊ ပရိက္ခရာမျှကိုသာ ယူဆောင်၍ ပစ္စည်းအပေါ်၌ ငဲ့ကွက်ခြင်းမရှိဘဲ အတောင်နှစ်ဖက်သာ ဝန်တာရှိသော ငှက်ကဲ့သို့ လှည့်လည်ခဲ့ဘူးလေသည်။ ယခုအခါ၌လည်း အာဝါသ ပလိဗောဓ လုံးဝလွှတ်ကင်းလျက် မိမိ ကျိန်းစက်ယင်း အိပ်ရာ ခြင်ထောင်ကိုပင် ပကတိနေမြဲအတိုင်း ထားခဲ့၍ ပရိက္ခရာ ရဟန်းအသုံးအဆောင်မျှကိုသာ ယူဆောင်လျက် ထူပါရုံကျောင်းတိုက်နေ မထေရ်အလား မော်လမြိုင်မြို့မှ မီးရထားဖြင့် ထွက်ခွာလာခဲ့လေသည်။

## ဇာတိဆိပ်ခွန်ရွာ မဟာဝည်ကျောင်း၌ သတိပဋ္ဌာန်တရားကို စတင်ဟောပြခြင်း

ဆိပ်ခွန်ရွာမှ အနောက် ခရီး တာလေးရာမျှ ဝေးကွာရာ၌ ကျော်စောထင်ရှားသော အင်ကြင်းတောစေတီတော်ရှိသည်။ ထိုစေတီတော်၏ တောင်

မျက်နှာအနီး အင်ကြင်းတောတိုက်အတွင်း၌ မဟာစည်ကျောင်း ရှိသည်။ မဟာစည်ကျောင်း ခေါ်တွင်ခြင်းမှာ ကျောင်းအဝင်ဝ စည်းရိုးတွင် ရှေးနှစ်ပေါင်း အတော်ကြာက ပေါက်ရောက်စည်ကားလျက်ရှိသော ကုက္ကိုပင်ကြီး တစ်ပင်ကို လေမုန်တိုင်း တိုက်ခတ်သဖြင့် လဲကျသွားလေရာ အရင်းပိုင်းမှာ အလိုလို အခေါင်း ဖြစ်နေ၍ စည်ကြက်ဖို့ အဆင်သင့် ဖြစ်နေလေ၏။ အပေါ်ရုံအကာကို ချောမော အောင်ပြုပြင်၍ အရင်းဘက် အဖျားဘက်က သားရေဖြင့် ကြက်ပြီးလျှင် စည် အဖြစ်ဖြင့် အသုံးပြုသည်တွင် အခြားစည်များနှင့်မတူ အရွယ်အစား ကြီးမားလှ သည်ကို အစွဲပြု၍ "မဟာစည်"ဟူ၍ သမုတ်ကြလေသည်။ စည်ကြီး ဒါယကာမှာ ဆိပ်ခွန်ရွာ ဦးဖိုးတင်-ဇနီး ဒေါ်ခတို့ ဖြစ်၍ သက္ကရာဇ် ၁၂၉၅-ခုနှစ်၌ ပြုလုပ် ကြောင်း၊ ယခုအခါ စည်ကြီး ဒါယကာ ကွယ်လွန်၍ ဒါယိကာမ အသက် ၇၅- နှစ်ရှိ ဒေါ်ခသာ ရှိတော့သည်ကို စာရေးသူကိုယ်တိုင် ဆိပ်ခွန်ရွာသို့ သွားရောက် လေ့လာသဖြင့် သိရှိခဲ့ရပါသည်။ စည်ကြီးအမ ဒေါ်ခကိုလည်း မဟာစည် ကျောင်းတိုက် အတွင်း၌ ဥပုသ်စောင့်နေသည်ကို တွေ့မြင်ခဲ့ရပါသည်။ ဤ စည်ကြီးကို ဘုရားဝတ်တက်ချိန်၌လည်းကောင်း၊ နေ့လယ်မွန်းတည့် ၁၂ နာရီ အချိန်၌လည်းကောင်း တီး၍ ၎င်းစည်တီးသံကိုပင် အနီးပတ်ဝန်းကျင်မှ နာရီမှန် အချိန်မှန် အဖြစ်ဖြင့် ယခုကဲ့သို့ ရေဒီယိုတွေ မများသေးသော ထိုအချိန်အခါက အသိအမှတ်ပြုကြသည်။ နောက်ကာလ၌ မဟာစည်ဆရာတော် တရားဟောခါ နီးတွင် ထိုစည်ကိုတီး၍ ကြေညာသည်။ ထိုစည်သံကိုကြားလျှင် အနီး ပတ်ဝန်းကျင်မှ တရားနာရန် စုရုံးလာကြသည်။ စည်ကြီး၏ ပမာဏမှာ -

| | |
|---|---|
| အလျားလက်မ | ၁၀၅။ |
| မျက်နှာအကြီးဘက်လက်မ | ၄၀-အချင်း။ |
| ၎င်းအတွင်းသား ကန့်လန့်ဖြတ် | ၃၄-အချင်း။ |

မျက်နှာအငယ်ဘက်လက်မ ၃၆–အချင်း။
ရင်းအတွင်းသား ကန့်လန့်ဖြတ် ၃၁–အချင်း။
မျက်နှာအဝန်းလုံးပတ်လက်မ ၁၂၆။

ဤမျှကြီးမားသောစည် (မဟာစည်)ကို အသုံးပြုရာကျောင်း ဖြစ်သောကြောင့် ဥပစာတင်စားကာ ကျောင်းကိုလည်း မဟာစည်ကျောင်းဟု ခေါ်ဝေါ်သမုတ်ကြလေသည်။ ထိုကျောင်း၌ သီတင်းသုံးနေသည်ကို အကြောင်းပြု၍ ဌာနူပစာအားဖြင့် မဟာစည်ဆရာတော်ဟု ခေါ်တွင်ခဲ့လေသည်။

### ပထမအကြိမ် မဟာစည်ကျောင်း၌ သီတင်းသုံးခြင်း

သက္ကရာဇ် ၁၃၀၀–ပြည့် ကဆုန်လ (၁၉၃၈–ခု မေလ)အတွင်း ဒုတိယကမ္ဘာစစ်မဖြစ်ခင် သုံးနှစ်က မော်လမြိုင်မြို့မှ ဆိပ်ခွန်သို့ကြွလာ၍ အင်ကြင်းတောတိုက် မဟာစည်ကျောင်း၌ သီတင်းသုံးခဲ့သည်။ ကဆုန်လမှ တန်ဆောင်မုန်းလထိ (၇)လအတွင်း သီတင်းသုံးနိုက်တွင် ဆွေမျိုးရင်းချာ ဖြစ်သော ဒကာ (၃)ဦးအား ပထမဆုံး သတိပဋ္ဌာန် နည်းရအောင် ဟောပြ သင်ကြားပေးတော်မူသည်။

ဤသတိပဋ္ဌာန်တရားသည် နည်းမှန်လမ်းမှန်ကျအောင် ကြိုးစားအားထုတ်ပါက အမြတ်ဆုံး (၇)ရက်အတွင်းမှာပင် မဂ်ဖိုလ်ကို ရနိုင်သည်ဟု မြတ်စွာဘုရားကိုယ်တော်တိုင် သတိပဋ္ဌာန် သုတ္တန်တွင် ဝန်ခံဟောထားပြီး ဖြစ်သည့်အတိုင်း ယုံယုံကြည်ကြည် လေးလေးစားစား အားထုတ်ကြရန် တိုက်တွန်းအားပေးတော်မူသည်။

အာသာ ဖလဝတီ သုခါ၊ မျှော်လင့်တောင့်တခြင်းမှန်သမျှ အကျိုးရှိမှ ချမ်းသာသည်။ နိပ္ဖန္န သောဘာဏော အဗ္ဘော၊ အကျိုးတရားမှန်သမျှ အပြီးအစီးသို့ ရောက်မှ တင့်တယ်သည်ဟူသော ဘုရားဟော တရားတော်နှင့်အညီ မဂ်ဖိုလ်ကိုရမည်၊

မျက်မှောက်ပြုရမည်ဟူသော မျှော်လင့်တောင့်တချက် ပြည့်စုံမှ ကေန်ချမ်းသာမည်၊ မိမိတို့ မျှော်လင့်ထားသော အကျိုးတရားလည်း တောင်မရောက် မြောက်မကျ စကောစကက ဖြစ်နေလျှင် တင့်တယ်သင့်လျော်လိမ့်မည် မဟုတ်။ အပြီးအစီးသို့ ရောက်အောင် ကြိုးစားမှသာ ယောဂီဖြစ်ကျိုးနပ်၍ လျောက်ပတ် တင့်တယ်လိမ့်မည် ဟူ၍လည်း အတည့်အလင်း ညွှန်ကြားထားတော်မူသည်။

## အပ္ပမာဒနှင့် သတိပဋ္ဌာန်

မြတ်စွာဘုရား သာသနာတော်တွင် အပ္ပမာဒ အမှတ်ရခြင်း သတိတရားသည် အရေးပါ အရာရောက်သော တရားမြတ်ဖြစ်သည်။ "မမေ့ခြင်း အမှတ်ရခြင်းသည် မသေခြင်း၏ အကြောင်းဖြစ်၏။ မေ့ခြင်း အမှတ်မရခြင်းသည် သေရခြင်း၏ အကြောင်းဖြစ်၏" ဟူသော မြတ်စွာဘုရား၏ အမိန့်တော်ကို ယုံကြည်သောသူတိုင်းပင် သေခြင်း ကင်းလိုလျှင်၊ သေရမည်ကို ကြောက်လျှင် "မမေ့မှု အမှတ်ရမှု" သတိတည်းဟူသော အပ္ပမာဒတရားကို အလေးပြု၍ ပွားစေထိုက်လှ၏။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံခါနီးတွင်လည်း "အပ္ပမာဒေန သမ္ပာဒေထ၊ မမေ့မအမှတ်ရမှုသတိဖြင့် သီလ သမာဓိ ပညာကို ပြီးစေရစ်ကြမည်"ဟု မိန့်မှာတော်မူခဲ့၏။ အပ္ပမာဒ သတိတရားကို ပွားစေလျှင် မြတ်စွာဘုရား၏ နောက်ဆုံး မိန့်မှာခဲ့သော အဆုံးအမတော်ကိုလည်း ရိုသေလိုက်နာရာ ရောက်ပေသည်။ သို့ဖြစ်၍ ပရိနိဗ္ဗာန် စံတော်မူခါနီးဆဲဆဲ၌ ပိဋကတ်သုံးပုံ၏ လိုရင်းအတိုချုပ် အနေအားဖြင့် မှာထားတော်မူချက်ကို ရိုသေလိုက်နာသော သူတိုင်းပင် ဤ အပ္ပမာဒတရားကို အလေးအမြတ်ပြု၍ ပွားစေထိုက်လှပါပေ၏။

ဤမျှသာမကသေး၊ အပ္ပမာဒနှင့် သတိပဋ္ဌာန်သည် အမှတ်ရမှု သတိ၏

အမည်ချည်း ဖြစ်သောကြောင့် အနက်သဘောမှာ အတူတူသာတည်း။ ထို့ကြောင့် အပ္ပမာဒကို ပွားစေသောသူသည် မဂ်ဖိုလ်နိဗ္ဗာန်ကိုလည်း ရနိုင်၏။ သို့ဖြစ်၍ မဂ်ဖိုလ်နိဗ္ဗာန်ကို ရလိုသောသူသည် "နိဗ္ဗာန်ကို ရပါလို၏"ဟု ဆုတောင်းရုံမျှဖြင့် အားရကျေနပ်၍ မနေသင့်၊ အပ္ပမာဒ သတိပဋ္ဌာန် လုပ်ငန်းကို ပြီးစီးအောင်သာ လျင်မြန်စွာ အားထုတ်သင့်ပေ၏။

ဤမျှမကသေး "သတိပဋ္ဌာန်လေးပါးကို ဆရာတပည့် အဆက်ဆက် ပွားစေခြင်း၊ များစွာ လေ့လာခြင်းကြောင့် သူတော်ကောင်းတရား ဟူသော သာသနာတော်သည် ဘုရား ပရိနိဗ္ဗာန်စံပြီးသည့် နောက်ကာလ၌ ရှည်မြင့်စွာ တည်တံ့နိုင်ပေသည်"ဟူသော ဒေသနာတော်နှင့်အညီ သတိပဋ္ဌာန်ကို ပွားစေသော သူသည် သာသနာတော်ကို အရှည်တည်အောင် ပြုစုနေရာလည်းရောက်၏။ သို့ဖြစ်၍ သာသနာတော် အရှည်တည်တံ့ခြင်းကို အလိုရှိသော သူတိုင်းပင် အပ္ပမာဒ သတိပဋ္ဌာန်အလုပ်ကို အားထုတ်သင့်လှပါပေ၏။

### ဝမ်းနည်းဖွယ်

ဘုရားပရိနိဗ္ဗာန်စံတော်မူသည်မှ နောက် အနှစ်တထောင်ကျော်တိုင်အောင် ဤအပ္ပမာဒ(သတိပဋ္ဌာန်)တရားကို ဗုဒ္ဓဘာသာဝင် လူရှင်ရဟန်းတို့ အထူးလေ့လာ ပွားစေခဲ့ကြသည် ဟူ၍လည်းကောင်း၊ ထိုပုဂ္ဂိုလ်မြတ်တို့၏ စိတ်နှလုံးဓာတ်၌ ဤအပ္ပမာဒ(သတိပဋ္ဌာန်)တရား ကိန်းဝပ်ကွန့်မြူးခဲ့ပြီ ဟူ၍လည်းကောင်း၊ အဋ္ဌကထာ, ဋီကာ, ဒီပဝင်, မဟာဝင်, သာသနာဝင်စသော ကျမ်းတို့ဖြင့် ထင်ရှားလှ၏။ အကြောင်းကား..... ထိုကာလအတွင်းက အရိယာဖြစ်သူတို့၏ အကြောင်း အရာကို ထိုထိုကျမ်းတို့၌ ပြဆိုထားသောကြောင့်ပေတည်း။ ထိုအနှစ်တထောင် ကျော်မှ နောက်ကာလ၌ကား ထိုသို့သော ပြဆိုချက်များကို များစွာ မတွေ့ရ

သောကြောင့် အပ္ပမာဒ(သတိပဋ္ဌာန်) အလုပ်ကို အားထုတ်သူ နည်းပါးခဲ့သည်ဟု ယူဆဖွယ်ရှိ၏။ ကြာမြင့်စွာသော ကာလမှစ၍ အစဉ်အဆက် လေ့လာပွားစေမှု နည်းပါးခဲ့သည့် အတွက် ဤအပ္ပမာဒ(သတိပဋ္ဌာန်) အားထုတ်နည်းကို ကျနစွာ သိရန်ပင် နောင်လာနောက်သားတို့မှာ မလွယ်ကူဘဲ ရှိခဲ့လေပြီ။ ဝမ်းနည်းဖွယ် ကောင်းလေစွ။

**အားတက်ဖွယ်**

သို့သော်လည်း "ဤအပ္ပမာဒတရား လုံးဝကွယ်သွားပြီ"ဟူ၍ကား မမှတ်အပ်ပေ။ အတ္တဟိတ ကိုယ်ကျိုးကိုယ့်စီးပွား အစစ်အမှန်ကို ရှာမှီးလေ့ရှိသော ပုဂ္ဂိုလ်မြတ်တို့၏ သန္တာန်၌ကား ဤအပ္ပမာဒတရားသည် တည်လျက်ပင် ရှိခဲ့ပေသည်။ တည်ရှိပုံကို အနီးကာလအားဖြင့် ဖော်ပြရလျှင် "သီးလုံးတောရ ဆရာတော်ဘုရားကြီးသည်" ဤအပ္ပမာဒ (သတိပဋ္ဌာန်) တရားကို ပွားများ အားထုတ်ရာ၌ နေလအသွင် ထင်ရှားတော်မူခဲ့လေပြီ။

တဆင့်စကား ကြားရသည်မှာ မင်းကွန်းမြောက်ဘက် ရောဝတီမြစ် အနောက်ဘက်ကမ်းရှိ ရှမ်းမကားရွာ၌ သိမ်သမုတ် ကိစ္စအတွက် မန္တလေး၊ စစ်ကိုင်း စသော ဌာနများ၌ ရာဇဂုရုတံဆိပ်ရ ဆရာတော်ကြီးများစွာတို့ စုဝေးမိကြရာတွင် လျှောက်ထား တောင်းပန်သောကြောင့် သီးလုံးဆရာတော်ကြီးက သံဃပရိသတ် အား တရားဟောပြ ဆုံးမတော်မူသတတ်။ ဟောသောအခါမှာလည်း "မိမိ သဘောကျ နလုံးသွင်း အားထုတ်သည့်အတိုင်း ဟောပါမည်"ဟု စကားပလ္လင် ခံပြီးလျှင် အနာဂါမိမဂ်ဖိုလ်တိုင်အောင် ဝိပဿနာရှုပုံ၊ ဝိပဿနာဉာဏ်များ ဖြစ်ပုံ၊ မဂ်ဖိုလ်ရောက်ပုံ၊ ဖလသမာပတ် ဝင်စားပုံတို့ကို ကျနစွာ ဟောပြတော်မူသတတ်။ ဟောအပ်သော ထိုတရားတော်သည်ကျမ်းဂန်တတ် ဖြစ်သော ထိုဆရာတော်ကြီး များပင် အံ့ဩလောက်အောင် နက်နဲသိမ်မွေ့သတတ်။

အပ္ပမာဒ (သတိပဋ္ဌာန်) တရားကို ပွားများ အားထုတ်တော်မူသော သီးလုံး ဆရာတော်ဘုရားကြီး၏ တပည့်များစွာတို့တွင် တပါး အပါအဝင် ဖြစ်တော်မူသော စစ်ကိုင်းတောင်ရိုး "အလယ်တောရ ဆရာတော်ကြီး"သည် ကိစ္စတပါး၌ ကြောင့်ကြစိုက်တော်မမူဘဲ၊ အပ္ပမာဒ (သတိပဋ္ဌာန်) ပဋိပတ်၌သာ မွေ့လျော်တော်မူသတတ်။ ထို အလယ်တောရဆရာတော်ကြီးထံမှ နည်းနိသသယများကို မင်းကွန်း ဇေတဝန်ဆရာတော်က မှတ်သားခံယူတော်မူပြီးလျှင် မြန်မာနိုင်ငံ တဝန်းလုံးတွင် အပ္ပမာဒ (သတိပဋ္ဌာန်) တရားကို ပေါ်လွင်ထင်ရှားအောင် ဟောကြား ညွှန်ပြတော်မူခဲ့၏။

ထို မင်းကွန်းဇေတဝန် ဆရာတော်ကြီးထံမှ အရှင်သောဘန ကိုယ်တိုင် လေ့လာသင်ကြား လက်တွေ့ကြိုးစား အားထုတ်တော်မူခဲ့၏။ ပရိယတ္တိ အခြေခံ ရရှိပြီး ဖြစ်ခြင်း၊ တကယ့် ဆရာတော်ကြီးများထံမှ ဆင်းသက်လာသော အပ္ပမာဒ သတိပဋ္ဌာန်အားထုတ်နည်းကို ကျနစွာရရှိခြင်းတို့ကြောင့် မိမိကိုယ်တိုင် တွေ့မြင် ခံစားရသကဲ့သို့ အခြားသူတို့လည်း တွေ့မြင်ခံစားရလေအောင် အပ္ပမာဒ (သတိ ပဋ္ဌာန်) ပွားများနည်းကို ပိုင်ပိုင်ကြီး ဟောကြား ပြသတော်မူလေသည်။

### ပထမဆုံး သတိပဋ္ဌာန်အားထုတ်သူများ

၁။ ဦးထွန်းအေး။

၂။ ဦးဖိုချို၊ မဟာစည်ဆရာတော်၏ အစ်ကိုဝမ်းကွဲ။

၃။ ဆရာကြံ၊ မဟာစည်ဆရာတော်၏ ညီဝမ်းကွဲ။

ဤသုံးယောက်တို့သည် မဟာစည်ဆရာတော် ညွှန်ကြားတော် မူသည့် အတိုင်း စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယ၊ မန၊ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဟူသော ဒွါရ (၆)ပါးတို့၌ ထင်လာသမျှသော ဆိုင်ရာဆိုင်ရာ

အာရုံများကို အလစ်မပေးဘဲ မှတ်သိခြင်း သတိဖြင့် ရှုမှတ် အားထုတ်ကြလေသည်။ ဖွဲကောင်းကောင်းဖြင့် ကြိုးစားအားထုတ်ကြရာ နာမ်ရုပ်ကို ပိုင်းခြားသိသော နာမရူပပရိစ္ဆေဒဉာဏ်၊ နာမ်ရုပ်တို့ အကြောင်းရင်းကို သိမ်းဆည်းသိနိုင်သော ပစ္စယပရိဂ္ဂဟဉာဏ်၊ နာမ်ရုပ်တို့၏ အနိစ္စဖြစ်ပုံ၊ ဒုက္ခဖြစ်ပုံ၊ အနတ္တဖြစ်ပုံတို့ကို သုံးသပ်နိုင်သော သမ္မသနဉာဏ်၊ ထိုနာမ်ရုပ်တို့ကိုပင် ဖြစ်ပြီးလျှင်ပျက်နေကြပါတကားဟု သိသော ဥဒယဗ္ဗယဉာဏ်၊ ဤဉာဏ်လေးချက်ကိုထင်ရှားရရှိသော အခြေအနေသို့ပင် ဆိုက်ရောက်ကြရသည်။

## ကိုယ်တွေ့ထူးခြားချက်

ထိုအခါက ဆိပ်ခွန်ရွာနှင့်တကွ ပတ်ဝန်းကျင်တွင် တရားသဘောနှင့် ပတ်သက်၍ မျက်စိလည်ဖွယ်ကောင်းလှသော အယူအဆတခု ပေါ်နှင့်နေသည်မှာ စစ်ကိုင်းတောင်၌ ထင်ရှားသော ဆရာတော်ကြီး တပါးက ဤသို့ဟောကြားထား၏။ "သတ္တဝါတို့၏ ခန္ဓာကိုယ်တွင် ကံကြောင့်ဖြစ်သော ကမ္မဇရုပ်၊ စိတ်ကြောင့်ဖြစ်သော စိတ္တဇရုပ်၊ ဥတုကြောင့်ဖြစ်သော ဥတုဇရုပ်၊ အာဟာရကြောင့်ဖြစ်သော အာဟာရဇရုပ် ဟူ၍ ရုပ်လေးမျိုးရှိသည်။

ထိုလေးမျိုးတို့တွင် ဥတုဇရုပ် ဖြစ်သော ဤကိုယ်ကောင်သည် မြင်းကိုလှောင်ထားရာ မြင်းဇောင်းနှင့်တူသည်။ ကမ္မဇရုပ်၊ စိတ္တဇရုပ်၊ အာဟာရဇရုပ် သုံးမျိုးတို့မှာ ဇောင်းလှောင်ထားသော မြင်းများနှင့်တူသည်။ မြင်းဇောင်းထဲက မြင်းများ ထွက်သွားသောအခါ မြင်းဇောင်း ကျန်ရစ်သကဲ့သို့၊ ကမ္မဇရုပ်၊ စိတ္တဇရုပ်၊ အာဟာရဇရုပ်တို့ ချုပ်ပျက်သွားသောအခါ၊ (ချုပ်ပျက်သွားသော်လည်း) ဤခန္ဓာကိုယ် ဥတုဇရုပ်မှာ မပျက်မစီးဘဲ ကျန်ရစ်သည်။ လူများ သေသွားသောအခါ ကမ္မဇရုပ်၊ စိတ္တဇရုပ်၊ အာဟာရဇရုပ်တွေ အကုန်လုံး ချုပ်သွားကြသော်လည်း

ဥတုဇရုပ်ဖြစ်သော ရုပ်အလောင်းကြီးမှာ မြင်းဇောင်းကျန်ရစ်သလို ကျန်ရစ်သည် မဟုတ်လော။

"ဤသဘောကို ထောက်ဆ၍ ဥတုဇ ရုပ်သည် မြဲသောရုပ် (ရုပ်ကြမ်း)၊ ကျန်ရုပ်သုံးမျိုးတို့မှာ မမြဲသောရုပ်(ရုပ်နု)၊ ဥတုဇရုပ်ကို မမြဲသော အနိစ္စဟု မရှုသင့်။ ကျန်ရုပ်သုံးမျိုးတို့ကိုသာ မမြဲသော အနိစ္စဟု ရှုရမည်။ မမြဲသောရုပ်၊ မြဲသော ရုပ်ဟု နှစ်မျိုးခွဲခြား မှတ်သားရမည်"ဟူ၍ ဟောကြားတော်မူ၏။ ဤတရားကား ရတ်တရက်သော် သဘောကျသင့် သကဲ့သို့ ထင်ရပေသည်။

ဤသို့ ဟောထားသဖြင့် မျက်မြင်သဘောအရ ဤခန္ဓာကိုယ်ကောင်ကြီးက အနှစ်နှစ် အလလ ဆက်လက်တည်နေသည်။ တည်နေသည်ကို တွေ့မြင်နေရသောကြောင့် ဥတုဇရုပ်ကို မြဲသောရုပ်ဟု ဆိုသည်မှာ ယုတ္တိရှိသည်။ သဘောကျစရာ ကောင်းသည်ဟု ယူဆ သဘောကျနေသူတို့လည်း ရှိနေသည်။ ထိုသို့ သဘောကျနေသူတို့တွင် မဟာစည်ဆရာတော် ညွှန်ကြားသည့်အတိုင်း ရှေးဦးစွာ တရားအားထုတ်နေကြသော ပုဂ္ဂိုလ် (ယောဂီ) သုံးဦးအနက် ဦးဖိုးချို့လည်း တစ်ဦး အပါအဝင် ဖြစ်၏။

ရုပ်ကြမ်း–ရုပ်နု ခွဲခြား၍ နိစ္စ–အနိစ္စ ဖြစ်ပုံကို ဟောကြားသော ထိုဆရာတော်ကြီး၏ တပည့် ရဟန်းတစ်ပါးက ဆရာ့စကားကို သဘောမကျနိုင်သဖြင့် ဤသို့ လျှောက်ထားသည်။

"အရှင်ဘုရား – ရုပ်ကို နိစ္စ၊ အနိစ္စ ခွဲခြား ဟောပြသည်မှာ သဗ္ဗေသင်္ခါရာ အနိစ္စာ၊ အလုံးစုံသော သင်္ခါရတရား တို့သည် အမြဲမရှိကုန်ဟု မြတ်စွာဘုရား ဟောတော်မူသော တရားနှင့် ညီညွတ်ပါမည်လား။ ရုပ်မှန်သမျှ သင်္ခါရတရားချည်း ဖြစ်ပါသည်။ သင်္ခါရတရားဆိုလျှင် နိစ္စမရှိ၊ အနိစ္စချည်းသာ ဖြစ်ရပါမည်။ သို့ဖြစ်၍ ဆရာတော်ဘုရား ဟောကြားချက်ကို စဉ်းစားသင့်ပါသည်"ဟူ၏။

ဆရာတော်ကြီးက "ဦးပဋ္ဌင်း သဘောမပေါက်သေးဘဲကိုး၊ ဥတုဇရုပ် မပျက်စီးကြောင်း ထင်ရှားပုံကို တခြား မကြည့်ပါနှင့်၊ ငါတို့ ငယ်စဉ်က ထိုးထားတဲ့ ထိုးကွင်းမင်ကြောင်တွေဟာ သေသည်အထိ ဒီအတိုင်း စွဲထင်နေတယ် မဟုတ်လား။ ထိုးကွင်းဟာ ပျက်သွားတယ်လို့ ကြားဘူးသလား၊ ဒီအချက်ဟာ နိစ္စခိုင်မြဲတဲ့ သဘောပေါ့"ဟု ရှင်းပြတော်မူပါသတဲ့။

ရုပ်ကြမ်း–ရုပ်နု ခွဲခြား၍ နိစ္စ၊ အနိစ္စဟု ဟောကြားသော တရားကို သဘောကျလျက်ရှိသော ဦးဖိုးချို့သည် မဟာစည် ဆရာတော်၏ ဩဝါဒအရ သတိပဋ္ဌာန် လမ်းစဉ်အတိုင်း စွဲစွဲမြဲမြဲ နောက်မဆုတ်တမ်း ကြိုးပမ်းပွားများလေရာ ဘင်္ဂဉာဏ်စခန်းသို့ရောက်လျှင် ရုပ်နာမ်ဟူသမျှ ဘယ်ခါမစဲ ဖြစ်ပြီးပျက်မြဲ၊ ဖြစ်ပျက်ဖြစ်ပျက် တွေပါတကား..... ဟု ဉာဏ်ဝတွင် ထင်လာတော့သည်။ ပကတိ မျက်စိဖြင့် မမြင်နိုင်၊ ဝိပဿနာ ကိုယ်တွေ့ဒိဋ္ဌ ဖြစ်လာသောအခါ နဂိုက သဘောကျထားသော ဥတုဇရုပ် မြင်းဓောင်းကြီးပါမကျန် ဖောက်ပြန်ပျက်စီး နေပါတကားဟု မည်သူကမျှ ဟောပြရခြင်း မရှိဘဲ မျက်စိလည်ပျောက်ကင်း အလင်းသိမြင်ရလေသည်။

ယောဂီ ဦးဖိုးချို့သည် သတိပဋ္ဌာန် လမ်းစဉ်အတိုင်း အားမထုတ် မီက "မြဲသောရုပ်၊ မမြဲသောရုပ် ရှိနေသည်"ဟူ၍ သဘောကျနေခဲ့၏။ သတိပဋ္ဌာန် တရားကို ပွားများ အားထုတ်သောအခါ မြဲသောရုပ်ဟူ၍ လုံးဝ မရှိကြောင်း၊ တရိပ်ရိပ် တဖြုတ်ဖြုတ်နှင့် ချုပ်ပျက်နေကြောင်း ကိုယ်တွေ့ဒိဋ္ဌ သိမြင်ရလေ၏။ သတိပဋ္ဌာန် တရား၏ မှန်ကန်ကြောင်းကို တစုံတယောက်က ထောက်ခံ ဟောပြော နေရခြင်းမရှိဘဲ ကိုယ်တိုင် ဆုံးဖြတ်နိုင်လေတော့သည်။

### ပဋိပတ်အရာမှာ ကျမ်းဂန်သာ ပမာဏ

ရုပ်ကြမ်း ရုပ်နုခွဲ၍ မြမ်မြ ယူဆခြင်းသည် ကျမ်းဂန်လွတ် ကိုယ်ထင်သလို ပြောဆိုသော အတ္တနောမတိ ဝါဒသာ ဖြစ်ချေသည်။ ရုပ်နာမ်ကို ရှုရသော ပဋိပတ် အလုပ်တွင် ကိုယ်ထင်သလို ယူဆပြောဆို၍မရ၊ ကျမ်းဂန်စည်းမျဉ်းကို ကျော်နိုင်း၍ မဖြစ်။ သို့ဖြစ်သောကြောင့် မန်လည်ဆရာတော်ကြီးက သီလ အဆုံးအဖြတ် ဖြစ်သော ဝိဇရဂ္ဂဒီပနီကျမ်းတွင် "ပဋိပတ်အရာမှာ ကျမ်းဂန်သာ ပမာဏ"ဟု အတည့်အလင်း မိန့်မှာတော်မူ၏။

ရုပ် နာမ် ပရမတ်ဆိုင်ရာ ဝိပဿနာအလုပ်သည် ပဋိပတ်လုပ်ငန်းတွင် အလွန် အထက်တန်းကျသော အလုပ်ဖြစ်၏။ ဤမျှ အဆင့်အတန်းမမြင့်သော သီလပဋိပတ်(သီလစောင့်ထိန်းခြင်း) အလုပ်မှာပင် ကျမ်းဂန်စည်းမျဉ်းကို လက်မလွှတ်ရ၊ ဘုရားဟောနှင့် ဘုရားအလိုတော်ကျ ဖွင့်ဆိုကြသော အဋ္ဌကထာ၊ ဋီကာ စည်းမျဉ်းအတိုင်း တသွေမတိမ်း စောင့်ထိန်းအားထုတ်ကြလေသည်။ ကျမ်းဂန်စည်းမျဉ်းကို လက်လွှတ်သည်နှင့် တပြိုင်နက် အသူတရာနက်သော ချောက်တွင်းသို့ လိမ့်ကျဖို့ရာ ဟန်ပြင်ပြီး ဖြစ်တော့သည်။

### ကျမ်းဂန်လက်လွှတ်ပုံ

ယခုအခါ ခေတ်ပညာတတ်ဟု အခေါ်ခံလျက်ရှိကြသော အချို့နာမည်ရ စာရေးဆရာကြီးတို့သည် ပိဋကတ်နယ်ပယ်တွင်းသို့ ချင်းနင်းဝင်ရောက်လာကြရာမှ မိမိတို့ လေ့လာထားသော ခေတ်ပညာ အတွေးအဆများကို အခြေခံပြုပြီးလျှင်–

> အရက်သောက်ခြင်းသည် ဒုစရိုက်ဖြစ်၍ ငရဲသို့ ကျစေတတ်သည်ဟု ဘုရားမဟော၊ ဘုရားဟောမရှိ။

ခုနစ်ရက် တစ်လ ရဟန်းခံကြသော ဒုလ္လဘ ရဟန်းပြုခြင်းသည် ချီးမွမ်းဖွယ်မဟုတ်။

ဝိညာဏ်သိထက် သညာသိက သာ၍ လေးနက်သည်။

သညာသိထက် ဝိညာဏ်သိက သာ၍ လေးနက်ကြောင်းဆိုသည်မှာ ယုတ္တိမရှိ။

ဤသို့ စာအုပ်စာတမ်း သီးခြားထုတ်၍လည်းကောင်း၊ မဂ္ဂဇင်းများတွင် ထည့်သွင်း၍လည်းကောင်း ကျမ်းဂန်လွတ်ရေးသား ဖြန့်ချိလျက် ရှိသည်ကို တွေ့ရပါသည်။ မိမိကိုယ်တိုင်က ခေတ်ပညာတတ် ဆိုပြီးလျှင် ပိဋကတ်ကျမ်းဂန် နယ်ပယ်က သဘောများကို တကယ်ပိုင်နိုင်ပြီး၊ နားလည်ပြီးကဲ့သို့ "ကျမ်းဂန်မရှိ၊ ဘုရားမဟော"ဟု တချက်လွှတ် ရေးဝံ့ပြောဝံ့သည်မှာ အံ့သြဖွယ် ကောင်းလှပေသည်။ မဟာစည်ဆရာတော် အကြောင်းအရာ (အတ္ထုပ္ပတ္တိ)ကို ရေးသားရာတွင် ဤအချက်ကို ထည့်သွင်း ရေးသားရခြင်းမှာ အကြောင်းရှိပါသည်။

ထိုစာရေးဆရာကြီးသည် စစ်ကိုင်းဘက်ရိပ်သာတစ်ခုသို့ မဟာစည်ဆရာတော် ရောက်လာသောအခါ မိတ်ဆွေတစ်ဦးနှင့်အတူ မဟာစည်ဆရာတော်ထံ ရောက်လာပြီးလျှင် မဟာစည်ဆရာတော်ထံ တရားသဘောများကို လျှောက်ထား မေးမြန်းသည်ဟု ၎င်း၏မှတ်တမ်းစာအုပ်တွင် ဖတ်ရှုရပါသည်။ လျှောက်ထားပြီးသောအခါ မဟာစည်ဆရာတော်သည် သူတွေ့ရသမျှ ဆရာတော်များအနက် ကျမ်းဂန်အနေဖြင့် လည်းကောင်း၊ အလုပ် အနေဖြင့်လည်းကောင်း၊ ပင်ကိုယ်ဉာဏ် အနေဖြင့် လည်းကောင်း ကျေနပ်ဖွယ် အကောင်းဆုံးသော ပုဂ္ဂိုလ်တစ်ဦးဟု ဆိုရပါမည်။ အလုပ်သဘောကို ဖယ်ထား၍ အချို့သော ကျမ်းတတ် ပုဂ္ဂိုလ်များသည် ပြဿနာတစ်ခု၏ သဘာဝကျ မကျကို ဆုံးဖြတ်နိုင်သော ပင်ကိုယ်ဉာဏ် နည်းပါးခြင်းကို တွေ့ရဘူးလှပါပေပြီ ဟူ၍လည်းကောင်း။ ကျမ်းတတ်ပုဂ္ဂိုလ်

ဖြစ်စေ၊ တရားအားထုတ်ထားသည်ဆိုသော ပုဂ္ဂိုလ်ဖြစ်စေ တစ်ခုသောအမှုသည် အဘယ့်ကြောင့် ကုသိုလ်ဖြစ်သည်ကို လည်းကောင်း၊ တစ်ခုသော အမှုသည် အဘယ့်ကြောင့် အကုသိုလ်ဖြစ်သည်ကိုလည်းကောင်း၊ တစ်ခုသော အလေ့အကျင့်သည် အဘယ်ကြောင့် မင်္ဂအခြေ ဖိုလ်အခြေ ဖြစ်ခြင်းကို လည်းကောင်း၊ ကိုယ်ပိုင်ဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်ပြီး ထိုးထွင်း သိမြင်တတ်သော ပုဂ္ဂိုလ်သည် တိုင်းပြည်၌ အလွန် နည်းပါးသည်ကို တွေ့ရ၏။ သူ့အသက် သတ်ခြင်းသည် အဘယ်ကြောင့် အပြစ်ရှိသည်၊ ပေးကမ်းစွန့်ကြဲခြင်းသည် အဘယ့်ကြောင့် ကုသိုလ်ရ၍ မင်္ဂအခြေ ဖြစ်နိုင်သည် ဆိုခြင်းကို ကိုယ်ပိုင်ဉာဏ်ဖြင့် နားလည်သူရှားလှ၏။ မေးလိုက်လျှင် ဘုရားဟောသောကြောင့် သိရသည်ဟု ဖြေမည့်သူများသာ တွေ့ရ၏။ ကျွန်ုပ်အဖို့ကား အပြစ်ရှိခြင်း ကုသိုလ်ဖြစ်ခြင်း စသော ကိစ္စများမှာ ဘုရားဟောတတ်ဖို့ မလို၊ ကိုယ်ပိုင်ဉာဏ်ဖြင့် ရှင်းလင်းပြီးဖြစ်၏။ ကျွန်ုပ်အဖို့တွင် ဂေါတမဗုဒ္ဓသည် လောကမှ လွတ်မြောက်ရေးအတွက် သက်သက်ပွင့်တော်မူခြင်း ဖြစ်သည်ဟု နားလည်ပါသည် ဟူ၍လည်းကောင်း ရေးထားသည်ကို တွေ့ရပါသည်။

"သဘာဝ ကျမကျ ဆုံးဖြတ်နိုင်သော ပင်ကိုယ်ဉာဏ် နည်းပါးခြင်းကို တွေ့ရဘူးလုပါလေပြီ"ဟု ဆိုခြင်းမှာ အထူးပြောနေဖွယ် မရှိချေ။ ဉာဏ်နည်းသူထက် ဉာဏ်ရှိသူက ရှားပါးကြောင်းမှာ ထင်ရှားပြီး ဖြစ်ပါသည်။ "သဘာဝ ကျမကျကို ဆုံးဖြတ်နိုင်သော ပင်ကိုယ်ဉာဏ်"ဆိုသည်မှာ ကျမ်းဂန်ကို လက်လွှတ်၍ မရချေ။ သဘာဝ ကျသည်မကျသည်ကို ကျမ်းဂန် မသင်ဘူးဘဲ၊ ဆရာသမားထံ နည်းမခံဘဲ ဆုံးဖြတ်နိုင်သည် မဟုတ်ချေ။ အကယ်၍ ကျမ်းဂန် လက်လွှတ်ပြီး ဆရာသမားထံ ကျိုးကျိုးနွံနွံ နည်းမခံဘဲ "ငါ့ ပင်ကိုယ်ဉာဏ်ဖြင့် ဘယ်ဟာက အပြစ်ရှိသည်၊ ဘယ်ဟာ အပြစ်မရှိဘူး"ဟု ဆုံးဖြတ်ခဲ့သော် ဤသို့ ဆုံးဖြတ်ခြင်းသည် အတ္တနောမတိ-မိမိအယူ မိမိအတွေးသာ ဖြစ်သည်။ အတ္တနော

မတိကို အမှန်ဆုံး အကောင်းဆုံးထားခဲ့လျှင် အာဂမယုတ္တိဖြစ်သော ပါဠိ အဋ္ဌကထာ ဋီကာ စသော ကျမ်းဂန်များ ရှိနေဖို့ မလိုတော့ပြီ။ ရှင်ဗုဒ္ဓဃောသ စသော အဋ္ဌကထာ ဋီကာ ဆရာကြီးများပင် တေန ဟိ ဝုတ္တံ၊ ထို့ကြောင့် ပါဠိတော်က ဤသို့ဆိုသည် စသည်ဖြင့် ကျမ်းဂန်ကို အားကိုးကြောင်း လက်မလွှတ်ကြောင်းကို ဖော်ပြတော်မူကြရသည်။

ကုသိုလ်ကံ အကုသိုလ်ကံနှင့် ပတ်သက်၍ အကျိုးရှိသည်၊ အပြစ်ရှိသည် ဟူသော သဘောကို ပင်ကိုယ်ဉာဏ်ဖြင့် ပိုင်ပိုင်နိုင်နိုင် ဆုံးဖြတ်နိုင်သည် မဟုတ်ချေ။ ကမ္မဝိပါက အစိန္တေယျ ကံ၏ အကျိုးပေးပုံ သဘောသတ္တိသည် မကြံစည်နိုင်အောင် ကျယ်ဝန်းလှ၏။ ကိုယ်ပိုင်ဉာဏ်ဖြင့် နားလည်ဖို့ရာ ခဲယဉ်းလှ၏။ တစွန်းတစလောက်သာ နားလည်နိုင်ပေမည်။ "အပြစ်ရှိခြင်း ကုသိုလ်ဖြစ်ခြင်း စသော ကိစ္စများမှာ ဘုရားဟောဖို့ မလို"ဟု ဆိုပြန်သေး၏။ လောကဝဇ္ဇ ပဏ္ဏတ္တိဝဇ္ဇ လောကသဘာဝအားဖြင့် ဖြစ်နေသော အပြစ်၊ ပညတ်ထားသောကြောင့် ဖြစ်ပေါ်လာသော အပြစ်ဟူ၍ (၂)မျိုးရှိရာ၊ လောကဝဇ္ဇအတွက် ဘုရားဟောဖို့ မလိုဘူး ဆိုသည်မှာ ဟုတ်သင့်သလောက် ဟုတ်ပါသည်။ ပဏ္ဏတ္တိဝဇ္ဇ ပညတ်ထားသောကြောင့် ဖြစ်ပေါ်လာသော အပြစ်မျိုးကား ဘုရားဟောဖို့ အလွန်လိုကြောင်း ဝိနည်းပိဋကတ်ကို စေ့စပ်အောင် လေ့လာလျှင် သိနိုင်ပေလိမ့်မည်။ "ကိုယ်ပိုင်ဉာဏ်ဖြင့် ရှင်းပြီး ဖြစ်၏"ဆိုသေး၏။ ကိုယ်ပိုင်ဉာဏ် ဆိုသည်မှာ မိမွေးတိုင်း ဖမွေးတိုင်း ပါလာသော ဉာဏ်ကို ဆိုလေသလား၊ ကျမ်းဂန်စာပေ ကြည့်ရှုလိုက်စား လေ့ကျက်ထားသောကြောင့် ဖြစ်ပေါ်လာသော ပင်ကိုယ်ဉာဏ်လား၊ တရားအားထုတ်ထားသောကြောင့် အလွန်အမြင်သန်နေသော ဝိပဿနာဉာဏ်ကို ဆိုလေသလား၊ ကွဲကွဲပြားပြား မသိရချေ။ ဘယ်ဉာဏ်မျိုး ဖြစ်ဖြစ် ကုသိုလ် အကုသိုလ် ကိစ္စကို ရှင်းပြီးဖြစ်အောင် မသိနိုင်ချေ။ သေသေချာချာ စဉ်းစားအပ်လှပေသည်။

ကံဆိုသည်မှာ အလွန်ဆန်းကြယ်လှ၏။ ကမ္မပထ မြောက်တိုင်းလည်းအပြစ်ကြီးသည် မဟုတ်၊ ကမ္မပထ မမြောက်တိုင်းလည်း အပြစ်သေးငယ်သည်မဟုတ်ချေ။ ဒေဝဒတ်သည် ဘုရားကို အသေသတ်မည်ဟု ဂိဇ္ဈကုဋ်တောင်ထိပ်မှ ကျောက်မောင်းဆင်၍ ချလိုက်ရာ ဘုရားကား မသေ၊ ကျောက်လွှာစကလေး ခြေမတော်ကို ထိခိုက်ရုံသာ ရှိ၏။ ပါဏာတိပါတကံ မြောက်ရာတွင် သတ္တဝါလည်း မှန်စေ၊ သတ္တဝါဟု အမှတ်လည်း ရှိစေ၊ သေစေလိုသော စေတနာလည်း ရှိစေ၊ သက်လည်း သတ်စေ၊ သေလည်း သေစေ၊ ဤအင်္ဂါငါးပါး ပြည့်စုံမှသာ ကံမြောက်၏။ ဒေဝဒတ်၏ ကျောက်လုံးချ၍ သတ်မှုသည် ဘုရား မသေသော ကြောင့် ကံမမြောက်၊ ပါဏာတိပါတကံ မထိုက်ချေ။ သို့ရာတွင် ဒုစရိုက်ဟူ၍ကား ဆိုရ၏။ ဒုစရိုက်မမည်သော အကုသိုလ် အနည်းငယ်မျှ မရှိချေ။ သို့အတွက် ကံမမြောက်စေကာမူ အဝီစိသို့ ကျသည်အထိ အကျိုးပေးနိုင်လေသည်။ အခြားသက်ရှိ တိရစ္ဆာန်ကို သတ်ရာ၌ အင်္ဂါငါးပါးစုံ၍ ကံမြောက်သော်လည်း ဤကျောက်လုံးချ သတ်မှုလောက် အပြစ်မကြီးနိုင်ချေ။

သတ္တဝါ တစ်ဦးတစ်ယောက် ရောဂါဝေဒနာ ကပ်ရောက်ရာ၌ ဖြစ်စေ၊ ဒဏ်ရာ အနာတရ ဖြစ်နေရာ၌ဖြစ်စေ ရက်တရက် မသေဘဲ ဆင်းရဲခံနေရသည်ကို မြင်ရ၍ သနားလှသဖြင့် အမြန်သေစေရန် ပယောဂ လုံ့လ တစ်ခုခု ပြုတတ်သူများ ရှိကြသည်။ ထိုသို့ အမြန် သေသွားလျှင် ဒုက္ခငြိမ်းတာဘဲဟု ယူဆ၍ သေအောင်ပြုလုပ်ခြင်းကို စေတနာကောင်း ရှိပေသည်၊ အပြစ် မဖြစ်နိုင်ဟု အတွေးသမား အနေနှင့် စဉ်းစားဆုံးဖြတ်လျှင် မှုချမှားလိမ့်မည်။ မေတ္တာမဟုတ်၊ ဗျာပါဒ ဖြစ်နေကြောင်းကို အတွေးသမား အနေနှင့် သိနိုင်မည် မဟုတ်ပေ။ အချို့သူများသည် မိဘများ ရောဂါပြင်းထန်၍ ဒုက္ခခံနေရသည်ကို မြင်ရသောအခါ ရင်ထုမနာ ဖြစ်ပြီး အမြန်သေသွားလျှင် ကောင်းမှာဘဲဟု စိတ်ဖြစ်တတ်ကြ၏။ အချို့လည်း အသက်

မြန်မြန် ထွက်အောင် အိမ်မိုးခေါင်ကို ဖွင့်ပေးခြင်း၊ အခန်းကို ဖွင့်ပေးခြင်း "ဘာမှမပူနှင့် စိတ်ချသွား"ဟု ပြောဆိုခြင်းတို့ကို ပြုတတ်ကြလေသည်။ ဤအပြုအမူများသည် အမြန်သေအောင် သတ်ခြင်းမျိုး ဖြစ်သောကြောင့် အဘယ်မှာ ကုသိုလ်ကံ ဖြစ်နိုင်ပါမည်နည်း။ ရတ်တရက်သော် စေတနာကောင်း ထားသည်ဟု ထင်ဖွယ်ရှိ၏။ အမှန်မှာ ကရုဏာ မေတ္တာယောင်ဆောင်နေသော ဗျာပါဒ ဒေါသ ပင်တည်း။ အချို့သူများသည် မြင်း ခြေကျိုးသွားလျှင် သတ်ပစ်ကြ၏။ နွား ရေတွင်းထဲကျနေလျှင် အပေါ်မှ သေနတ်နှင့် ပစ်သတ်ကြ၏။ ၎င်းတို့၏ အကြောင်းပြချက်မှာ ဆင်းရဲဒုက္ခကို ကြာရှည်ခံစား မနေရအောင် ကယ်တင်လိုက်ခြင်းဘဲဟု ဆိုကြလေသည်။ သီလပဋိပတ် အရာ၌ ဤမျှ သိမ်မွေ့လျှင် သမထ ဝိပဿနာ ပဋိပတ်အရာ၌ကား ဆိုဖွယ်မရှိတော့ပြီ။ သို့ဖြစ်၍ မန်လည် ဆရာတော် ဘုရားကြီးက "ပဋိပတ်အရာမှာ ကျမ်းဂန်သာ ပမာဏ"ဟု မိန့်တော်မူခဲ့လေသည်။

## မဟာစည်ဆရာတော်၏ မိန့်ဆိုချက်

မဟာစည် ဆရာတော် ဟောတော်မူသော ဝိပဿနာ အခြေခံ တရားတော် စာအုပ် စာမျက်နှာ (၁၆) တွင် ဤသို့ပါရှိပေသည်။

စာဆိုတာ မှီရာ အထောက်အထား ရှိမှ ရေးရတယ်။ မြတ်စွာဘုရား ဟောထားတဲ့ ပါဠိဖြစ်စေ၊ ရဟန္တာ မထေရ်မြတ်ကြီးတွေ ဟောထားတဲ့ ပါဠိဖြစ်စေ၊ အဋ္ဌကထာ ဖြစ်စေ ဒီလို ခိုင်လုံတဲ့ကျမ်းဂန် သာဓက ရှိရတယ်။ အဲဒီလို သာဓက တွေကို မှီငြမ်းပြုပြီး ရေးရတယ်။ တရားဟောယင်လဲ ဒီလို ကျမ်းဂန်တွေကို အမှီပြုပြီး ဟောရတယ်။ တရား ကျင့်ကြံ အားထုတ်ယင်လဲ ဒီလို ကျမ်းဂန်တွေကို အမှီပြုပြီး ကျင့်ရတယ်။

## တရားစည်းမျဉ်းနှင့် ညီစေရတယ်

မြတ်စွာဘုရား ဟောထားတဲ့ ဒေသနာ တရားတော်တွေကို လက်သမားဆရာတို့၏ "သုတ္တ"ခေါ် မျဉ်းကြိုးနှင့်တူလို့ သုတ္တလို့ ခေါ်ပါတယ်တဲ့။ တူပုံကတော့ လက်သမားဆရာများဟာ သစ်လုံးများကို ရွေတော့မယ်၊ ခွဲတော့မယ်၊ စိတ်တော့မယ်ဆိုယင် ရှေးဦးစွာ မျဉ်းချရတယ်၊ မျဉ်းမချဘဲ မျက်မှန်းရမ်းပြီးတော့ ခုတ်လိုက် ခွဲလိုက် စိတ်လိုက်ယင် မလိုရာလဲ ရောက်သွားတတ်တယ်၊ လိုတဲ့အစိတ်အပိုင်း သစ်သားတွေလဲ ပျက်စီးသွားတတ်တယ်၊ ဖြောင့်ဖြောင့်မတ်မတ် မသွားနိုင်ဘူး၊ ဒါကြောင့် မျဉ်းကလေးချပြီးမှ အဲဒီ မျဉ်းကြောင်းကလေးအတိုင်း ခုတ်ရ ခွဲရ စိတ်ရတယ်၊ ပြုပြင်ရတယ်၊ အဲဒီလိုပါဘဲတဲ့၊ မြတ်စွာဘုရား သာသနာတော်မှာလဲ "သီလ သမာဓိ ပညာ"ဆိုတဲ့ သိက္ခာသုံးပါး အကျင့်တရားတွေကို ကျင့်ချင်တဲ့ သူတော်ကောင်းတွေ၊ မြတ်စွာဘုရား၏ တပည့်သားတွေဟာ မြတ်စွာဘုရား ဟောထားတဲ့တရားတော်ကို မျဉ်းကြောင်းကလေးလို သဘောထားပြီးတော့ ကျင့်ရတယ်။

မြတ်စွာဘုရားက တရားမျဉ်းကြောင်း၊ တရားစည်းကမ်းတွေကို ချထားပါတယ်၊ "သီလကို ဘယ်လိုကျင့်ရမည်၊ သမာဓိကို ဘယ်လိုပွားရမည်၊ ပညာကို ဘယ်လိုဖြစ်စေရမည်"လို့ မြတ်စွာဘုရားက ဟောကြားထားပါတယ်၊ အဲဒါတွေဟာ တရားစည်းမျဉ်းတွေပါဘဲ၊ အဲဒီ တရားမျဉ်းကြောင်း စည်းကမ်း နည်းလမ်းကလေးများအတိုင်းကျင့်ရတယ်၊ စာတွေ ကျမ်းတွေ ရေးယင်လဲ အဲဒီ စည်းမျဉ်းအတိုင်း ရေးရတယ်၊ တရားဟောယင်လဲ အဲဒီ စည်းမျဉ်းအတိုင်း ဟောရတယ်၊ ကိုယ့်စိတ်ကူး ရှိတိုင်း ထင်ရာတွေကို လျှောက်ပြီး ရေးရတာမဟုတ်ဘူး။ တချို့ကတော့ တရားကျမ်းဂန်ရယ်လို့ မရှိပေမယ့် သူထင်တဲ့အတိုင်း သူတွေ့တဲ့အတိုင်းလျှောက်ပြီး ရေးသား ဟောကြားတော့တာပါဘဲ။ အဲဒါမျိုးကိုတော့ စာကြည့်ပုဂ္ဂိုလ်၊ တရားနာ

ပုဂ္ဂိုလ်တွေက စဉ်းစားဆင်ခြင်ဖို့ လိုပါတယ်။ တရားဆိုတာ စည်းကမ်းရှိရတယ်၊ ဘုရားဟောဒေသနာမှာ မလွတ်စေရဘူး၊ ခေတ်လူတွေ နားလည်အောင် ခေတ်ကာလသို့ ဝေါဟာရလောက်သာ ပြောင်းလဲပြီး ဟောရတယ်၊ အနက်အဓိပ္ပာယ်ကိုတော့ မပြောင်းလဲရဘူး။ ဘုရားဟော ဒေသနာအတိုင်းဘဲ ဖြစ်စေရတယ်။ ဤကား မဟာစည် ဆရာတော်၏ ကျမ်းဂန်ကို လက်မလွတ်သင့်ကြောင်း သတိပေးသော မိန့်ဆိုတော်မူချက် လိုရင်းပေတည်း။

မဟာစည်ဆရာတော်အား ကျေနပ်ဖွယ် အကောင်းဆုံး ပုဂ္ဂိုလ်မြတ်တစ်ဦးဟူ၍ ချီးကျူးသော ထိုဆရာကြီးက မိမိ၏ မှတ်တမ်းစာအုပ် တစ်နေရာတွင် အရက်သောက်ခြင်းနှင့် ပတ်သက်၍ ဤသို့ ရေးထားပြန်သည်။ "တစ်ဦးကို တစ်ဦးက ကျေးဇူးပြု၍ ကောင်းကျိုးပေးသည်။ ထိခိုက် နစ်နာအောင် စေတနာနှင့် လုပ်၍ ထိခိုက်နစ်နာခဲ့လျှင် မကောင်းကျိုး ပေးသည်။ အရက်သောက်လျှင် ငရဲကြီးသည်ဟု ဗုဒ္ဓက ဟောတော်မမူခဲ့၊ ဒုစရိုက် ဆယ်ပါးတွင်လည်း မပါ"ဟု တစ်ယောက်တည်း ထ၍ ရေးခဲ့ဘူးသည် ဟူ၍လည်းကောင်း၊ "စဉ်းစားဉာဏ် သုံးဖို့ ပျင်းရိပြီး မျက်စိမှိတ်၍ ယုံချင်တတ်သော လူများ အလန့်တကြား ဖြစ်သွားအောင် လှန့်ပေးလိုက်ခြင်း ဖြစ်သည်"ဟူ၍လည်းကောင်း ရေးထားသည်ကို တွေ့ရသည်။

မြတ်စွာဘုရား ဟောတော်မူသော ကာလာမသုတ္တန်အရ စဉ်းစားဉာဏ် သုံးရမည်မှာ ဘာမျှ ငြင်းနေဖွယ် မရှိပါ။ စဉ်းစားရာ၌ စည်းလွတ် ဝါးလွတ် ဖြစ်မသွားဖို့ အရေးကြီးလှပါသည်။ သူတော်ကောင်း ပေါင်းရခြင်း၊ တရားမှန်ကို နာရခြင်း၊ မှန်ကန်အောင် နှလုံးသွင်းခြင်း၊ တကယ် လမ်းမှန်အောင် ကျင့်ခြင်း ဆိုသော အင်္ဂါများသည် သောတာပန် ဖြစ်စေနိုင်သော အင်္ဂါများဖြစ်ပါသည်။ သောတာပန် ပုဂ္ဂိုလ် ဖြစ်ရာတွင် (ပရတောဃောသ) ဆရာကောင်း သမားကောင်း

တို့၏ ပြောဟောသံနှင့် ကင်းပြီး မဖြစ်နိုင်ဘူးဆိုသည်ကို မည်သူမဆို ဝန်ခံကြရပေမည်။ ဘယ်သူ ပြောတာကိုမျှ နားမထောင်ဘူး၊ ငါ့ ပင်ကိုယ်ဉာဏ်နှင့်သာ စဉ်းစားယူမည်ဟု ဘုရားမှ တပါး မည်သူမျှ မပြောနိုင်ချေ။

အကုသိုလ် အရာတွင် သူတပါးကို ထိနိုက်နစ်နာအောင် ပြုလုပ်မှ ငရဲကြီးသည်။ မနစ်နာလျှင် ငရဲမကြီး။ အရက်ကို သောက်ရုံမျှဖြင့် ဘယ်သူ့ကိုမျှ ထိနိုက်နစ်နာခြင်း မရှိ၍ ငရဲမကြီးဟု စဉ်းစားမိဟန် တူလေသည်။ နိယတမိစ္ဆာဒိဋ္ဌိ အယူမှားကြီး သုံးချက်ကို တကယ် စွဲယူသည်နှင့် တပြိုင်နက် ငရဲကျလောက်အောင် အပြစ်ရှိသည်။ ဤသို့ ကိုယ့်ဟာကိုယ် ကျိတ်ပြီး အကြိယဒိဋ္ဌိ၊ နတ္ထိကဒိဋ္ဌိ၊ အဟေတုကဒိဋ္ဌိတို့ကို ယုံကြည်စွဲယူလိုက်ခြင်းဖြင့် မည်သူတစ်ဦးတစ်ယောက်မျှ ထိနိုက်နစ်နာခြင်း မဖြစ်သေးချေ။ ထိနိုက်နစ်နာမှသာ ငရဲကြီးတမ်း ဆိုလျှင် နိယတမိစ္ဆာ ဒိဋ္ဌိ သမားများမှာ ငရဲအတွက် ကြောက်လန့်ဖွယ် မရှိတော့ပြီ။

## နိယတမိစ္ဆာဒိဋ္ဌိကြီး (၃)ဦး

ဤနေရာ၌ ကမ္ဘပထ မြောက်သော နိယတ မိစ္ဆာဒိဋ္ဌိကြီး (၃)မျိုးကို သိသာနိုင်ရန် ဖော်ပြလိုပါသည်။

၁။ အကြိယဒိဋ္ဌိ ဟူသည်မှာ အကြောင်းကံ ဟူ၍ မရှိ(ပြုသော်လည်း ကုသိုလ်ကံ အကုသိုလ်ကံ ဟူ၍ မဖြစ်) ဟု ကံတရားကိုပယ်လျက် ယူဆခြင်း သဘောတည်း။ ဘုရားလက်ထက်က ပူရဏကဿပ တိတ္ထိ ဆရာကြီး၏ အယူမျိုးပင် ဖြစ်၏။

၂။ နတ္ထိကဒိဋ္ဌိ ဟူသည်မှာ ကုသိုလ်၏ အကျိုး၊ အကုသိုလ်၏ အကျိုး မရှိ(ကုသိုလ် အကုသိုလ်က ကောင်းကျိုး ဆိုးကျိုးကို မပေးတတ်) ဟု အကျိုးဝိပါက်ကို ပယ်လျက် ယူဆခြင်းသဘောတည်း။ ဘုရား

လက်ထက်က အဇိတကေသကမ္ဗလတိတ္ထိဆရာကြီး၏ အယူမျိုးပင် ဖြစ်၏။

၃။ အဟေတုကဒိဋ္ဌိ ဟူသည်မှာ သတ္တဝါတို့ ညစ်နွမ်းဆင်းရဲရန်၊ ဖြူစင် ကောင်းစားရန် အကြောင်းမရှိ။ တနေ့ကျလျှင် အလိုလိုစင်ကြယ်၍ နိဗ္ဗာန်ရောက်ကြမည်ဟု အကြောင်းအကျိုးကို ပယ်လျက် ယူဆခြင်း သဘောတည်း။ ဘုရားလက်ထက်က မက္ခလိဂေါသာလ တိတ္ထိ ဆရာကြီး၏ အယူမျိုးပင်ဖြစ်၏။

ဤသုံးမျိုးတွင် တစ်မျိုးမျိုးကို ယူလျှင် ကမ္မပထ မြောက်သော မိစ္ဆာဒိဋ္ဌိ ဖြစ်၏။ အပါယ် ပဋိသန္ဓေမျိုး၊ ပဝတ္တိကျိုးကို ဖြစ်စေနိုင်၏။ ထိုအယူကို မစွန့် မချင်း အပါယ်မှ မလွတ်။ ကမ္မာမီးလောင်အံ့သော အခါ ပဉ္စာနန္တရိယကံ (ကံကြီး ငါးပါး) ထိုက်သူတို့ပင် အပါယ်မှ လွတ်ကုန်သေး၏။ ဤမိစ္ဆာဒိဋ္ဌိ (အယူမှားသူ) ကား မလွတ်။ မီးမလောင်သော ကမ္ဘာသို့ ရွှေ့ပြောင်း၍ အပါယ်ဒုက္ခ ခံရသည်။

"အရက်ကို ကြိုက်၍ မသောက်ဘဲ မနေနိုင်တဲ့အတွက် သောက်ပါသည်" ဟု အမှန်အတိုင်း ပြောလျှင် တော်သေး၏။ အရက်လည်း သောက်သေး၏။ ငရဲကြီးသည်ဟု ဘုရားဟောမရှိ၊ ဒုစရိုက်မဖြစ် စသည်ဖြင့် ဘုရားကို အကွယ် အကာယူပြီး သူတစ်ပါးအထင်မှားအောင်လည်း ပြောသေး၏။ ဤသို့ပြောဆိုခြင်း အတွက် သူတစ်ပါးက ဘယ်လိုစဉ်းစားဉာဏ် သုံးရဦးမည်နည်း။ ဗုဒ္ဓဘာသာ တစ်ဦးအနေဖြင့် မနေနိုင်၍ အရက်သောက်စေကာမူ၊ အရက်သောက်တာ ငရဲ မကြီး၊ အပြစ်မရှိဟူ၍ကား ပြောဝံ့မည်မဟုတ်ချေ။ ပြောဝံ့ခဲ့သော် ပြောဆို ရေးသား သည့်အတွက် သူရဲကောင်းတစ်ယောက်ဟူ၍ ပညာရှင်များ၏ ချီးကျူးခြင်းကို ခံရမည် မဟုတ်ပေ။

### အရက်သောက်၍ ငရဲကြီးကြောင်း ဘုရားဟောပါဠိ

အင်္ဂုတ္တိုရ်ပါဠိ အဋ္ဌကနိပါတ် ဒါနဝဂ္ဂ ဆဋ္ဌမှု-၇၈။

သုရာမေရယပါနံ ဘိက္ခဝေ အာသေဝိတံ ဘာဝိတံ ဗဟုလီကတံ နိရယသံဝတ္တနိကံ၊ တိရစ္ဆာနယောနိ သံဝတ္တနိကံ၊ ပေတ္တိဝိသယသံဝတ္တနိကံ။ ယော သဗ္ဗလဟုကော သုရာမေရယပါနဿ ဝိပါကော မနုဿဘူတဿ ဥမ္မတ္တက သံဝတ္တနကော ဟောတိ။

မြန်မာပြန်။ ။ ရဟန်းတို့၊ မှိုဝဲအပ် ပွားများအပ် အကြိမ်များစွာ ပြုအပ်သော သေအရက်ကို သောက်ခြင်းသည် ငရဲ၌ ဖြစ်စေတတ်၏၊ တိရစ္ဆာန်မျိုး၌ ဖြစ်စေတတ်၏၊ ပြိတ္တာဘုံ၌ ဖြစ်စေတတ်၏၊ သေအရက်ကို သောက်ခြင်း၏ အပေါ့ဆုံးအကျိုးသည် လူဖြစ်သောသူအား ရူးသွပ်ခြင်းကို ဖြစ်စေတတ်၏။

ဤဘုရားဟော ဒေသနာသည် တိုက်ရိုက် မုချယူရသော နီတတ္ထဒေသနာ ဖြစ်ပေသည်။ သွယ်ဝိုက်ပြီး ယူဆရသော နေယျတ္ထဒေသနာမျိုး မဟုတ်ပေ။

### အရိယာပုဂ္ဂိုလ်နှင့် အရက်

သီလက္ခန် ကူဋဒန္တသုတ် အဋ္ဌကထာ ၂၇၃-ဆဋ္ဌမှု။

ဘဝန္တရေပိဟိ အရိယသာဝကော ဇီဝိတဟေတုပိ နေဝ ပါဏံ ဟနတိ န သုရံ ပိဝတိ။ သစေပိဿ သုရဉ္စ ခီရဉ္စ မိဿေတွာ မုခေ ပက္ခိပန္တိ၊ ခီရမေဝ ပဝိသတိ၊ န သုရာ။ ယထာကိံ ကောဉ္စ သကုဏာနံ ခီရမိဿကေ ဥဒကေ ခီရမေဝ ပဝိသတိ၊ န ဥဒကံ။ ဣဒံ ယောနိ သိဒ္ဓမေဝ၊ ဣဒံ ဓမ္မတာ သိဒ္ဓန္တိ ဝေဒိတဗ္ဗံ။

အရိယာ ပုဂ္ဂိုလ်သည် နောက်ဘဝတပါးသို့ ရောက်သောအခါ၌လည်း အသက်ရှင်ရေးဟူသော အကြောင်းကြောင့်လည်း သတ္တဝါအသက်ကိုမသတ်၊ သေအရက်ကို မသောက်၊ အရိယာပုဂ္ဂိုလ်၏ ခံတွင်းသို့ အရက်နှင့်နို့ရည်ကို ရောပြီး တိုက်စေကာမူ နို့သာလျှင်ဝင်၏။ အရက်မဝင်။ ဥပမာ ကြိုးကြာငှက်များအား ရေနှင့်နို့ ရောစ၍တိုက်လျှင် နို့သာဝင်၏၊ ရေမဝင်သကဲ့သို့တည်း။ ကြိုးကြာ ပါးစပ် (နှုတ်သီး)တွင်းသို့ နို့သာဝင်၍ ရေမဝင်ခြင်းမှာ ကြိုးကြာငှက်မျိုး၏ ဘဝသဘော အားဖြင့် ပြီးစီးခြင်းတည်း။ အရိယာတို့၏ ပါးစပ်အတွင်းသို့ နို့သာဝင်၍ အရက် မဝင်ခြင်းသည်ကား စင်ကြယ်မြင့်မြတ်သူ အရိယာပုဂ္ဂိုလ်တို့၏ တရားသဘာဝ အားဖြင့် ပြီးစီးခြင်းတည်း။

အရက်သည် မြင့်မြတ်သော အရိယာပုဂ္ဂိုလ်တို့နှင့် မထိုက်တန်၊ ယုတ်ညံ့ သောအရည်မျိုး ဖြစ်ကြောင်းကို ပြဆိုခြင်းဖြစ်ပေသည်။ ဤစကားသည် အဋ္ဌကထာ စကားတည်း။ အဋ္ဌကထာဆိုသဖြင့် ရှင်ဗုဒ္ဓဃောသ စကားဟူ၍ မမှတ်ရာ၊ ဘုရားဟော ပကိဏ္ဏကဒေသနာ ရှေးအဋ္ဌကထာကို ရှင်ဗုဒ္ဓဃောသက အကျဉ်းချုံး ရေးခြင်းမျှသာတည်း။ ရှင်ဗုဒ္ဓဃောသရေးသော အဋ္ဌကထာဟု အချို့သူတို့ ပေါ့ပေါ့ဆဆ သဘောထားတတ်ကြလေသည်။

### မန်လည်ဆရာတော်ကြီး၏ အရက်အဆုံးအဖြတ်

ဤ(အရက်နှင့် ပတ်သက်သော) အရာဝယ် အချို့သော ရဟန်းရှင်လူတို့က သုရာပါန (အရက်သောက်ခြင်း) အမှုသည် အကုသိုလ်မဖြစ်ဟု ပြောဆိုကြကုန်၏။ အချို့သော ရဟန်းရှင်လူတို့ကား အကုသိုလ်ကားဖြစ်၏။ ကမ္မပထ မမြောက် သောကြောင့် အပါယ်ပဋိသန္ဓေမပေးတတ်ဟူ၍ ပြောဆိုကြကုန်၏။ ထိုသူနှစ်မျိုး တို့တွင် "အကုသိုလ်မဖြစ်"ဟူ၍ ပြောဆိုစွဲယူသော သူတို့မှာ သက်သက် ကျမ်းဂန်

အရာ ကမ္မလက္ခဏာ သဘာဝတို့ကို မသိ မလိမ်မာသော အန္ဓဗာလ အစစ်တို့သာ ဟူ၍မှတ်။ ကမ္မပထ မမြောက်သောကြောင့် အပါယ်ပဋိသန္ဓေ မပေးတတ်ဟူ၍ ပြောဆို စွဲယူသော သူတို့မှာ ကျမ်းဂန်အရာ ကမ္မလက္ခဏာ သဘာဝတို့ကို စိုးစဉ်း သင်ဘူး ရှုဘူး လေ့လာဘူးသော်လည်း အထူးထူးသော ပါဠိ အဋ္ဌကထာ ဋီကာ ဝိနိစ္ဆယတို့ကို မလိမ်မာ၊ မိမိတို့ လိုရာ အနက်အဓိပ္ပာယ်တို့ကိုသာ အပါအရဆွဲ၍ အစွဲအလမ်းဖြင့် ကျမ်းဂန်ဟူသမျှ တို့နှင့် မနီးမနော ပြောဆိုကြသည်သာဟူ၍ မှတ်ရမည်။ တွေ့ဘူးသမျှ ကျမ်းတစ်စိတ်တို့၏ အရိပ်အရောင်ထင်ရာကို သူတို့ ပြောဆိုသော စကားကြောင့်လည်း နားနု၊ ဉာဏ်နု၊ သဘောနုကြသော ပုထုဇဉ် အကဏ်းအမိုက်တို့က နှစ်ခြိုက်ဝမ်းသာ အပေါင်းပါ၍ မိစ္ဆာပထ (မှားသောလမ်း)၊ ဥမ္မဂ္ဂ(မကောင်းလမ်း) ခရီးမှား အပါယ်သို့လားရအောင် အားကျပါးကျ သဘောကျ နှလုံးသွင်း ယုံကြည်ခြင်းလည်း ရှိတတ်ကြကုန်သည်။

ယင်းသို့ဖြစ်၍ သုရာပါနကံအမှုသည် ကမ္မပထမြောက်သော အဖြစ်၊ အပါယ်ပဋိသန္ဓေပေးတတ်သော အဖြစ်တို့ကို စင်စစ်မုချ သိရ မှတ်ရ ဆင်ခြင်ရအောင် ပါဠိ အဋ္ဌကထာ ဋီကာ ဝိနိစ္ဆယ အရပ်ရပ်တို့ ဆုံးဖြတ်လာရှိသည့်အတိုင်း အကျဉ်းမျှ ရေးသားပြဆိုဦးအံ့။ (ဤသို့ စကားခံပြီးလျှင် ယခင်ဖော်ပြခဲ့သော အငုံ့တ္တိုရ် အဋ္ဌကနိပါတ် ပါဠိတော်ကို မူထား၍ ရေးသားတော်မူပါသည်။) စကားများနေမည်စိုး၍ လိုရင်း အချုပ်ကိုသာ ဖော်ပြပါမည်။ အလိုရှိပါလျှင် ပညာဝိမံ သနကထာကျမ်း စာမျက်နှာ ၂၀-မှစ၍ ရှုကြရန်ဖြစ်ပါသည်။

ခုဒ္ဒကပါဌအဋ္ဌကထာတွင် ပါဏာတိပါတမှစ၍ သုရာပါနအထိ လွန်ကျူးသော ကံတို့သည် အပါယ်ဒုဂ္ဂတိ အကျိုးကို ဖြစ်စေတတ်ကြောင်း အတည့်အလင်း ဖွင့်ဆိုထားသည်။

အရက်သောက်ခြင်းကို ကမ္မပထမြောက် အပါယ် ရောက်စေနိုင်သည်ဟု ဆိုလျှင် ဒုစရိုက် (၁၁)ပါးဖြစ်နေရာ၏ဟု အချို့ဆိုကြ၏။ ဤသို့ မဆိုသင့်၊

အရက်သောက်ခြင်းသည် အရသာကို မက်မောသော သဘောဖြစ်၍ ကာမေသု မိစ္ဆာစာရကံနှင့် သဘောတူထားကာ ဒုစရိုက် ကမ္ဘပထဆယ်ပါးပင်ယူရသည်။ တနည်းအားဖြင့်လည်း အရက်သောက်ခြင်းသည် ဒုစရိုက် (၁၀)ပါးလုံးကို ကျေးဇူးပြုနိုင်(အားပေးနိုင်)သောကြောင့် ဒုစရိုက် (၁၀)ပါးတွင် လျော်ရာ လျော်ရာ သွင်း၍ ယူရသည်။

သူ့အသက်ကို သတ်နိုင်အောင် အရက်သောက်ခဲ့လျှင် ပါဏာတိပါတကံတွင်သွင်း၊ သူတပါးဥစ္စာ ခိုးယူလုယက်နိုင်အောင် အရက်သောက်ခဲ့လျှင် အဒိန္နာဒါန်ကံတွင်သွင်း၊ အကြွင်းမှာ နည်းတူယူ။ အသက်သတ်ခြင်း စသည်ကိုမပြု၊ သက်သက်သောက်ရုံမျှမူကား ကာမေသုမိစ္ဆာစာရ၏ သဘောတူ မိစ္ဆာစာရကံမှာ သွင်း။

ဇာတ်ဋီကာမှာလည်း ပါဏာတိပါတ အကုသိုလ်ကံနှင့် အတူ အရက်သောက်ခြင်း သုရာပါနကံကိုလည်း ကမ္ဘပထမြောက်သော အကုသိုလ်ကံ၏ အဖြစ်ဖြင့် မိန့်ဆိုထား၏။ (ဒသနိပါတ် မဟာဓမ္မပါလဇာတ် ဋီကာတွင် အကျယ်ဆိုထား၏။)

ဤသို့ ပါဠိတော် အဋ္ဌကထာ ဋီကာ အနုလက်သန်း ကျမ်းကြီးကျမ်းမဝိနိစ္ဆယ အရပ်ရပ် ဆုံးဖြတ်မိန့်ဆိုတော်မူကြသည့်အတိုင်းကိုသာ ယုံယုံကြည်ကြည် သေသေချာချာ မှတ်ကုန်ရာသည်။ သူ့အထင် ငါ့အလို ပြောဆိုဝိုးဝါး ကြမ်းကြား လေကြား ကျမ်းဂန်လွတ် စကားတို့ကို ယုံမှားမရှိ ကြစေကုန်လင့်။ ပဋိပတ်အရာမှာ ကျမ်းဂန်သာ ပမာဏဖြစ်သည်။ ဤကား သုရာပါနကံ၏ အဆုံးအဖြတ် အကျဉ်းကိုမှတ်။

နက်နဲကျယ်ဝန်းလှစွာသော ပါဠိ အဋ္ဌကထာ ဋီကာ ဂန္ထန္တရစသော ကျမ်းဂန် သဘောတို့ကိုကား နီးနှော့စေ့စပ်ခြင်း မတတ်နိုင်ဘဲ ကြက်ကန်းစွဲ စွဲယူလျက် သူ့ဝါဒ ငါ့ဝါဒ၊ လူစုတိုင်း ပေါက်ကြ၍ ဗရုပ္ပဗရဗ္ဗာ ပြောဆိုကြကုန်သည်။

သို့ပြောဆိုကြသော်လည်း အထူးထူးသော ကျမ်းပြ ဝိနိစ္ဆယလက္ခဏာတို့ကို ဧရစုံစွာ နှလုံးမထားနိုင်ကြသဖြင့် ကျမ်းဂန်ကို အလွတ်ထား၍ သူ့စကား ငါ့စကား ငြင်းခုံမှုပွားကြလျက် အလကား အုတ်အုတ်ကျွတ်ကျွတ်သာ ဖြစ်ကုန်သည်။ ပဋိပတ်နှင့် စပ်သောအရာ ဆိုသည်မှာကား အနညဝိသယ (အခြားသူတို့၏ အရာမဟုတ်) သဗ္ဗညုတ ဉာဏ်တော်အရာသာဖြစ်သည်။ သဗ္ဗညုတ ဉာဏ်တော်၏အရာ ဘုရားဟော ဒေသနာကိုလည်း အဋ္ဌကထာ အရှင်မြတ်တို့သာ ဆုံးဖြတ်သိမြင်နိုင်တော်မူနိုင်ကုန်သည်။ ထိုအဋ္ဌကထာ အရှင်မြတ်တို့ ဆုံးဖြတ်သိမြင်တော်မူသည့် သိမ်မွေ့သော လီနတ္ထ (လျှို့ဝှက်သော အနက်သဘော) အရာကိုလည်း ဋီကာ ဂဏ္ဌိ ဆရာမြတ်ကျမ်းတတ် ဝိသေသ ပုဂ္ဂိုလ်တို့ အရာသာဖြစ်သည်။

ဤကား မန်လည်ဆရာတော်၏ မိန့်ဆိုချက်တည်း။

## သင်္ဂဇာဆရာတော်၏ မိန့်ဆိုချက်

စစ်ကိုင်းခရိုင်၊ စာရေးရွာဇာတိဖြစ်သော စာပေဝါသနာပါသူ ဦးတင်ဆိုသူသည် ရုံဖန်ရုံခါ နေပြည်တော်မန္တလေးသို့ ကူးလာကာ မန္တလေးမြို့ မြောက်ပြင်တွင် သီတင်းသုံးနေတော်မူသည့် စံကျောင်းဆရာတော်ထံသို့ စာပေပရိယတ္တိများ ဆွေးနွေးခြင်းပြုသည်။ ဦးတင်မှာ ထန်းရည် အရက်သောက်ခြင်း၏ ဝါသနာ ထုံသူလည်း ဖြစ်သည်။

"မောင်တင်ရေ၊ ထန်းရည် အရက်သောက်ပြီး ကာယကံ ဝစီကံ မကျူးလွန်ယင် ကမ္မပထ မမြောက်ဘူးကွ၊ မစင်စားပြီး အိပ်နေသလို မတင့်တယ်တာဘဲ ရှိတယ်။"

ဦးတင်သည် ဤသို့သော စံကျောင်းဆရာတော်၏ မိန့်ကြားချက်ကို အရိုးစွဲအောင် မှတ်သားထားလေသည်။ စာပေဆွေးနွေးပြီးနောက် စစ်ကိုင်းဘက်သို့

အပြန်၌ ဦးတင်သည် သင်္ဂဇာ ကျောင်းအနီးမှ ဖြတ်လာရာ၊ သင်္ဂဇာ ဆရာတော်ကို မြင်သဖြင့် ဝင်ရောက် ဦးချလျက် သံသယ ကင်းရှင်းအောင် သေရည်သေရက် သောက်စားခြင်းနှင့် ပတ်သက်၍ စံကျောင်းဆရာတော် ဟောပြောချက်ကို ထပ်မံ တင်လျှောက်ပြန်လေသည်။

"ဆရာတော်ဘုရား၊ စံကျောင်းဆရာတော်က ထန်းရည် အရက် သောက်စား ပြီး ကာယကံ၊ ဝစီကံ၊ မကျူးလွန်လျှင် ကမ္မပထ မမြောက်ဘူးလို့ မိန့်ကြားလိုက် ပါသည်ဘုရား၊ တပည့်တော် အသောက်ဝါသနာပါမှန်းသိလို့ မိန့်ကြားတော် မူလေရော့သလားလို့ သံသယဖြစ်မိပါတယ်ဘုရား"ဟု တင်လျှောက်ရာ သင်္ဂဇာ ဆရာတော်မှာ ပုံတိုပတ်စ ပြောလေ့ပြောထ ရှိတော်မူသည့်အတိုင်း –

"မောင်တင်ရေ၊ ငါ ပုံတစ်ခု ပြောပြဦးမယ်၊ တခါတုန်းက အညာသား တစ်ယောက်ဟာ အောက်ပြည်အောက်ရွာကို စာရင်းငှား သွားလုပ်သတဲ့ကွယ့်၊ စာရင်းဒိုင်မှာ ကျွဲအကောင် (၆၀) ရှိတယ်၊ ညနေကျွဲကျောင်းလို့ ပြန်ယင် ယော့အညာသား 'စိုင်လေး'ကို တိုင်မှာ ချည်ပြီးပြီလားလို့ မေးသတဲ့၊ စာရင်းဒိုင်က 'စိုင်လေး'လို့ ခေါ်တဲ့ ကျွဲကို ညနေတိုင်း မေးလေ့မေးထ ရှိတော့ အညာသား စိတ်ထဲမှာ သံသယဝင်လာတယ်၊ ကျွဲတွေ အကောင် (၆၀)ရှိတဲ့ အထဲက စိုင်လေး ကိုချည်း ချည်တိုင်မှာ ချည်ပြီးပြီလားလို့ ဘာလို့မေးရသလဲ၊ အကြောင်းသိရအောင် စုံစမ်းလေဦးမှလို့ စဉ်းစားယင်း နောက်နှစ်လ သုံးလကြာတဲ့အခါမှာ အညာသား စာရင်းငှားက ခင်ဗျားမှာ ကျွဲ (၆၀) လောက် ရှိတဲ့အထဲက စိုင်လေးတစ်ကောင်ထဲ ခွဲအချည်ခိုင်းတာ ဘာကြောင့်လဲဗျာလို့ မေးလိုက်သတဲ့၊ သည်တော့ စာရင်းဒိုင်က ဟဲ့ အညာသားရဲ့၊ အ,လဲ အ,ပါပေရဲ့၊ စိုင်လေးကို မချည်ရင် ကျန်တဲ့ ကျွဲ (၅၉)ကောင်ဟာ ဘယ်ကောင်းကောင်း အိပ်ရပါတော့မလဲ၊ စိုင်လေးဟာ ကျွဲပေါက်ဆိုး ကလေးကွယ့် အညာသားရဲ့လို့ ပြန်ပြောလိုက်သတဲ့၊ အဲဒီ

သဘောမျိုးဘဲ မောင်တင်ရေ၊ ဘုရားရှင် ကိုယ်တော်မြတ်ကြီးက အခြား အကုသိုလ် တရားများကို 'အာရတိ ဝိရတိပါပါ'လို့ ပါပါ(မကောင်းမှု)ထဲကို အားလုံး ထည့်လိုက်တယ်၊ စိုင်းလေးနဲ့တူတဲ့ ထန်းရည်အရက်ကိုတော့ 'မဇ္ဇပါနာစ သံယမော' လို့ သီးခြား ဟောတော်မူတယ်၊ ထန်းရည်အရက်သောက်လိုက်ပြီးယင် အမိအဖ ဆရာသမား မရှောင် မရှိသေမလေးစား ပြုမှားတတ်တယ်၊ သုရာမေရယ ကံထိုက်တယ် မောင်တင်ရေ"ဟု သင်္ဂဇာဆရာတော်ဘုရားက ဟောကြားတော်မူရာ ဦးတင်လည်း အကျွတ်တရားရ၍ "ထန်းရည် အရက်ကို ပါဏာပေတံ လှူပါပြီဘုရား"ဟု ဆရာတော်ဘုရားထံ လှူပြီးနောက် စစ်ကိုင်းဘက်သို့ ကူးသွား လေသည်။ ဤကား အရက်ပြဿနာနှင့် ပတ်သက်၍ ကျမ်းဂန် လက်မလွှတ်သော ရှင်းလင်းချက်များတည်း။

## ကင်းဝန်မင်းကြီး လျှောက်ထားချက်

ပဥ္စမသင်္ဂါယနာတင် မင်းတရားလက်ထက်တွင် အဖက်ဖက်က ထင်ရှားလှ သော ကင်းဝန်မင်းကြီးသည် အခါတပါး၌ ဆူးခါးဆရာတော်ခေါ် ဆရာတော် တစ်ပါးက ထန်းရည်အရက်များကို သောက်ကောင်း၏၊ အပြစ်မထင်ဟု ပြောဆို နေသည်ကို ကြား၍ ဆရာတော်များကို အိမ်သို့ပင့်၍ ဆွမ်းကျွေးလေသည်။ သံဃာ အစည်းအဝေး မှူးမတ်အရာရှိ အစည်းအဝေးဟု မျက်နှာစုံညီ အစည်းအဝေးသာ ကျင်းပသည်။

ထိုအစည်းအဝေးတွင် လယ်ကိုင်းမြို့စား သေနတ်ဝန် ကင်းဝန်မင်းကြီးက ဆူးခါးဆရာတော်အား –

"ဆူးခါးဆရာတော်၊ မြတ်စွာဘုရားတရားတော် ဓမ္မက္ခန္ဓာ ရှစ်သောင်း လေးထောင် ရှိသည့်အနက် ထန်းရည်အရက်သောက်ခြင်းနှင့်စပ်သော သုရာပါနကို

ချန်ထား၍ ကျန် ရှစ်သောင်း သုံးထောင် ကိုးရာ ကိုးဆယ့် ကိုးပါး ဟောဖို့ရာ တရားတွေ များပါ၏။ ထန်းရည်အရက် သောက်ကောင်း၏ ဆိုသော သုရာပါန တရားကို မဟောပြောပါနှင့်"ဟု လျှောက်ထားဘူးလေသည်။

ထိုအချက်ကို ထောက်ထား၍ ဝိသုဒ္ဓါရုံ ဆရာတော် ဘုရားကြီး ဆိဒ္ဓပိဓာန နိကျမ်း သတိပေးခန်းတွင် –

"ကျမ်းဂန်ရေးသားသူ ရှင်လူ ရဟန်းတို့က ငြင်းခုံ ပြောကြားမည့်စာများကို မရေးသားမိရအောင် သတိကြပ်ကြပ် ထားသင့်လှပေသည်။ မော်ချင် ကြွားချင် ထင်ရှားကျော်စောချင်သော ဘုတ်အုပ်ရှင်ကျမ်းဆရာက သူ့ကိုလေသာကို သူမနိုင်၍ သာသနာတော် ညှိုးယိုင် ပျက်စီးမည်ကို မငဲ့မထောက်၊ ကသောက် ကယောက် ရေးထုတ်သော်လည်း ဘုတ်အုပ်ကြည့်ရှုသူတို့က ဝိဝါဒဖြစ်ပွားအောင် အားမပေးကြဘဲ ပညာရှိများနှင့် တိုင်ပင်ညှိနှိုင်းချင့်ယူ၍ ယူသင့်မှယူ၊ မယူသင့်လျှင် ပယ်ဖျက်၍ ငြိမ်သက်တည်ကြည်စွာ ကျင့်ကြံနေထိုင်ကြကုန်ရာသည်"ဟု ရေးသား တော်မူခဲ့လေသည်။

## ဒုလ္လဘရဟန်း ပြဿနာ

ဥပုသ်စောင့်ခြင်း၊ သီလ ဆောက်တည်ခြင်း၊ ရဟန်းခံခြင်း ဆိုသော သဘောများသည် ဝိနည်းသဘောတွင် ပါဝင်ကြသည်။ ဝိနည်းသဘောဖြစ်၍ အဘိဓမ္မာ သဘောများနှင့် ရောနှောကာ စဉ်းစားဝေဖန်ခြင်း မပြုသင့်ချေ။ ဥပုသ် စောင့်သူသည် အဗြဟ္မစရိယ သိက္ခာပုဒ် အတွက် အိမ်က မယားကို လူကြီးစုံရာ ရှေ့တွင် အာလျှပြတ် ဖြတ်စာပေးပြီး ကွာပစ်ဖို့ မလိုချေ။ ဆယ်ပါးသီလ စောင့်သူ သည် ရွှေ ငွေ မကိုင်ရ ဟူသော သိက္ခာပုဒ် အတွက် လက်ရှိ ရွှေငွေတွေကို အကုန်လုံး စွန့်ပစ်လိုက်ရသည် မဟုတ်ချေ။ သီလ ဆောက်တည်နေဆဲ အချိန်တွင်

ရှောင်ကြည်ဖို့သာ လိုရင်းဖြစ်ပေသည်။

ဤနည်းတူပင် ခုနစ်ရက် တလ ရဟန်းပြုကြသော ဒုလ္လဘ ရဟန်းတို့မှာလည်း အိမ်က သားမယားနှင့် ရွှေငွေများကို အာလျပြတ် ကွာပစ် စွန့်ပစ်ဖို့ မလိုချေ။ ကာယကံ ဝစီကံ နှစ်ပါးကို ထိန်းသိမ်းခြင်း ဖြစ်၍ ရဟန်းပြုနေဆဲ အခါမှာ ဝိနည်းစည်းမျဉ်းအရ ရှောင်ကြည်ဖို့သာ လိုပေသည်။ ဤသို့ ရှောင်ကြည်၍ သာသနာတော်ထမ်း ဒုလ္လဘရဟန်း ပြုခြင်းမှာ ယခု မြတ်စွာဘုရား လက်ထက်တော်တွင်မှ အသစ် အဆန်း ဖြစ်ပေါ်လာသည်မဟုတ်။ လွန်လေပြီးသော ၉၁-ကမ္ဘာထက် ဝိပဿီမြတ်စွာဘုရား လက်ထက်တော်၌ အမျိုးသား တစ်ယောက်သည် စည်းစိမ်ဆွေမျိုး ပျက်စီးခြင်းကြောင့် သောကရောက်သဖြင့် ထိုသောကမှ သက်သာခွင့်ရစေရန် (၇)ရက်မျှ ဒုလ္လဘရဟန်း ပြုခဲ့ဘူးလေသည်။

ထိုသို့ (၇) ရက်မျှ ရဟန်းပြုခဲ့သော ကုသိုလ်ကံကြောင့် နောက်ဆုံးဘဝ ဤမြတ်စွာဘုရား၏ သာသနာတော်တွင် ပဋိသမ္ဘိဒါ လေးပါး၊ အဘိညာဉ် ခြောက်ပါး၊ ဝိမောက္ခ ရှစ်ပါးတို့နှင့် ပြည့်စုံသော ရဟန္တာ အဖြစ်သို့ ရောက်ရကြောင်း၊ သံသရာတခွင် ကျင်လည်ဆဲတွင်လည်း ဆင်းရဲနှင့် ငရဲကင်းခဲ့ရကြောင်းတို့ကို သုတ္တန်ပိဋကတ် ထေရာအပဒါန် ပါဠိတော် ဆဋ္ဌမူ စာမျက်နှာ ၂၇၃-တွင် ရှိလာပေသည်။ ဂါထာတို့ကို ပါဠိကျမ်းရင်းတွင် ကြည့်ရှုကြပါကုန်။ သို့ဖြစ်၍ ခုနစ်ရက် တစ်လ ရဟန်းပြုကြသော ဒုလ္လဘရဟန်းတို့ကို ကဲ့ရဲ့သံ ရှုတ်ချသံတို့ဖြင့် မပြောသင့် မရေးသင့်ချေ။ အပြစ်မကင်း မသန့်ရှင်းသော အပြုအမူမျိုး ဖြစ်ခဲ့ပါလျှင် သတ္တာဟပဗ္ဗဇိတတ္ထေရအပဒါန် ဝတ္ထု ဟူ၍ပင် ဘုရားဟောတော်မူခဲ့မည် မဟုတ်ပေ။

## သညာသိနှင့် ဝိညာဏ်သိ

သာသနာတော် တည်ရှိနေသမျှ သာသနာဝင် ပုဂ္ဂိုလ်အပေါင်းတို့ နှစ်ထောင်းအားရ အားကိုးအားထား လေ့လာသင်ကြားရာ ဖြစ်သော ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ဝိညာဏက္ခန္ဓာအဖွင့်ကို ပြဆိုရာ အခဏ်းမှ လိုရင်းအချုပ်ကို ထုတ်ဆောင်ပြပါအံ့။

သညာ၏ သိခြင်းထက် ထူးသော အာရုံကိုရခြင်း၊ ယူခြင်း၊ သိခြင်း လက္ခဏာ ဟူသည် အဘယ်နည်း၊ ဝိညာဏ်သာတည်း။

"ဝိဇာနာတီတိ ခေါ အာဝုသော တသ္မာ ဝိညာဏန္တိ ဝုစ္စတိ"ဟု ပါဠိတော်၌ ဟောတော်မူပြီးဖြစ်၏။ အဓိပ္ပာယ်မှာ "အို ငါ့ရှင်တို့၊ သညာ၏ သိခြင်းမှ ထူးသော အခြင်းအရာ အားဖြင့် သိတတ်၏။ ထို့ကြောင့် စိတ်ကို ဝိညာဏ်ဟူ၍ ဆိုအပ်၏။ ဝိညာဏံ–စိတ္တံ–မနော ဟူသော ပုဒ်သုံးခုသည် အနက်သဘောအားဖြင့် အတူတူပင် ဖြစ်၏။ (ဝိညာဏ်–စိတ်–မနော အတူတူဟူ၏။) ကုသိုလ် အကုသိုလ် အဗျာကတစိတ်ဟု ခေါ်ဆိုရသော သဘော သုံးမျိုးမှာလည်း ဝိညာဏ်ပင် ဖြစ်၏။ ကာမစိတ်–၅၄၊ ရူပစိတ်–၁၅၊ အရူပစိတ်–၁၂၊ လောကုတ္တရာစိတ်–၈၊ ပေါင်းစိတ် (၈၉)ခုသည် ဝိညာဏ်များပင် ဖြစ်၏။ မည်မျှအရာကျယ်သည်ကို စဉ်းစားနိုင်ခွင့် ရှိပေပြီ။ (ယခုအခါ များသောအားဖြင့် ပြောဆိုကြသည်မှာ ဝိညာဏ်ဆိုလျှင် မျက်စိနှင့် အဆင်း ပေါင်းဆုံရာတွင် ဖြစ်ပေါ်လာသော စက္ခုဝိညာဏ်၊ နားနှင့် အသံ ပေါင်းဆုံရာတွင် ဖြစ်ပေါ်လာသော သောတဝိညာဏ်၊ နှာခေါင်းနှင့်အနံ့ ပေါင်းဆုံရာတွင် ဖြစ်ပေါ်လာသော ဃာနဝိညာဏ်၊ လျှာနှင့်အရသာ ပေါင်းဆုံရာတွင် ဖြစ်ပေါ်လာသော ဇိဝှာဝိညာဏ်၊ ကိုယ်နှင့်အတွေ့ ပေါင်းဆုံရာတွင် ဖြစ်ပေါ်လာသော ကာယဝိညာဏ်။ ဤအကျိုးဝိပါက် စိတ်ဝိညာဏ်တို့ကိုသာ ဝိညာဏ်ဟု ထင်မှတ်နေကြလေသည်။ ဝိညာဏ်၏ သဘောသတ္တိ အရာကျယ်ဝန်းပုံကို သတိ မပြုမိကြချေ။)

### ဝိညာဏ်၏ အစွမ်းသတ္တိ

ခန္ဓာကိုယ် ရုပ်သန္တာန်မှာ ဓာတ်ကြီးလေးပါး အစိုးရကဲ့သို့ စိတ်စေတသိက် နာမ်တရား သန္တာန်မှာလည်း ဝိညာဏ်သည် အုပ်စိုး၏၊ ပြဋ္ဌာန်း၏။ အချုပ်အခြာ ဖြစ်၏။ ဖဿ၊ ဝေဒနာ၊ သညာ၊ ဝိတက်၊ ဝိစာရ အစရှိသော နာမ်တရားတို့သည် ဝိညာဏ်ကိုမှီ၍ ဝိညာဏ်မှ ဖြစ်ပွားကြကုန်၏။

### မနောပုဗ္ဗင်္ဂမာ ဓမ္မာ၊ မနောသေဋ္ဌာ မနောမယာ။

(ဓမ္မပဒ ပါဠိတော်)

ဓမ္မာ၊ နာမ်တရားဟူသမျှတို့သည်။ မနောပုဗ္ဗင်္ဂမာ၊ ဝိညာဏ်လျှင် ပြဋ္ဌာန်းခြင်း ရှိကုန်၏။ မနောသေဋ္ဌာ၊ ဝိညာဏ်လျှင် အကြီးအကဲ အချုပ်အခြာရှိကုန်၏။ မနောမယာ၊ ဝိညာဏ် ဖန်ဆင်းရာ ဖြစ်ကြရကုန်၏။

ဤပါဠိတော်ကို ထောက်၍ သညာထက် ဝိညာဏ်က အစွမ်းသတ္တိ ထက်မြက်ကြောင်းကို မှတ်သားရသည်။ တနည်းဆိုရသော် သတ္တဝါတစ်ကောင်လုံး၊ တစ်ကိုယ်လုံးမှာပင် ဝိညာဏ် ဟူသော စိတ်သည် အစိုးရ၏၊ အချုပ်အခြာ ဖြစ်၏။

စိတ္တေန နီယတိ လောကော၊ စိတ္တေန ပရိကဿတိ။
စိတ္တဿ ဧကဓမ္မဿ၊ သဗ္ဗေဝ ဝသမန္ဝဂူ။

( သဂါထာဝဂ္ဂသံယုတ် ပါဠိတော် )

လောကော၊ လူကို။ စိတ္တေန၊ စိတ်ဝိညာဏ်သည်။ နီယတိ၊ ဆောင်အပ်၏။ လောကော၊ သတ္တဝါကို။ စိတ္တေန၊ စိတ်ဝိညာဏ်သည်။ ပရိကဿတိ၊ ဆွဲငင်အပ်၏။ သဗ္ဗေဝ၊ သတ္တဝါအားလုံးတို့သည်သာလျှင်။ ဧကဓမ္မဿ၊ တရား သဘော တစ်ခုဖြစ်သော။ စိတ္တဿ၊ စိတ်ဝိညာဏ်၏။ ဝသံ၊ အလိုသို့။ အန္ဝဂူ၊ အစဉ်တစိုက် လိုက်ကြရကုန်၏။

လောက တခုလုံးတွင် ဖြစ်နေကြသော ကာယကံမှု, ဝစီကံမှု, မနောကံမှုတို့၌ စိတ်ဝိညာဏ် အစိုးရ၏၊ စိတ်ဝိညာဏ်လိုရာသို့ ခန္ဓာငါးပါး တို့သည် လိုက်ပါကြရကုန်၏။ ရေသတ္တဝါ, ကုန်းသတ္တဝါ, လူ့ပြည်, နတ်ပြည်, ဗြဟ္မာပြည်, အုန်းအုန်း ကျွတ်ကျွတ် လျှမ်းလျှမ်းတက် ဖြစ်၍ နေကြသမျှသည် ဝိညာဏ်၏ အမှုပင်တည်း။ ဝိညာဏ်၏ အစွမ်းကြောင့် စိတ်ဝိညာဏ်ကိုပင် ငါဟူ၍လည်းကောင်း၊ စိတ်ဝိညာဏ်ကိုပင် မည်သူမည်ဝါဟူ၍လည်းကောင်း လူဟူ၍လည်းကောင်း၊ နွား, ကျွဲ, ဆင်, မြင်း, ခွေး, ဝက်, ကြက်, ငှက် ဟူ၍လည်းကောင်း၊ စိတ်ဝိညာဏ်ကိုပင် နတ်, သိကြား, ဗြဟ္မာ, သူဌေး, သူကြွယ်, ဆင်းရဲသားဟူ၍လည်းကောင်း၊ သက္ကာယဒိဋ္ဌိအမျိုးမျိုးနှင့် စွဲလမ်းထင်မြင်၍ နေကြကုန်၏။ ထိုသို့ ထင်မြင်နေကြသည့်အတွက် ငရဲ, တိရစ္ဆာန်, ပြိတ္တာ, အသူရကာယ် အပါယ်လေးပါးဝဋ်နွယ် ရှည်လျား၍ နေကြကုန်၏။ ဝိညာဏ်ကြောင့် နာမ်ရုပ်ဖြစ်သည်ဟူသော ပဋိစ္စသမုပ္ပါဒ်သဘောကို သေသေချာချာ စဉ်းစားဆင်ခြင်သင့်ကြပေသည်။

## စိတ်၊ ဝိညာဏ်ဆိုသည်ကား

ပရမတ္ထတရားလေးပါးတွင် စိတ်သဘောကား မည်သို့ ရှိပါသနည်း၊ ဝိဂြိုဟ်ပြုပုံကိုပါပြမှ ရှင်းမည်ဖြစ်၍ ပါဠိဝိဂြိုဟ်ကို တင်ပြလိုက်ပါသည်။ စာသံ ပေသံပါသည်ဟု အပြစ်တင် မစောသင့်။

"အာရမ္မဏံ စိန္တေတီတိ စိတ္တံ၊ ဝိဇာနာတီတိ အတ္ထော။"

အာရမ္မဏံ၊ အာရုံကို။ စိန္တေတိ၊ သိတတ်၏။ ဣတိ၊ ထို့ကြောင့်။ စိတ္တံ၊ စိတ်မည်၏။ ဝိဇာနာတိ၊ သညာ၏သိပုံမှ ထူးခြား၍ တမျိုးအားဖြင့် သိတတ်၏။ ဣတိအတ္ထော၊ ဤကား လိုရင်းဖြစ်သော အနက်တည်း။ ချဲ့ဦးအံ့..... အာရုံကို

သိရာ၌ သညာသိ၊ ပညာသိ၊ ဝိညာဏ်သိဟု ကွဲပြားလျက်ရှိ၏။ မှားသည်ဖြစ်စေ မှန်သည်ဖြစ်စေ မှတ်မိစေရုံသာ သိခြင်း (မှတ်သိ သိခြင်း)သည် သညာသိတည်း။ အမှားမရှိ အမှန်အတိုင်း ထိုးထွင်း၍ သိခြင်းသည် ပညာသိတည်း။ အာရုံတခုခု ရအောင် ယူခြင်းသည် ဝိညာဏ်သိတည်း။

**အသိခက် အပြောခက်သော တရားလေးပါး**

သစ္စာ လေးပါး၊
သတ္တဝါတို့ အကြောင်း၊
သတ္တဝါတို့ ပဋိသန္ဓေ၊
အကြောင်းအကျိုး ပဋိစ္စသမုပ္ပါဒ်၊

ဤတရားလေးပါးသည် အသိခက်သောတရား၊ အပြောခက် အဟောခက်သော တရားများ ဖြစ်ကြပေသည်။ နက်နဲ သိမ်မွေ့လှသောကြောင့် ပုထုဇဉ် ဉာဏ်ဖြင့် နှံ့စပ်အောင် တိကျအောင် မသိနိုင်။ မြတ်စွာဘုရား ဟောထားခဲ့သည့် တရားရင်းနှင့် ဘုရားအလိုတော်သိ အဋ္ဌကထာဆရာများ၏ အဋ္ဌကထာများ၊ ၎င်း အဋ္ဌကထာ၏ အဖွင့်ဋီကာတို့၌ အဆိုအမိန့်ရှိသည့် အတိုင်းသာသိကြရသည်။

စိတ်၊ စေတသိက်၊ ရုပ်၊ နိဗ္ဗာန်ဟူသော သစ္စာလေးပါး ပရမတ်တရားတို့မှာ အလွန်နက်နဲလှသောကြောင့် အတက္ကာဝစရ တရားဟု မြတ်စွာဘုရား ဟောတော်မူထားသည်။ အတက္ကာဝစရ ဆိုသည်မှာ "အတွေး၊ အကြံမျှဖြင့် မကျက်စား၊ မသက်ဝင်၊ မသိနိုင်သောတရား–တွေးဆဉာဏ်၏ ကျက်စားရာ မဟုတ်သော တရား (အတွေးသမား စိတ်ကူးယဉ်ဆရာများ၏ ကျက်စားရာမဟုတ်)ဟု ဆိုလိုပါသည်။

သညာ၊ ဝိညာဏ်၊ ပညာ ဤသုံးပါး၏ သဘောကို ကွဲပြားခြားနားအောင်

သိဖို့ ပြောဟောဖို့ ခက်လှ၏။ သို့ဖြစ်၍ အဋ္ဌကထာ(ဝိသုဒ္ဓိမဂ်) ပညာပိုင်းတွင် အကျယ်တဝင့် ဥပမာဖြင့် ထပ်၍ ရှင်းပြထား၏။ သညာသိကို ကလေးသိ၊ ဝိညာဏ်သိကို ရွာသားသိ၊ ပညာသိကို ရွှေတိုက်စိုး စံကိုင်အရာရှိသိ ဟူ၍ နှိုင်းယှဉ်ပြထားလေသည်။ အချင်းချင်း သဘောမတူပုံကို သိသာရန် ဥပမာ ပြခြင်းသာဖြစ်၍၊ ကလေးသိ မှန်သမျှကို သညာသိ၊ ရွာသားသိ မှန်သမျှကို ဝိညာဏ်သိ ၊ ရွှေတိုက်စိုး စံကိုင်အရာရှိသိ မှန်သမျှကို ပညာသိဟူ၍ ထပ်တူ တထစ်ချ (လှေနံဓားထစ်) မှတ်ယူမထားရပေ။

## အသိခက်ပုံ

စိတ် စေတသိက် နာမ်တရားတို့မှာ အသီးအခြား တပါးစီ တပါးစီ တည်နေကြသည် မဟုတ်။ ဟင်းတအိုးတည်းတွင် အရသာအမျိုးမျိုး ယှဉ်တွဲပေါင်းစပ်နေသကဲ့သို့ ပေါင်းစပ်နေသော တရားများ ဖြစ်သည်။ သို့ဖြစ်သောကြောင့် ဟင်းအရသာ၊ ဘယ်ဟာက ဆီအရသာဟု သီးခြားခွဲထုတ် သရုပ်ပြဖို့ ခက်သကဲ့သို့ အာရုံတစ်ခုကို မြင်လိုက်သောအခါ ဖြစ်ပေါ်လာသောစိတ် စေတသိက် အစဉ်အစု အပေါင်းထည်းတွင် ဘယ်ဟာက သညာ၊ ဘယ်ဟာက ဝိညာဏ်၊ ဘယ်ဟာက ပညာ၊ ဘယ်ဟာက ဖဿ စသည်ဖြင့် သီးခြားခွဲထုတ် သရုပ်ပြဖို့ရာ ခဲယဉ်းလှ၏။ ဤကဲ့သို့ သီးခြားခွဲမရအောင် ယှဉ်တွဲ ပေါင်းစပ်နေသည်ကို ပဋ္ဌာန်းပစ္စည်းတွင် သမ္ပယုတ္တပစ္စည်းဟု ခေါ်ပါသည်။

တရားသဘောမှန်သမျှကို ပိုင်းခြားသိမြင်တော်မူသော သဗ္ဗညုတ မြတ်စွာဘုရားသည်သာလျှင် သညာက ဘယ်လို၊ ဝိညာဏ်က ဘယ်လို၊ ပညာက ဘယ်လို စသည်ဖြင့် ပိုင်းပိုင်းခြားခြားသိ၍ ပိုင်းပိုင်းခြားခြား ဟောပြတော် မူနိုင်သည်။ ဘုရား ရွှေဉာဏ်တော်၏ ကျက်စားရာဖြစ်သော ပရမတ်ဆိုင်ရာ သဘောများကို

ဘုရားဟောတော်မူသည့်အတိုင်း ရိပ်မိသိရှိနိုင်ရန် ဆရာသမား(ပညာရှိကြီး)များထံတွင် ကျိုးကျိုးနွံနွံ ဆည်းကပ်၍ ဆရာ့ခြေမှ မြူမှုန့်တို့ဖြင့် ဦးခေါင်းတွင် အလိမ်းအလိမ်း ငြိတွယ်နေအောင် ဆည်းပူးသင်ကြားမှသာ ဖြစ်နိုင်ပေသည်။

ဆရာသမားများထံမှာ နည်းမခံဘဲ "ဆရာကောင်းထံ၊ နည်းမခံ၊ ဂုဏ်မာန်တကြွားကြွား"ဟူသော ပညာရှိစကားအရ ပရိယတ္တိကို အထင်သေး၊ ကိုယ့်ပင်ကိုယ်ဉာဏ်ကလေးနှင့် ငါတွေးလျှင် မခံနိုင်ဟူသော သဘောမျိုးဖြင့် ပရမတ်နယ်သို့ ချင်းနင်းဝင်ရောက်ကာ သညာသိက ဝိညာဏ်သိထက် သာလွန်သည်၊ ထိရောက်သည်ဟု ဆုံးဖြတ်စကား ပြောကြားခြင်းမှာ ဘုရားကို အားမနာရာရောက်နိုင်လေသည်။

မြတ်စွာဘုရားကိုယ်တော်တိုင် သညာကို သဉ္ဇာနန၊ မှတ်ရုံမျှ။ ဝိညာဏ်ကို ဝိဇာနန၊ သညာထက် ထူးခြားသောသိခြင်း။ ပညာကို ပဇာနန၊ ပိုင်းခြား ဝေဖန်၍ အမှန်ကို သိခြင်းဟု ဟောတော်မူခဲ့ပါသည်။ ထိုစကားသုံးချက်၏ သဘောကို သာ၍ ရှင်းလင်းစေရန် –

၁။ သညာကား၊ အညို၊ အရွှေ၊ အဖြူစသော အဆင်းများကို မှတ်သားရုံသာ မှတ်တတ်သည်။ သဘောလက္ခဏာကို မသိနိုင်, မသိတတ်။

၂။ ဝိညာဏ်ကား၊ အမှတ်လည်းပြုတတ်သည်၊ လက္ခဏာကိုလည်း ထိုးထွင်း၍ သိတတ်သည်၊ မဂ်ရအောင်ကား မသိနိုင်, မသိတတ်။

၃။ ပညာကား၊ အမှတ်လည်းပြုတတ်သည်၊ လက္ခဏာကိုလည်း ထိုးထွင်း၍ သိရုံမျှမက မဂ်သို့ဆိုက်အောင် သိနိုင်သည် ဟူ၍ အဓိပ္ပာယ်ကို ရှင်းလင်းကြရသည်။

## တရားသဘောနှင့် လူ့အထင်

"ထင်ရှားရှိသည်"ဟူသော ဝေါဟာရမှာ "တကယ်ရှိသည်"၊ "အဟုတ်ရှိသည်"ဟူသော ဝေါဟာရတို့နှင့် အဓိပ္ပာယ်အတူတူပင်ဖြစ်သည်။ သို့ဖြစ်စေကာမူ ယခုလူတို့က မျက်စိဖြင့်မြင်ရ၊ နားဖြင့်ကြားရ၊ နှာခေါင်းဖြင့် နံရ၊ လျှာဖြင့် လျက်ရ၊ ကိုယ်ဖြင့် တွေ့ထိရလောက်အောင် ပေါ်လွင်ထင်ရှားသည့် အရာမျိုးတွင်သာ သုံးစွဲလျက် ရှိကြသောကြောင့် "နိဗ္ဗာန်သည် ထင်ရှားရှိ၏"ဟူသော စကားကို လက်ကိုင်ထား၍ "နိဗ္ဗာန်တွင် ရုပ်ရှိသည်၊ နာမ်ရှိသည်၊ ဘုံဗိမာန်ရှိသည်"စသည်ဖြင့် အလွဲလွဲအမှားမှား ယူဆ ပြောဆိုတတ်ကြလေသည်။

ဤနည်းအတိုင်းပင် "သိသည်"ဟူသော ဝေါဟာရကို အပြည့်အစုံ ယခုလူတို့ နားမလည်နိုင်ဘဲ ရှိနေသဖြင့် သညာ၊ ဝိညာဏ်၊ ပညာ၊ ဤတရားသုံးမျိုးတို့၏ အသိချင်း ကွဲပြားခြားနားပုံကို ပြဆိုရာ၌ နားမရှင်း (သဘောမပေါက်ဘဲ) ရှိနေကြလေသည်။

ထင်ရှားစေဦးအံ့။ နားလည်မှု၊ ကျွမ်းကျင်မှု တစ်ခုတည်းကိုသာ "အသိ"ဟူ၍ ကျမ်းဂန်တတ်သိ ပညာရှိများက ဝေါဟာရပြုခဲ့ကြသည်မဟုတ်။ (ဇနနဘာဝေါ ဝိသယဂ္ဂဟဏာကာရော) အာရုံယူမှုမျှကိုလည်း "အသိ"ဟူ၍ပင် ဝေါဟာရ ပြုခဲ့ကြသည်။ ဥပမာပြရလျှင် စက္ခုပသာဒ (မျက်စိအကြည်)ဓာတ်နှင့် ရူပါရုံတစ်ခုခု တိုက်ဆိုင်မိကြသောအခါ စက္ခုဝိညာဏ် ဖြစ်ပေါ်လာ၏။ ချက်ချင်း သိနိုင်သည်(သိသွားသည်)ဟု ထင်နေကြ၏။ အလွန် အဖြစ်အပျက် မြန်လှသောကြောင့် လေးဝီထိ၊ ငါးဝီထိ ဖြစ်ပြီးမှ ဒါဟာဘာဘဲ၊ ဘယ်အရာဘဲဟု သိရသည်။ စက္ခုဝိညာဏ် (စက္ခုဒွါရဝီထိ)ဖြစ်ဆဲခဏတွင် အဆင်းရူပါရုံ ပရမတ်ကိုလဲ မြင်ပြီးပြီ၊ ဝေဒနာကလဲ ခံစားပြီးပြီ၊ သညာကလဲမှတ်ပြီးပြီ၊ စေတနာကလဲ စေ့ဆော်ပြီးပြီ၊ ဤသို့စိတ်အစဉ်အတိုင်း ဖြစ်သွားသည်ကို ပုဂ္ဂိုလ်ဖြစ်သူက ဘယ်လိုသိလိုက်

သလဲ။ အမှန်မှာ ရှေးဦးစွာ အာရုံကို ယူလိုက်မှုသာ ရှိသေး၏။ ထိုယူလိုက်မှုကိုပင် (ဇနန) သိခြင်းဟူ၍ ဆိုရလေသည်။ တကယ်ထင်ထင်ရှားရှား "ငါသိပြီ"ဟု ဆိုနိုင်သည်မှာ စက္ခုဒွါရဝီထိ နောက်တွင် ဆက်၍ဖြစ်ကြသော (အစဉ်လိုက်၍ ဖြစ်ကြသော) တဒနုဝတ္တက မနောဒွါရဝီထိတွေ ဖြစ်၍ ဇောဝိညာဏ် ကျသွားသော အခါကျမှ အမည်သညာနှင့်တကွ အကောင်အထည်ပညတ်ကြီးကို သိရတော့သည်။ ဤနောက်ဆုံး သိမှုကိုပင် မြင်လျှင်မြင်ချင်း ချက်ချင်းသိသွားသည်ဟု အထင်မှားနေကြပေသည်။ ဝိညာဏ်သည် သတ္တဝါများကို လှည့်စားနေသော မျက်လှည့်ဆရာနှင့် တူသည် - ဟု မြတ်စွာဘုရား ဟောတော်မူသည်ကို အထပ်ထပ် စဉ်းစားကြည့်သင့်ကြပေသည်။ လူ့အထင်နှင့် ပရမတ်သဘောတွေ ဖြစ်နေပုံကား ကွာချင်တိုင်း ကွာလှ၏။

### ဥပမာ သဘော

လျှပ်စစ်အားပေးရုံမှနေ၍ လျှပ်စစ်ခလုပ်ကို ဖွင့်လိုက်သောအခါ တမြို့လုံးရှိ ဓာတ်တိုင် မီးပွင့်မှန်သမျှ တချက်တည်း တပြိုင်နက် လင်းသွားသည်ဟု လူတွေက ထင်နေကြသည် မဟုတ်ပါလော။ အမှန်မှာ လျှပ်စစ်အားပေးရုံမှ စ၍ တခုပြီး တခုသို့ မခုန်ကျော်ဘဲ အစဉ်အတိုင်း လင်းသွားခြင်းသာဖြစ်ပေသည်။ တပြိုင်နက် တချက်တည်း မလင်းနိုင်ချေ။ အလွန်မြန်သောကြောင့်သာ အထင်မှားခြင်း ဖြစ်သည်။ ငှက်ပျောရွက် အချပ် ၂၀-လောက်ကို ထပ်ထားပြီး တုံးပေါ်တင် ဓားထက်ထက်ဖြင့် ခုတ်ဖြတ်လိုက်သောအခါ၊ မရှေးမနှောင်း တပြိုင်နက် ချက်ချင်း ပြတ်သွားသည် မဟုတ်ချေ။ တရွက်ပြီးမှ တရွက် မခုန်မကျော်ဘဲ မစဉ်အတိုင်း ပြတ်သွားခြင်းသာ ဖြစ်ပေသည်။

## ဝိညာဏ်၏ရှုမ်းရည်

ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ခန္ဓနိဒ္ဒေသကို အခြေခံ၍ ထပ်မံ ဖော်ပြလိုပါသည်။ သညာ၊ ဝိညာဏ်၊ ပညာတို့မှာ သိတတ်သော သဘောတွင် တူကြ၏။ သို့ရာတွင် သညာသည် အညို၊ အရွှေ အစရှိသော အာရုံကို အမှတ်ပြုရုံမျှ သာမည သိခြင်း သာဖြစ်၏။ လက္ခဏာရေးသုံးပါး အနိစ္စ၊ ဒုက္ခ၊ အနတ္တသဘောကို ထိုးထွင်း၍ မသိနိုင်။ ဝိညာဏ်သည် အညို၊ အရွှေ စသည်ဖြင့် အာရုံကိုလည်း သိ၏။ လက္ခဏာရေး သုံးပါးကို ထိုးထွင်း၍လည်း သိ၏။ သို့ရာတွင် ဥဒယဗ္ဗယဉာဏ် အစဉ်ဖြင့် အားထုတ်၍ မဂ်သို့ရောက်စေခြင်းငှာ မတတ်နိုင်။ ပညာသည်ကား အာရုံကိုလည်းသိ၏။ လက္ခဏာရေးသုံးပါးကိုလည်း ထိုးထွင်း၍သိ၏။ ဥဒယဗ္ဗယဉာဏ်အစဉ်ဖြင့် အားထုတ်၍ မဂ်ရပုဂ္ဂိုလ်အဖြစ်သို့ ရောက်စေနိုင်၏။

ဤအဋ္ဌကထာစကားကို ထောက်လျှင် သိသည်, သာ၍သိသည်, အသိဆုံး ဟု အသိသုံးချက် ထွက်လာသည်။ သိသည် သညာ, သာ၍သိသည် ဝိညာဏ် အသိဆုံး ပညာ, ဤသုံးချက်တွင် သိသည်နှင့် အသိဆုံး ကြားတွင် သာ၍သိသည် ဟူသော ဝိညာဏ်တည်နေကြောင်းမှာ ထင်ရှားလှ၏။ ဝိညာဏ်သိမှာ သညာ သိထက် သာလွန်၏၊ ပညာသိကို မမှီနိုင်။ ဘုရားဟော ဒေသနာအရသာ တခုစီ ခွဲပြီးပြောရသည် သိရသည်။ အမှန်မှာ "ဤတရားကား သညာတည်း၊ ဤတရား ကား ဝိညာဏ်တည်း၊ ဤတရားကား ပညာတည်း"ဟု ခွဲခြမ်းဝေဖန် မရနိုင်၊ မသိနိုင်။ ထူးသောသဘော ရှိကြ၏၊ သိမ်မွေ့ကုန်၏၊ မြင်ခြင်းငှာ ခဲယဉ်း၏။

ထို့ကြောင့် အရှင်နာဂသိန်မထေရ်မြတ်က "ဒုက္ကရံ မဟာရာဇ ဘဂဝတာ ကတံ"ဟု မိန့်တော်မူခဲ့၏။ "အိမင်းကြီး၊ မြတ်စွာဘုရားသည် ခဲယဉ်းသည်ကို ပြုတော်မူ၏၊" အဘယ်သို့ပြုတော်မူသနည်း။ အိမင်းကြီး၊ တခုသောအာရုံ၌ ဖြစ်ကြသော စိတ်၊ စေတသိက်၊ နာမ်တရားတို့တွင် "ဤသဘောကား ဖဿတည်း၊

ဤသဘောကား ဝေဒနာတည်း၊ ဤကား သညာတည်း၊ ဤကား စေတနာတည်း၊ ဤကား စိတ်တည်း"ဟု ဆုံးဖြတ်ပိုင်းခြား မှတ်သားခြင်းကို ဟောတော်မူသည်။ ထိုဆုံးဖြတ်ခြင်းဟူသော ခဲယဉ်းမှုကို မြတ်စွာဘုရားပြုတော်မူ၏၊ မိလိန္ဒမင်းအား ဟောကြားတော်မူခဲ့၏။

ပညာသိ အစစ်သည် အကုသိုလ် မဖြစ်နိုင်။ ကုသိုလ် သက်သက်သာဖြစ်၏။ ဝိညာဏ်သိကား ကုသိုလ် အကုသိုလ် ရောလျက်ရှိ၏။ ယခုအခါ လောဘကို အရင်းခံလျက် လေယာဉ်ပျံ အမျိုးမျိုး၊ မော်တော်ကား အမျိုးမျိုးပြုလုပ်ကြသည်။ ဒေါသကို အရင်းခံလျက် သေနတ် အမြောက်မှစ၍ အနုမြူဗုံးတိုင်အောင် လက်နက် ထူး လက်နက်ဆန်းကြီးတွေကို ပြုလုပ်ကြ၏။ လောက၌ ဆန်းဆန်းကြယ်ကြယ် ပစ္စည်းဝတ္ထု အသုံးအဆောင်တွေ ဖြစ်လာသမျှသည် ဝိညာဏ် အစွမ်းကြောင့်သာ ဖြစ်၏။ သညာသိကြောင့် မဟုတ်ချေ။ ပထမဆုံး ထွင်လိုက်သော ပုဂ္ဂိုလ်၏ နည်းလမ်းအရ နောက်လူများက မှတ်သား၍ "အမေမှာ မှာသည့်အတိုင်း" ပြုလုပ်ရာ၌ကား သညာသိဟူ၍ပင် ဆိုရချေမည်။ "စိတ် ဝိညာဏ်ထက် ဆန်းကြယ်သော အရာမရှိ"ဟု ဘုရား ဟောတော်မူသော တရားတော်အရ ဤသို့ ဖော်ပြရခြင်း ဖြစ်ပေသည်။

ဝိညာဏ်၏ ဆန်းကြယ်ပုံ၊ သညာထက် ထူးခြားပုံကို သဘောမပေါက်သည့် အတွက် ဒိဋ္ဌေ ဒိဋ္ဌမတ္တံ စာအုပ် စာမျက်နှာ (၇၀)တွင် "ဥပမာဆောင်၍ ပြပါဦးမည်။ အမိဝမ်းထဲမှ ထွက်လာ၍ 'အူဝဲ'ဟု အော်လိုက်သော ကလေးတွင် ဝိညာဏက္ခန္ဓာတည်း ဟူသော () တခုတည်းသာလျှင် ရှိနိုင်သေးသည် မဟုတ်ပါလော။ ဝေဒနာ စသော အခြား စေတသိက်များကား ရှိပေမည်။ သို့ရာတွင် ဆရာ ဆရာများ မှည့်ခေါ်ကြသည့် အသိသုံးမျိုး အနက်သညာသိလည်း မဖြစ်ပေါ်နိုင်သေး၊ ပညာသိ ဆိုသည်မှာ ဝေလာဝေး ရှိနေရမည်ဖြစ်၍၊ ဝိညာဏ်သိ သက်သက်သာ ရှိနေမည်

မဟုတ်ပါလော။ အဆိုပါ ဝိညာဏ်သိသည် သညာသိထက် မည်မျှလောက်များ နက်နဲနိုင်ပါ သနည်း။ သိသည် ဆိုရုံမျှ သက်သက်ကလေး သိတတ်သော ဝိညာဏ် သဘာဝသည် သညာသိထက် နက်နဲသည်ဆိုခြင်းမှာ ဟုတ်နိုင်ပါမည်လော"ဟု ဆရာ့ ဆရာများ အပေါ်မှာ အထင်သေးသော လေသံ၊ ခနဲ့သော လေသံများဖြင့် ရေးသားမိလေသည်။

"ဆရာ့ ဆရာများ"ဟု သုံးလိုက်ခြင်းမှာ နောက်မှပေါ်လာသော ဆရာများဟု ဆိုလိုဟန် ရှိသည်။ အမှန်မှာ ဤသညာ၊ ဝိညာဏ်၊ ပညာသိနှင့် စပ်လျဉ်းသော ဥပမာမှာ ဝိသုဒ္ဓိမဂ်လာ ရှင်ဗုဒ္ဓဃောသ၏ ဥပမာ ဖြစ်ပေသည်။ သာသနာဝင် ပညာရှင်အားလုံးတို့က လက်ခံ အတည်ပြုထားသော ဥပမာဖြစ်ပေသည်။ ဤဥပမာသည် သညာ၊ ဝိညာဏ်၊ ပညာတို့၏ ခြားနားပုံကို သိသာရုံ ဖော်ပြသော ဥပမာ ဖြစ်သည်။ ရှေးကလည်း ဖော်ပြခဲ့ပါပြီ။ ကလေးမှာ သညာသိ မရှိသေး၊ ဝိညာဏ်သိသာရှိနေသည် ဟူ၍ မမှတ်သင့်ပေ။ ကလေးမှာ ကလေးအလိုက် ဝိညာဏ်နှင့် သညာရှိသည်။ လူကြီးမှာ လူကြီးအလိုက် ဝိညာဏ်၊ သညာရှိသည် ဟူ၍ မှတ်သင့်သည်။ ကလေးမှာ ပဋိသန္ဓေနေစဉ်ကပင် ပဋိသန္ဓေ ဝိညာဏ် ရှိနေလေပြီ။ "အူဝဲ"ဟု အော်လိုက်သော အခါကျမှ ဝိညာဏ်ပေါ်လာသည်ဟု မမှတ်သင့်။ "ကမ္ဘခေတ္တံ့, ဝိညာဏံ ဗီဇံ တဏှာ သိနေဟော" ဟူ၍ ဆက္ကနိပါတ် အင်္ဂုတ္တိုရ်တွင် ဘုရားဟော လာရှိသည့်အတိုင်း ကံသည် လယ်မြေနှင့် တူ၏။ ဝိညာဏ်သည် သညာထက် စွမ်းရည်သတ္တိ ထက်မြက်သောကြောင့် ပဋိသန္ဓေ အခိုက်ကပင် သူ၏စွမ်းရည်သတ္တိ ထင်ရှားပေါ်လာနိုင်ပေသည်။ သညာလည်း ပဋိသန္ဓေခဏက ရှိသည်ပင်။ သို့သော် သတ္တိညံ့သောကြောင့် ထိုအခါက သူ့သတ္တိ မပေါ်လာနိုင်သေး။ သို့ဖြစ်သောကြောင့် မိမိ၏ အတွေးအခေါ်မျှဖြင့် "အဆိုပါ ဝိညာဏ်သည် သညာသိထက် မည်မျှလောက်များ နက်နဲပါသနည်း" ဟု မနှစ်သက်သံနှင့် မရေးသင့်၊ မယူဆသင့်ချေ။

ဤကား တရားသဘောနှင့် ပတ်သက်လာလျှင် အာဂမယုတ္တိ ဖြစ်သော ကျမ်းဂန်များကို လက်မလွှတ်သင့်ကြောင်း၊ ကျင့်ကြံအားထုတ်ခြင်း ပဋိပတ် အရာတွင် ကျမ်းဂန်သာ ပမာဏ (စံနမူနာ)ဖြစ်ကြောင်း ဆရာတော်ကြီးများ၏ ဩဝါဒကို အခြေခံလျက် ဖော်ပြလိုက်သော စကားရပ်များ ဖြစ်ပါသည်။

တစ်ဦးတစ်ယောက်အား ထိပါးလိုသော စေတနာ လုံးဝမရှိ၊ တရားသဘော ကို ဒေသနာတော်အရ အမှန်အကန် သဘောသက်ဝင် နိုင်ရန် တရားတော်၏ မျက်နှာကို ထောက်ထား၍ ဖော်ပြလိုက်ခြင်းဖြစ်ပါသည်။ အထပ်ထပ် သက်ဝင်၍ ဆင်ခြင်နိုင်ကြပါစေသတည်း။

## မဟာစည်ဆရာတော်၏ ဝမ်းကွဲအစ်ကို (ဦးဖိုးချို)

ဆိပ်ခွန်ရွာတွင် ပထမဆုံး တရားအားထုတ်သူ ယောဂီ (၃) ဦး အကြောင်း ကို ဖော်ပြခဲ့ပြီ။

ကျမ်းဂန်ကို လက်မလွှတ်ဘဲ ဒေသနာနည်းကျကျ ညွှန်ပြထားသည့်အတိုင်း တရားအားထုတ်ကြပုံအကြောင်းကို ယခု ဆက်၍ ဖော်ပြလိုပါသည်။ ထိုယောဂီ (၃)ဦး တို့သည် အချင်းချင်းတိုင်ပင်၍ ပထမ (၇)ရက် တပတ် အားထုတ်ကြသည်။ အားထုတ်ကြသည်မှာ ပေါ့ပေါ့ဆဆ မဟုတ်၊ ယုံယုံကြည်ကြည်နှင့် အပြင်းအထန် အားထုတ်ကြခြင်း ဖြစ်လေသည်။ အဘယ်မျှ ဖွဲ့ကောင်းပါသနည်း ဆိုသော် တစ်နေ့ တစ်နေ့လျှင် ကွမ်းတစ်ရာနှင့် ဆေးလိပ်တစ်လိပ်သောက်မည် ဟူသော ရည်ရွယ် ချက်နှင့် ရက်တွက်ကျ ကွမ်းယာ ဆေးလိပ်များကို ကမ္မဋ္ဌာန်းကျောင်းသို့ ယူလာ ကြရာ၊ တရားအားထုတ်ခြင်းတွင် စိတ်ပါဝင်စားလှသောကြောင့် ကွမ်းကိုလည်း မစားဖြစ်၊ ဆေးလိပ်ကိုလည်း မသောက်အား၊ ကမ္မဋ္ဌာန်းကျောင်းမှ ပြန်လာသော အခါ (၇)ရက်တွက် ကွမ်းယာနှင့် ဆေးလိပ်တို့မှာ မူလအတိုင်းပင် ရှိကြလေသည်။

ဤမျှ ပြင်းပြင်းထန်ထန် ဖွဲသန်သန်ဖြင့် အားထုတ်ကြသဖြင့် သုံးရက် လောက် ရှိလာသောအခါ၊ ရုပ်နာမ် အဖြစ်အပျက်ကို မြင်သော ဥဒယဗ္ဗယဉာဏ်သို့ ဆိုက်ကြသည်။ ထိုအခါ ဖြစ်ရိုးဖြစ်စဉ်အတိုင်း အရောင်အလင်းတွေ၊ ပီတိပဿဒ္ဓိ တွေ ဖြစ်ပေါ်လာကြသောကြောင့် အတိုင်းမသိ ဝမ်းသာနေကြသည်။ "ဒီအသက် ဒီအရွယ်ရောက်မှ ဒီတရားကို တွေ့ရတယ်"ဆို၍ ဝမ်းသာအားရ ဖြစ်နေကြသည်။

ဤသို့ ကိုယ်တိုင် တွေ့မြင် သိရှိရပုံများကို မဟာစည် ဆရာတော်အား လျှောက်ထားကြ၏။ ထိုသူတို့မှာ ပထမဆုံး အားထုတ်ကြသူများ ဖြစ်၍ "ဝမ်းသာ ချင်လဲ ဝမ်းသာ နေကြပါစေ"ဟု သဘောပိုက်ကာ မှတ်မြဲပင် မှတ်နေကြ ဟူ၍ ညွှန်ကြားထားတော်မူသည်။ ဝမ်းသာသည်ကို "ဝမ်းသာတယ် ဝမ်းသာတယ်"ဟု မှတ်ရန်ကိုမူ မညွှန်ကြားဘဲ ထားလိုက်သည်။ သို့ဖြစ်၍ ယောဂီ(၃)ဦးတို့မှာ နောက်ထပ် လေးရက်ဆက်ပြီး အားထုတ်ကြသော်လည်း ဝမ်းသာသည့် စခန်းက မတက်နိုင်ကြပေ။

ရက်အနည်းငယ် ရပ်နား ပြီးနောက် တဖန် (၇)ရက် တပတ်ဆက်၍ အားထုတ်ကြရာ၊ ဆရာတော်၏ ဝမ်းကွဲအစ်ကို ဖြစ်သူမှာ ဘင်္ဂဉာဏ်အဆင့်သို့ ရောက်လာလေသည်။ ထိုအခါတွင် "ဖောင်းတယ်၊ ပိန်တယ်၊ ထိုင်တယ်"ဟူ၍သာ မှတ်နေဆဲ ဖြစ်လေသည်။ ဝမ်းဗိုက် ပုံသဏ္ဌာန်ကိုလည်း မတွေ့ရ၊ ကိုယ်ခြုပ်ကြီး လည်း ကွယ်ပျောက်နေသဖြင့် "ကိုယ်ခြုပ်ကြီး ရှိမှရှိသေးရဲ့လား"ဟု လက်ဖြင့်ပင် မကြာခဏ စမ်းစမ်းကြည့်မိသေးသတတ်။ ထို့ပြင် မြင်တိုင်းတွေ့တိုင်း အာရုံများ ကိုလည်း တလျှပ်လျှပ် တရွရွ ပျက်နေသည်ကိုသာ တွေ့ရသည်။ မြေကြီးကို ကြည့်လိုက်လျှင် ဤနည်းအတိုင်း ပျက်နေသည်ကိုသာ တွေ့ရသည်။ သစ်ပင်ကို ကြည့်လျှင်လည်း တရွရွ ပျက်နေသည် ကိုသာတွေ့ရသည်။ ဤသို့ အားလုံး အာရုံမှန်သမျှ ပျက်နေသည်ချည်းကိုသာ တွေ့နေရသောကြောင့် သူ့ကိုယ်တိုင် မူလက ထင်မှတ်ထားခဲ့သည်နှင့် မကိုက်ဘဲ (မတူဘဲ) ဖြစ်နေ၍ စဉ်းစားမိသည်မှာ–

"မြေကြီး၊ သစ်ပင်၊ တုံး၊ တိုင် အစရှိသော အပြင်အပ (ဗဟိဒ္ဓ)ဥတုဇ ရုပ်ကြမ်းတွေကို ဤသို့ ခဏမစဲ ပျက်နေသည်ဟု မထင်ခဲ့၊ အလွန်ကြာမြင့်မှသာ ပျက်နိုင်သည်၊ ကြာမြင့်အောင် တည်နေနိုင်သည့် အရာဝတ္ထုတွေဘဲ"ဟု ထင်မြင်ယူဆထားခဲ့၏။ ဤသို့ ထင်မြင်ယူဆနေရာမှ ဝိပဿနာ အမြင်သန်၍ လျင်မြန်စွာ အမှီလိုက်နိုင်သောအခါ၊ ဖြစ်ပြီးပျက်၊ ဖြစ်ပြီးပျက် အနေဖြင့် မပြတ် ဖြစ်ပျက်နေသည်ဟုသာ အထူးမရှုရ၊ မဆင်ခြင်ရဘဲ အလိုလိုပင် လိုက်၍သိနေသည်။

ဤသို့ အလျင်အမြန် ပျက်ပြီး မမြဲသော အနိစ္စသဘောတွေဟု ထင်လာသောအခါ သူ့စိတ်တွင် မူလက ယူဆ ထင်မြင်ထားသည်နှင့် ဆန့်ကျင်ဘက် ပြောင်းပြန် ဖြစ်နေတော့သည်။ သို့ဖြစ်၍ သူ့စိတ်ထဲတွင် "လောလောဆယ်ဆယ် ဝိပဿနာ ရှုနေယင်း ထင်တာတွေက မှားနေလေသလား၊ သို့မဟုတ် မျက်စိကဘဲ ဝိုးတိုးဝါးတား ဖြစ်နေလေသလား"ဟု သံသယ ဖြစ်လာခဲ့လေသည်။

## မဟာစည်ဆရာတော်အား လျှောက်ထားခြင်း

ဤသို့ သံသယ ဖြစ်နေသောကြောင့် အစ်ကိုဝမ်းကွဲ ယောဂီက မဟာစည်ဆရာတော်အား မေးမြန်း လျှောက်ထားလေရာ၊ ဆရာတော်က "ဤသို့တွေ့တိုင်းမြင်တိုင်း အရာဝတ္ထုတွေ တရှုရှု တရိပ်ရိပ်နှင့် ထင်နေခြင်းသည် အမှန်တွေချည်းပင် ဖြစ်သည်။ ဝိပဿနာ အသိဉာဏ်က လျင်မြန်လာသောအခါ အထူးမရှုရဘဲ တွေ့တိုင်းမြင်တိုင်းကို ဖြစ်လိုက် ပျောက်လိုက်၊ ဖြစ်လိုက် ပျောက်လိုက် အနေဖြင့်သာ ပိုင်းခြားပြီး သိလာနိုင်သည်။ ဤသို့ ထင်လာသိလာခြင်းသည် သံသယဖြစ်ဖွယ်မရှိ၊ အားလုံး အမှန်တွေချည်းဘဲ"ဟု အဖြေပေးတော်မူသည်။

ဤသို့ ဝိပဿနာဉာဏ် အားရှိလာသော အစ်ကို ဝမ်းကွဲ ယောဂီ ပုဂ္ဂိုလ်မှာ နောင်မကြာခင်ပင် ဝိပဿနာ ဉာဏ်တွေ ပြည့်စုံလုံလောက်သည့် အခြေအနေ

များကို သူတွေ့ပုံ အတိုင်း မဟာစည်ဆရာတော်အား လျှောက်ထားလေသည်။ ယခုအခါ ထိုယောဂီပုဂ္ဂိုလ်ကား ကွယ်လွန်သွားရှာလေပြီ။ မဟာစည်ဆရာတော်၏ အစ်ကိုဝမ်းကွဲ ယောဂီပုဂ္ဂိုလ်၏ ဝိပဿနာဉာဏ် ဖြစ်ပုံသဘောသွားကို ထောက်ဆကြည့်လျှင် -

"တကယ် အသိမြန်ပြီး ဉာဏ်မီလာသည့် အခါမှာ၊ ခဏမစဲ ဖြစ်ပျက်နေတာတွေကို မတွေးမဆရဘဲ ရှုမှတ်နေရုံမျှဖြင့် အလိုလို သိလာနိုင်သည်" ဟူသောအချက်ကား ထင်ရှားလှပေသည်။ ဝိပဿနာဉာဏ်က တကယ် ထက်သန်လာပြီဆိုလျှင် မူလက ယူဆထားသည့် အထင်မှားအသိမှားတွေကို လွှမ်းမိုးပြီး အမှန်အတိုင်း သိသွားလေတော့၏။

ဤသို့သော ကိုယ်တွေ့ အကျိုးတရားများကို ထင်ရှား သိရှိရသည့်အတိုင်း ပထမယောဂီ (၃)ဦးမှ အဆင့်ဆင့် ကူးစက် အဆက်ဆက် အားထုတ်ကြရာ ယောဂီ ပုဂ္ဂိုလ်ပေါင်း (၅၀)မျှ တိုးတက်လာခဲ့လေသည်။

သို့ဖြစ်၍ ဝိပဿနာ ရှုနည်းကျမ်း နိဒါန်းတွင် -

မော်လမြိုင်မြို့ တောင်ဝိုင်းကလေး တိုက်ကျောင်း ဆရာတော်သည်လည်း အတ္တဟိတ အစစ်ကို ရှာမှီးလေ့ရှိသူတို့အား ဤအပ္ပမာဒ ဝိပဿနာ လုပ်ငန်းတရားကို ဟောကြား တိုက်တွန်းခဲ့သည်မှာ နှစ်ပေါင်း အတန်ကြာခဲ့ပေပြီ။ အထူးအားဖြင့်ကား ၁၃၀၀-ပြည့်နှစ်က သီတင်းသုံးမြဲဌာန မော်လမြိုင်မှ ရွှေဘိုမြို့ မိမိ၏ ဇာတိအရပ် ဆိပ်ခွန်ရွာသို့ ကြွလာပြီးလျှင် အင်ကြင်းတောတိုက် မဟာစည်ကျောင်း၌ (၇)လခန့် သီတင်းသုံးလျက် အပ္ပမာဒ ဝိပဿနာတရားကို အကျယ် ဟောကြားတော်မူခဲ့ပေ၏။ ထိုအခါက သမ္မာဆန္ဒရှိသူ လူများစွာတို့သည် ဆရာတော်၏ ညွှန်ကြားချက်အတိုင်း လိုက်နာ၍ အားထုတ်စ ပြုခဲ့ကြရာ၊ တရားတော်၏ မွန်မြတ်သော အရသာကို ထိုက်သည့်အားလျော်စွာ တွေ့မြင်ကြရသောကြောင့် ဤအပ္ပမာဒ

လုပ်ငန်းကို လမ်းဟောင်း လမ်းမှန် အစစ်ဟု တထစ်ချ ယုံကြည်ကြပြီးလျှင် တသက်လုံး အားထုတ်ရန် ရည်သန် ဆုံးဖြတ်ကြသူတို့ များစွာပင် ရှိခဲ့လေပြီ။

"ထို့ကြောင့် ထိုအခါမှစ၍ ဤအရပ်၌ နှစ်စဉ်နှစ်တိုင်း အခွင့်သာသော အချိန်များ၌ အားထုတ်သူတို့သည် ပြတ်စဲခြင်းမရှိဘဲ တိုးတက်များပြားလျက်သာ ရှိခဲ့ပေ၏။ ထိုအားထုတ်သူတို့၏ ဉာဏ်အဆင့် တိုးမြင့်ခဲ့သည်မှာလည်း တရားကို သိမြင်သူတို့အား ယုံမှားဖွယ်မရှိ ဖြစ်ပေသည်"ဟူ၍ ဖော်ပြထားလေသည်။

## ဝိပဿနာ ရှုနည်းကျမ်း ဖြစ်ပေါ်လာခြင်း

စစ်ဘေးဒဏ်ကြောင့် နောက်တစ်ကြိမ် မဟာစည် ကျောင်းတိုက်၌ သီတင်းသုံးတော်မူစဉ်၊ တပည့်ဒကာတို့၏ တောင်းပန်ချက်အရ စစ်ကာလ အတွင်းပင် ဝိပဿနာ ရှုနည်းကျမ်း ပထမတွဲ၊ ဒုတိယတွဲတို့ကို ရေးသား စီရင်တော်မူသည်။ ထို့ကြောင့် ဝိပဿနာကျမ်း နိဒါန်းတွင်ပင် –

"ဆရာတော်သည် ယခု ၁၃၀၃–ခုနှစ်မှ စ၍ စစ်ဘေးရန်ကြောင့် ဇာတိအရပ် ဆိပ်ခွန်ရွာသို့ တဖန်ကြွလာကာ၊ အင်ကြင်းတောတိုက် မဟာစည်ကျောင်း၌ သီတင်းသုံးနိုက်တွင် ဝိပဿနာ မဂ်ဖိုလ်ကို ရလိုသော သမ္မာဆန္ဒရှိကြပါလျက် လမ်းမှန်ကို စေ့စေ့ မသိကြသောကြောင့် မိမိတို့၏ လိုလားချက်ကို မပြည့်စေနိုင်သူတို့လည်း များစွာရှိကြသည်။ 'ဤအရပ်၌ အားထုတ်သူတို့လည်း တစ်နှစ်ထက် တစ်နှစ် တိုးပွားလျက်ရှိကြပါသည်။ထိုသူတို့အား နားလည်စေရန် ပြည့်စုံနိုင်ခဲ့သော ကျမ်းတစ်ခု လိုနေပါသည်။ သို့ဖြစ်၍ စီးပွားမှန်ကို လိုလားသူတို့အား ထိုစီးပွားမှန်ကို ရစေရန်၊ သာသနာတော်ကိုလည်း ကြီးပွားစေရန် ဉာဏ်န၊ လတ်၊ ရင့် ပုဂ္ဂိုလ်တိုင်းနှင့် သင့်သော ဝိပဿနာ ကျမ်းတစ်ခုကို ပြုစု စီရင်တော်မူပါ'ဟု တပည့် ဥပါသကာတို့က တောင်းပန်သောကြောင့် ဆရာတော်သည် အဆက်ဆက်

သော ဟိတတ္တိက ပုဂ္ဂိုလ်များစွာတို့အား ဝိပဿနာ မဂ်ဖိုလ်ဟူသော အကျိုးစီးပွား အစစ်ကို ရစေလျက် ပဋိပတ် ပဋိဝေဓ သာသနာတော်အားလည်း ကြီးပွားစေမည်ကို မြော်မြင်တော်မူ၍ ဤဝိပဿနာ ရှုနည်းကျမ်းကို ရေးသား စီရင်တော်မူပေသည်" ဟူ၍ ဖော်ပြထားလေသည်။

## ခဲယဉ်းစွာ ရေးသား စိုက်နိပ်ရခြင်း

၁၃၀၃–ခု၊ မဟာစည် ကျောင်းသို့ ရောက်စနစ်တွင် ဝိပဿနာ ရှုနည်း ကျမ်းကို မရေးဖြစ်သေးချေ။ ကျမ်းပြုသော အရာသည် လွယ်ကူသည် မဟုတ်ချေ။ ကာလပေါ်ဝတ္ထု စသည်တို့ကို ရေးသားသကဲ့သို့ စိတ်ကူးတည့်ရာ လျှောက်ရေး၍ မဖြစ်နိုင်ချေ။ ပါဠိတော် အဋ္ဌကထာ ဋီကာ စသော သာသနာဝင် ကျမ်းဂန်များကို အထပ်ထပ် ကြည့်ရှုကာ ရှေ့နောက် ညှိနှိုင်းဆင်ခြင် သဘောသက်ဝင်အောင် အားထုတ်ရသည်။

မဟာစည်ဆရာတော်မှာ မိမိကိုယ်တိုင်လည်း ပရိယတ္တိ အခြေခံရရှိအောင် ထိထိရောက်ရောက် တတ်မြောက်အောင် သင်ကြား ဆည်းပူးခဲ့ပြီးဖြစ်သည်။ ပဋိပတ္တိဘက်တွင်လည်း ဇေတဝန် ဆရာတော် ဘုရားကြီးထံတွင် နည်းမှန်ရအောင် နာယူလျက် ပစ္စက္ခ ကိုယ်တွေ့ဖြစ်အောင် လေ့လာအားထုတ်ခဲ့ပြီးဖြစ်သည်။ ပဋိပတ် လုပ်ငန်းများကို မိမိ လေ့လာ ပွားများထားသည့်အတိုင်း သူတပါးတို့ အားလည်း နည်းမှန်ရအောင် ဟောပြ ညွှန်ကြားတော်မူခဲ့သည်။

ဒုတိယအကြိမ် မဟာစည်ကျောင်းသို့ ရောက်စတွင် ယခင်က လက်စရှိသည့် အတိုင်း ပဋိပတ် လုပ်ငန်းကို ရောက်လာသမျှသော ယောဂီတို့အား ညွှန်ပြ အားထုတ်စေတော်မူရာ၊ အနယ်နယ်မှ ယောဂီများ ရောက်လာ၍ အပ္ပမာဒ သတိပဋ္ဌာန် ပွားများနည်းအရ အားတတ်သရော ကြိုးစားအားထုတ်ကြလေသည်။

တရားပြသခြင်း၊ ကျမ်းဂန် ကြည့်ရှုခြင်းဖြင့် ပထမ ရောက်စနှစ်ကို ကုန်လွန်စေတော်မူသည်။ ၁၃၀၄–ခုနှစ်ကျမှ တပည့်ဒကာများ၏ တောင်းပန်ချက်အရ ဝိပဿနာ ရှုနည်းကျမ်းကို ကြိုးပမ်းစီရင်တော်မူသည်။

ဝိပဿနာရှုနည်းကျမ်းကို ပထမအကြမ်းရေး၏။ နောက် ထပ်မံ၍ အချောရေးရ၏။ ထိုသို့ ရေးခြင်းဖြင့် ပိုမိုပြည့်စုံ၍ စာအသွားအလာလည်း ပိုမို၍ ချောမောလေသည်။ ခုနစ်လလောက် ကြာသောအခါ စာမူပြီးစီးခြင်းသို့ ရောက်၏။ စာမူအတိုင်း ကြည့်ရှု ဖတ်နာကြရသောအခါ စာအုပ်အဖြစ် ရိုက်နှိပ်ဖြန့်ချိမှသာ ပဋိပတ္တိသာသနာကြီး ပြန့်ပွား ထွန်းကားလာမည်ဟု မျှော်လင့် ယုံကြည်ကြသည့်အတိုင်း စာအုပ်အဖြစ်သို့ ရောက်ရန် စိုင်းပြင်းကြပြန်၏။

ထိုအခါကား ဂျပန်လက်ထက် စစ်ကာလအတွင်း ပစ္စည်း အသုံးအဆောင် အလွန်ရှားပါးသောအခါ ဖြစ်သည့်အတိုင်း စက္ကူ အလုံအလောက်ရဖို့ ခဲယဉ်းလှ၏။ ဆိပ်ခွန်မှ တောရွာကြီး ဖြစ်သည့်အတိုင်း စာပုံနှိပ်စက်နှင့်လည်း အလွန်ဝေးကွာလျက် ရှိ၏။ ဤသို့ အဖက်ဖက်က ခဲယဉ်းလျက်ရှိစဉ် စစ်ကိုင်းမြို့ အောက်ရွာသစ်ကြီးမှ လာရောက်၍ မဟာစည် ဆရာတော်ထံတွင် တရားအားထုတ်နေသော ယောဂီတစ်ဦးက "ရွာသစ်ကြီးတွင် စာပုံနှိပ်စက်ရှိကြောင်း" လျှောက်ထားလေသည်။ ထိုအခါက ဆိပ်ခွန်ရွာ၌လည်း စာအုပ်ရိုက်နှိပ်ရန် စက္ကူများ စုဆောင်းထားသဖြင့် အပြည့်အစုံ ရှိပြီးဖြစ်လေသည်။

မဟာစည်ဆရာတော်က "စာပုံနှိပ်စက်နှင့် စက္ကူ ရှိနေစေကာမူ၊ စာအုပ်ရိုက်သောအခါ ကြည့်ရှုပြင်ဆင်ဖို့လိုကြောင်း၊ ဆိပ်ခွန်နှင့် ရွာသစ်ကြီးမှာ အလှမ်းကလဲကွာ၊ အသွားအလာကလဲ ခက်သဖြင့် ကိုယ်တိုင် ကြည့်ရှုပြင်ဆင်နိုင်မည် မဟုတ်ကြောင်း" နှင့် အမိန့်ရှိသောအခါ "ရွာသစ်ကြီးတွင် ပရိယတ္တိဘက်က လုံလောက်၍ ကျကျနန ပြင်ဆင်နိုင်မည့် ဆရာတော် တစ်ပါးရှိပါသည်။ ထို

ဆရာတော်ကို လျှောက်ထား အပ်နှံလျှင် လက်ခံပါလိမ့်မည်"ဟု လျှောက်ထား၏။ ထိုဆရာတော်မှာ ရွာသစ်ကြီး ရွှေစေတီ ဆရာတော်ပင် ဖြစ်ပေသည်။ ဝိပဿနာ ရှုနည်းကျမ်း အစနားတွင် ထုတ်မင်္ဂလာ ဂါထာများကို ရေးသားတော်မူသော ရွှေစေတီတောရ အရှင်သုန္ဒရပင်တည်း။

ကံအားလျော်စွာ အကြောင်းညီညွတ်သဖြင့် ရွာသစ်ကြီး ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ရန် သဘောတူကာ စာမူပို့လိုက်လေသည်။ ရွှေစေတီ ဆရာတော်သည် ဝိပဿနာရှုနည်းစာမူကို ဖတ်ရှုရသောအခါ၊ သီလ၊ သမာဓိ၊ ပညာ စခန်းတို့၌ လုံလုံလောက်လောက် အများနားလည်လောက်အောင် ရေးသားနိုင်ပေသည် တကားဟု လွန်စွာ အားရ သဘောကျတော်မူလေသည်။ စာမူ၏ ဆက်သွယ်မှု ကြောင့် မဟာစည် ဆရာတော်နှင့် ရွှေစေတီ ဆရာတော်တို့မှာ မမြင်ဘူးသော (အဒိဋ္ဌသဟာယ) မိတ်ဆွေ အဖြစ်သို့ ရောက်တော်မူကြလေသည်။

## ရွာသစ်ကြီးသို့ ကြွရောက်ခြင်း

ဝိပဿနာ ရှုနည်းကျမ်း ပထမတွဲ ရိုက်နှိပ်စ ပြုသောအခါ မဟာစည် ဆရာတော်ကိုယ်တိုင် ရွာသစ်ကြီးသို့ ကြွရန် အကြောင်းဖြစ်ပေါ်လာ၏။ ထိုအချိန်တွင် မော်တော်ကား အသွားအလာ မှန်သမျှကို အမေရိကန် စစ်ဘက် လေယာဉ်ပျံများက တိုက်ခိုက်နေဆဲ ဖြစ်၍ နေ့အခါ မသွားဝံ့ကြ၊ ညအခါကျမှသာ ပုန်းလျှိုးကွယ်လျှိုး မီးမထွန်းဘဲ သွားလာနေကြရသည်။ သို့ဖြစ်၍ ကားအိုတစ်စီးကို ရရှိသည့်အတိုင်း ညအချိန် မှောင်လျှင် မှောင်ချင်း ဆိပ်ခွန်မှ ထွက်လာကြသည်။ ကားကလည်း ကားအို၊ လမ်းကလည်း လမ်းအို၊ အချိန်ကလည်း မှောင်ညိုညို၊ ဖြစ်သလို သွားရသည်မှာ မည်မျှလောက် ကသိကအောက် ဖြစ်နိုင်သည်ကို သိနိုင်လောက်ပေပြီ။

ဤသို့ ကားအိုဖြင့် ဖြစ်သလို သွားနေရဆဲတွင် လမ်းခုလတ်လောက် ရောက်သောအခါ၊ ကားတစ်စီး စက်နှိုးမရသဖြင့် ဒုက္ခဖြစ်နေသူ တစ်ဦးနှင့် တွေ့ရသေး၏။ ထိုသူက ကားကို တွန်းပေးရန် တောင်းပန်၍ ကားအိုဖြင့် စက်နိုးအောင် တွန်း၍ ကူညီရသေးသည်။ အလွန် သံဝေဂ ရစရာ ကောင်းသော အခါကြီးပေတည်း။ ဤသို့သော ခေတ်ဆိုး ခေတ်ပျက်ကြီးတွင် မော်တော်ကား ပျက်ခြင်း၊ လမ်းပျက်ခြင်း စသည်တို့မှာ ဘာမျှ အဆန်း မဟုတ်တော့ချေ။

စစ်ကိုင်း ရွာသစ်ကြီးသို့ ညသန်းခေါင်ကျော်လောက်မှ ရောက်တော့သည်။ နံနက်လင်းမှ ရွှေစေတီ ဆရာတော်နှင့် တွေ့၍ ဝမ်းမြောက် ဝမ်းသာ ဝိပဿနာ ရှုနည်းကျမ်းစာအုပ် အကြောင်းများကို ပြောဆို ဆွေးနွေးတော်မူကြသည်။ ပထမတွဲ စာအုပ်မှာ စာမျက်နှာ လေးရာကျော် ရှိခြင်း၊ စက္ကူရှားပါးခြင်းတို့ကြောင့် စာအုပ်ရေ (၂၀၀)မျှလောက်သာ ရိုက်နှိပ်နိုင်သည်။ ပထမတွဲအပြီးတွင် ဒုတိယတွဲကိုလည်း ဆက်လက်ရိုက်နှိပ်ရန် အမိန့်ပေးခဲ့သည်။ ဝိပဿနာတရားတော် ပြန့်ပွားရေးအတွက် ဤသို့သော ခေတ်ဆိုး ခေတ်ပျက်ကြီး အတွင်း၌ပင် မဖြစ်မနေ စေတနာသန့်သန့်ဖြင့် အထမြောက်အောင် ကြိုးပမ်းတော်မူပေသည်။ မဟာစည် ဆရာတော်နှင့် ရွှေစေတီဆရာတော်တို့မှာ ဝိပဿနာ ရှုနည်းကျမ်းကို ကြိုးပမ်းတော်မူရာမှစ၍ အလွန်ခင်မင် ရင်းနှီးသော ဓမ္မမိတ်ဆွေအဖြစ်သို့ ရောက်တော်မူကြသည်။

## ဆိပ်ခွန်သို့အပြန်ခရီး

ဂျပန်များသည် အင်ဖာမှုဆုတ်ခွာ၍ အရှုံးပေးရမည့် လက္ခဏာ ပေါ်နေစေကာမူ ရပ်ရွာလူထု အထင်မသေးစေရန် ဟန်အမျိုးမျိုးဆောင်လျက်ရှိ၏။ ဤသို့ ဟန်ဆောင်ခြင်းအတွက် ရပ်ရွာလူထုက လေးစားသဖြင့် သူခိုး ဒမြ မထဝံ့သည့်

ပြင်၊ ဂျပန်တို့အတွက်လည်း အနှောင့်အယှက်ကင်းလျက် ရှိလေသည်။ သို့ဖြစ်၍ ဤသို့ ဟန်ဆောင်ခြင်းကိုပင် ကျေးဇူးတင်ရမလို ဖြစ်နေပေသည်။

သို့ရာတွင် ဂျပန်လေယာဉ်ပျံဟူ၍ တစ်စင်းမျှ မမြင်ရ၊ အမေရိကန် မဟာမိတ် လေယာဉ်ပျံများကိုသာ နေ့စဉ်နှင့်အမျှ တွေ့မြင်ရသည်။ ကုန်းလမ်းတွင် မော်တော်ကားနှင့် လှည်းမှန်သမျှ၊ ရေလမ်းတွင် သင်္ဘောနှင့် လှေမှန်သမျှကို ဂျပန်များ သွားလာသည်ဟူသော အမှတ်နှင့် အဆက်မပြတ် တိုက်ခိုက်နေကြသည်။ မြစ်ဆိပ်နှင့် နီးသော မြို့ကြီးရွာကြီး မှန်သမျှမှာလည်း လေယာဉ်ပျံသံကိုသာ နားစွင့်၍ နေကြရသည်။

မဟာစည်ဆရာတော်သည် ကိစ္စပြီးလျှင် လာစဉ်ကအတိုင်းပင် ညဦးအချိန် ရွာသစ်ကြီးမှ ပြန်ကြွလာရာ ရွာဆက်မနီးသော တစ်နေရာသို့ အရောက်တွင် စီးလာယင်း မော်တော်ကားမှာ ကားမောင်းသူကိုယ်တိုင် နေ့လယ်က စစ်ကိုင်းမြို့သို့ သွားရောက်လည်ပတ်ရာမှ စက်ခေါင်းအတွင်းမှ ရေတိုင်ကီပေါက်လာသဖြင့် ဆားတောင်မငါးရွာ အလွန် ချောင်းကြီးတစ်ခုကို ဖြတ်ကူးရာတွင် ရေဝင်၍ စက်ရပ်သွားလေရာ ခရီးမဆက်နိုင်ဘဲ ချွတ်ယွင်းချက်ကို ပြင်စေရပြန်သည်။ မီးလည်း မထွန်းဝံ့၊ ထွန်းပြန်လျှင်လည်း ပေါ်ပေါ်လွင်လွင် မလုပ်ဝံ့၊ မှောင်ကြီး မဲမဲတွင် စမ်းတဝါးဝါးနှင့် ဟိုနှိုက် သည်ကိုင် တတ်နိုင်သမျှ ပြင်ဆင်ရသည်။ မိုးမလင်းခင် ဆိပ်ခွန်သို့ ပြန်ရောက်ဖို့ အရေးကြီးသည်။ မိုးလင်းလာပါက အလွန် အကင်းပါးသော လေယာဉ်ပျံများနှင့် တွေ့ရမည်။ သို့ဖြစ်၍ ကြိုးစားပြီး ပြင်ဆင်စေရာ ကံအားလျော်စွာ အချိန်မီ ပြီးစီးသွားသဖြင့် ဆိပ်ခွန်ရွာ မဟာစည်ကျောင်းသို့ မိုးလင်းခါနီးတွင် ပြန်ရောက်ရသည်။

ဂျပန်စစ်တပ်များ နောက်အဆုတ်တွင် မဟာစည်ကျောင်းနှင့် အနီး ပတ်ဝန်းကျင်၌ သစ်ပင်အုပ် ကောင်းလှသဖြင့် ဂျပန်စစ်သားများ အဝင်အထွက်

ခိုအောင်းရာ ခြေရှုပ်ရာ ဖြစ်နေလေသည်။ ၎င်းတို့စုရုံးနေရာဌာနကို ဗုံးချတတ်သဖြင့် ရပ်ရွာ လူအပေါင်းတို့မှာ စိတ်သက်သာခွင့် မရကြ။ ဘုရားသွားကျောင်းတက်၊ တရားအားထုတ်ရေး ဘက်ကလည်း ဆုတ်ယုတ်လျက် ရှိကြလေသည်။ ဝိပ္ပလ္လာခေတ်ဆိုးသည် မကောင်းကျိုးကို အများဆုံးပေးတတ်သည် ဆိုသည်ကို ကိုယ်တွေ့ကြုံနေကြရလေပြီ။ ဝိပ္ပလ္လာ၏ လက်ချက်ကြောင့် ဆက်လက်ရိုက်နှိပ်ထားသော ဝိပဿနာရှုနည်းကျမ်း ဒုတိယတွဲ ဖောင်စိမ်းများသည် ရွာသစ်ကြီးကို မဟာမိတ် လေယာဉ်ပျံတို့က ဗုံးချရာတွင် စာပုံနှိပ်စက်ပါ မလွတ်ကင်း သဖြင့် ပျက်စီးခြင်းမလှ ပျက်စီးသွားရလေပြီ။

၁၃၀၇–ခု၊ ဝါခေါင်လ (၁၉၄၅ ခု ဩဂုတ်လ)တွင် တစ်ကမ္ဘာလုံးကို ဒုက္ခပေးခဲ့သော ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသွားလေသည်။ ထိုအခါကျမှ ဝိပဿနာရှုနည်းကျမ်း ပထမတွဲကို မန္တလေးမြို့ သုခဝတီ ပုံနှိပ်တိုက်တွင်လည်းကောင်း၊ ၎င်းကျမ်း ဒုတိယတွဲကို ဦးပန်းရီ၏ လုခင်အင်ဆန်းတိုက်တွင်လည်းကောင်း ထပ်မံရိုက်နှိပ်ရတော့သည်။

## မဟာသတိပဋ္ဌာနသုတ် ပါဠိနိဿယကို ရေးသားစီရင်တော်မူခြင်း

ဒုတိယကမ္ဘာစစ်ကြီးကား ပြီးသွားလေပြီ။ လောကီ စီးပွားရေးကိုရှာဖွေလိုသူများနှင့် လောကုတ္တရာ စီးပွားရေးကို ရှာဖွေလိုသူတို့မှာ စိတ်အေးချမ်းသာစွာနှင့် ဝီရိယ ဆန္ဒရှိသမျှ ကြိုးစားရှာဖွေနိုင်ခွင့် ရရှိကြလေ၏။ သို့ဖြစ်သည့်အတိုင်း မဟာစည် ဆရာတော်ဘုရားထံတွင် တရားအားထုတ်လက်စရှိသူများနှင့် အားမထုတ်ရသေးသော သူတို့ပါ မဟာသတိပဋ္ဌာန် နည်းလမ်းအရ ကြိုးပမ်းအားထုတ်ကြသဖြင့် ကမ္မဋ္ဌာန ယောဂီ ပုဂ္ဂိုလ်တို့မှာ တစ်နေ့ထက်တစ်နေ့ များပြားလာခဲ့လေသည်။

မဟာစည် ဆရာတော်ဘုရား ကိုယ်တိုင် မဟာသတိပဋ္ဌာန် ဒေသနာတော် အရ ဝိပဿနာ လုပ်ငန်းစဉ် တရားကို လက်တွေ့ ထင်ရှားအောင် ဟောကြား ညွှန်ပြတော်မူလေရာ တပည့် ယောဂီတို့အား ကမ္မဋ္ဌာန်း နည်းနိဿယ လမ်းမှန် ကျရေး တဆင့်ခံ နည်းပေးလျက် စစ်ဆေးညွှန်ပြသူ လက်ထောက် အကူအညီ ဆရာပေါင်း များစွာလည်း ပေါ်ပေါက်လာခဲ့၏။ ထိုသို့ ပေါ်ပေါက်လာသည့် အနက် ပထမ လက်ထောက် ဆရာကြီးများ ဖြစ်ကြသော ဆရာကြံနှင့် ဆရာကြွက် တို့က "မဟာသတိပဋ္ဌာန သုတ်ကြီး ပါဠိအနက် အလုံးစုံ အာဂုံဆောင်လွယ်စေရန် လည်းကောင်း၊ ဝိပဿနာ လုပ်ငန်းစဉ်များ ထင်ရှားပေါ်လွင်စေရန်လည်းကောင်း နိဿယကျမ်းသစ်တစ်စောင်ကို ပြုစုရေးသား၍ ချီးမြှောက်တော်မူပါ"ဟု လျှောက်ထား တောင်းပန်ကြပြန်လေသည်။

ထိုသို့ တောင်းပန်ခြင်းကို အကြောင်းပြု၍ ဒီဃနိကာယ် မဟာဝဂ် ပါဠိ တော်လာ မဟာသတိပဋ္ဌာနသုတ်ကို အကျဉ်းချုပ်အားဖြင့် နိဿယ ပြန်ဆို ရေးသားတော်မူပြန်ရာ သာသနာတော်နှစ် ၂၄၉၃–ခု၊ မြန်မာသက္ကရာဇ် ၁၃၁၁– ခု၊ ကဆုန်လပြည့်ကျော် ၁–ရက်နေ့တွင် ပြီးဆုံးခြင်းသို့ ရောက်လေသည်။

## မဟာသတိပဋ္ဌာနသုတ်၏ ဂုဏ်ရည်

နိကာယ် ငါးရပ်၊ ပိဋကတ် သုံးဖြာ၊ အင်္ဂါ ကိုးတန်၊ ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင် ရှိသည့်အနက် ဤ မဟာသတိပဋ္ဌာန သုတ်သည် မဂ် ဖိုလ် နိဗ္ဗာန်ကို လက်ငင်းရရှိရေးအတွက် ရှုမှတ် အားထုတ်နည်းများကို တိုက်ရိုက် ထင်ရှား မသွယ် မဝိုက်ဘဲ ဟောထားသော "ပုဗ္ဗဘာဂမဂ်"ခေါ် ဝိပဿနာ လုပ်ငန်းစဉ် တရားတော်ကြီး ဖြစ်ပေသည်။

စိတ်အညစ်အကြေး ကင်းဝေးစင်ကြယ်ရန်၊ အရိယာမဂ်ကို ရရန်၊ နိဗ္ဗာန်ကို မျက်မှောက်ပြုရန် "တစ်ခုတည်းသော လမ်းမှန် တစ်ကြောင်းတည်းသော လမ်းမှန်"

ဟု ကေန် သတ်မှတ်၍ ချီးမွမ်းတော်မူအပ်သောကြောင့် မဂ် ဖိုလ် နိဗ္ဗာန်ကို သတိပဋ္ဌာန်ဖြင့်သာ ရောက်နိုင်၍ သူမပါလျှင် မရောက်နိုင်ကြောင်း ကောင်းကောင်းကြီး ထင်ရှား လှပေတော့သည်။ သို့ဖြစ်၍ ဤ မဟာသတိပဋ္ဌာနသုတ် တရားတော်ကြီးကို ဗုဒ္ဓသာသနာတော်မှာ အလွန် အရေးပါ၍ အရာရောက်လှသည့် ပဓာန အချုပ်အခြာ ဘာဝနာ လုပ်ငန်းစဉ် တရားတော်ကြီး ဟူ၍လည်း ဆိုသင့် ဆိုထိုက်လှပေသည်။

သို့ဖြစ်သောကြောင့် ရှေးသူဟောင်းတို့ ပြောလေ့ပြောထ (ပြောစမှတ်) ရှိကြသည်မှာ "တောထွက်လျှင် သတိပဋ္ဌာန် စာစောင်ကို ယူဆောင်၍ ထွက်ရသည်" ဟူသည်ပင်တည်း။ ထိုဥဒါန်း စကားမှာ ယခုတိုင် တွင်လျက် ရှိပေသည်။

ထိုမှတပါး ရှေးသူတော်စင် ပညာရှင်တို့သည် ဤမဟာသတိပဋ္ဌာနသုတ်ကြီးကို အထူးပင် လေးစားခဲ့ကြပေသည်။ ကျမ်းဂန်အရ ဖော်ပြရသော် တရားကျင့်သူအပေါင်း ငါးရာစီ ရှိသော ဓမ္မိက ဥပါသကာ အဖွဲ့အပေါင်း ငါးရာတို့၏ ဦးစီးဥက္ကဋ္ဌဖြစ်သော မဟာဓမ္မိက ဥပါသကာကြီး ကွယ်လွန်ခါနီးတွင် ရဟန်းတော်များကိုပင့်၍ တရားတော်ကို ရွတ်ဖတ် သရဇ္ဈာယ်ရန် တောင်းပန်သည်တွင် ရဟန်းတော်များက "ဘယ်သုတ်ကို နာလိုပါသလဲ"ဟု မေးတော်မူကြ၏။ "ခပ်သိမ်းသော ဘုရားရှင်တို့ လက်မလွှတ်ဘဲ နလုံးသွင်းမြဲဖြစ်သော မဟာသတိပဋ္ဌာန သုတ်ကို နာလိုပါသည်"ဟု ဥပါသကာကြီးက ပြန်ကြား လျှောက်ထားလေသည်။ ဤစကားဖြင့် ဘုရားတိုင်း ဘုရားတိုင်း ဤ မဟာသတိပဋ္ဌာန် တရားကို လက်မလွှတ်နိုင်ဘဲ အထူး လေးစားခဲ့ကြကြောင်းနှင့် ရဟန်းတော်များတွင် မက လူ့ဝတ်ကြောင် ဥပါသကာများပါ အထူး လေးစားခဲ့ကြကြောင်း ထင်ရှားလှပေသည်။

မြန်မာနိုင်ငံ၌လည်း အမျိုးသမီး အမျိုးသားတိုင်း ဖတ်ရှု၍လည်းကောင်း၊ နာခံ၍လည်းကောင်း၊ ကျင့်ကြံအားထုတ်၍ လည်းကောင်း သတိပဋ္ဌာန်အရသာကို

ခံစား သုံးဆောင်နိုင်ရေးအတွက် ရှေးရှေးသော ဆရာမြတ်တို့သည် မဟာသတိပဋ္ဌာန သုတ်ကြီးကို ပါဠိတပိုဒ်၊ မြန်မာတပိုဒ်၊ နိဿယပြန်ဆိုခြင်း၊ မြန်မာသက်သက် ပြန်ဆိုခြင်း၊ အနက် အဓိပ္ပါယ် ဖွင့်ဆိုခြင်း စသည်တို့ဖြင့် လေးစားကာ ရေးသားပုံနှိပ် ဖြန့်ချိခဲ့ဘူးကြလေပြီ။

## နိဿယသစ်၏ ထူးခြားချက်

မဟာစည်ဆရာတော်၏ သတိပဋ္ဌာန် နိဿယသစ်မှာ ယောဂီများအတွက် အလွယ်တကူ ကြည့်ရှုလေ့လာနိုင်ပါစေ ဟူသော ရည်ရွယ်ချက်ဖြင့် ရေးသားစီရင်သောကြောင့် –

(၁) နိဿယဟု ဆိုရသော်လည်း မြန်မာ စကားပြေလိုပင် ဖတ်လွယ် သိလွယ်ခြင်း။

(၂) သဘာဝကျကျ အားထုတ်ပြီး ပုဂ္ဂိုလ်များမှာ ကိုယ်တွေ့နှင့် တိုက်ရိုက်ညီညွတ်နေသည်ကို တွေ့ရခြင်း။

(၃) အားထုတ်ဆဲပုဂ္ဂိုလ်များမှာ အကူအညီ အထောက်အပံ့ ရနိုင်ခြင်း။

(၄) အားမထုတ် ရသေးသော ပုဂ္ဂိုလ်များမှာ အားထုတ်ရေးအတွက် နည်းနိဿယကို ကျကျနန ရသွားနိုင်ခြင်း –

ဤသို့စသော လက်ငင်းအကျိုး ကျေးဇူးများကို ထင်ရှားရရှိစေနိုင်သော ထူးခြားချက်များနှင့် ပြည့်စုံပေသည်။

## နိဿယသစ်ကို ပုံနှိပ်ဖြန့်ချိခြင်း

သတိပဋ္ဌာန် နိဿယ ပထမ လက်ရေးမူကို ရဟန်း ရှင်လူ တပည့် ယောဂီအများတို့ အဆင့်ဆင့် ကူးယူကြရာ လွန်စွာ ပင်ပန်းခြင်း၊ အလိုရှိသူတိုင်း မရနိုင်ခြင်း၊ မှန်ကန် တိကျစွာ မရနိုင်ခြင်း၊ ကြည့်ရှုမကောင်းခြင်း စသော

အပြစ်များနှင့် တွေ့ကြုံကြရလေသည်။ သို့ဖြစ်သောကြောင့် နိဿယ လက်ရေးမူကို ပုံနှိပ်ခွင့်ပြုရန် ရွှေဘိုမြို့ ဆိပ်ခွန်ရှာ "သဒ္ဓမ္မပါလ ဝိပဿနာ ဖြန့်ဖြူးရေးအဖွဲ့" က ဆရာတော်ဘုရားအား လျှောက်ထား ခွင့်တောင်းခဲ့လေသည်။

ဤသို့ ခွင့်တောင်းသောအခါ မဟာစည်ဆရာတော် ဘုရားမှာ ရန်ကုန်မြို့ သာသနာ့ရိပ်သာသို့ ၁၃၁၁–ခုနှစ်ကပင် ရောက်ရှိနေသဖြင့် ရန်ကုန်မြို့သို့ လှမ်း၍ လျှောက်ထားရခြင်း ဖြစ်လေသည်။ သို့လျှောက်ထားသည့်အတိုင်း ဆရာတော်ဘုရားကိုယ်တိုင် စီရင်ရေးသားပြီးသော နိဿယတွင် အနည်းငယ်မျှသာ ဖြည့်စွက်ပြင်ဆင်ပြီးလျှင် စက်တင်ပုံနှိပ်ခွင့် ပြုတော်မူလိုက်သည့်အတိုင်း "သဒ္ဓမ္မပါလ ဝိပဿနာ ဖြန့်ဖြူးရေးအဖွဲ့"က ယောဂီ ရှင် လူတို့ အလွယ်တကူ ကြည့်ရှုနိုင်ကြရန် ရန်ကုန်မြို့၊ ဆိပ်ကမ်းသာလမ်း၊ သုဓမ္မာပုံနှိပ်တိုက်တွင် ပထမအကြိမ်ရိုက်နှိပ်ရာ၊ သာသနာတော်နှစ် ၂၄၉၅ ခု၊ မြန်မာသက္ကရာဇ် ၁၃၁၃–ခု တန်ဆောင်မုန်းလတွင် ပြီးစီးခြင်းသို့ ရောက်လေသည်။

## ရန်ကုန်မြို့ သာသနာ့ရိပ်သာသို့ ကြွရောက် သီတင်းသုံးခြင်း

ပြည်ထောင်စု မြန်မာနိုင်ငံကို လွတ်လပ်သော နိုင်ငံအဖြစ် ထူထောင်ပြီးနောက် ဗုဒ္ဓမြတ်စွာ၏ သာသနာတော်အား အထွန်းအထိပ်ရောက် ချီးမြှောက်ထောက်ပံ့မည်ဟူသော အဓိက ရည်ရွယ်ချက်ဖြင့် သတိုးသီရိသုဓမ္မဆာဦးသွင်၊ မဟာသီရိသုဓမ္မ ဟသ်ာတ ဦးမြ၊ နိုင်ငံတော်ဝန်ကြီးချုပ်ဟောင်း ဦးနု၊ ဘဏ္ဍာရေးဝန်ကြီး ဦးတင်၊ သာသနာရေး ဝန်ကြီး၊ အမြတ်တော်မင်းကြီး ဦးစံသိမ်း၊ သတိုးမဟာသရေစည်သူ ဦးဘဂျမ်း၊ မီးသတ်ညွှန်ကြားရေးဝန်သရေစည်သူ ဦးလှကျော် အစရှိသော လူကြီးမင်း အပေါင်းတို့သည် နိုင်ငံတော် သမ္မတကြီးကို

နာယက တင်မြှောက်၍၊ မြန်မာသက္ကရာဇ် ၁၃၀၉-ခု၊ နတ်တော် လဆန်း(၁)ရက် (၁၃-၁၁-၄၇)နေ့တွင် ဗုဒ္ဓသာသနနုဂ္ဂဟ အဖွဲ့ကြီးကို နိုင်ငံတော် ဝန်ကြီးချုပ်နေအိမ်၌ စတင်တည်ထောင်ခဲ့ကြလေသည်။

ထိုအဖွဲ့၏ ရည်ရွယ်ချက် (ခ)အရ၊ ပဋိပတ္တိ သာသနာတော်ကြီးကို ချီးမြှောက်ထောက်ပံ့ရန်အလို့ငှာ ကမ္မဋ္ဌာန်းဌာနကြီးတစ်ခု တည်ထောင်ရေးနှင့် ပရိယတ်, ပဋိပတ် နှစ်ရပ် စွယ်စုံသော ကမ္မဋ္ဌာနာစရိယ (ကမ္မဋ္ဌာန်းတရား) ဆရာတော်တစ်ပါး ရှာကြံရေးတို့ကို စတင် ဆောင်ရွက်ကြသောအခါ ၁၃၁၀-ပြည့်နှစ်၊ တော်သလင်း လပြည့်ကျော် ၉-ရက် (၆-၉-၄၈)နေ့တွင် သတိုးသီရိသုဓမ္မ ဆာဦးသွင် လေဒီသွင် သားသမီး တစုတို့က ယခု သာသနာ့ရိပ်သာခြံမြေကို လှူဒါန်းကြသောကြောင့် ကမ္မဋ္ဌာန်းရိပ်သာများကို စတင်တည်ထောင်နိုင်ခဲ့ကြလေသည်။

ပရိယတ်, ပဋိပတ် နှစ်ရပ် စွယ်စုံသော ကမ္မဋ္ဌာနာ စရိယ ဆရာတော်ရရှိရေးအတွက် အထက်အောက် မြန်မာနိုင်ငံ အနှံ့အပြား ထောက်လှမ်းစုံစမ်းသောအခါ ရွှေဘိုမြို့၊ ဆိပ်ခွန်ရွာ သာသနဓဇ သီရိပဝရ ဓမ္မာစရိယ ဘွဲ့တော်ရ ကမ္မဋ္ဌာနာ စရိယ မဟာစည်ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကို ကြားသိကြရလေသည်။

ထိုအခါ ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာဦးသွင် ကိုယ်တိုင် သွားရောက်၍ အသေအချာ ထောက်လှမ်း စုံစမ်းပြီးမှ ကြားသိရသည့်အတိုင်း ခိုင်လုံသောအခါ နိုင်ငံတော် ဝန်ကြီးချုပ်ဟောင်း ဦးနုကိုယ်တိုင် ရွှေဘိုမြို့သို့ ကြွတော်မူပါ ဘုရားဟု လျှောက်ထားပြီးလျှင် ၁၃၁၁-ခုနှစ်၊ တန်ဆောင်မုန်း လပြည့်ကျော် (၆)ရက် (၁၀-၁၁-၄၉)နေ့တွင် ရန်ကုန် သာသနာ့ရိပ်သာသို့ အရောက်ပင့်ဆောင်၍ ကိုးကွယ်ခဲ့ကြလေသည်။

## ဆာဦးသွင် စုံစမ်းထောက်လှမ်းပုံ

ဗုဒ္ဓသာသနနုဂ္ဂဟအဖွဲ့ ဥက္ကဋ္ဌ ဆာဦးသွင်သည် အခါတပါး သမီးများရှိရာ အထက် မြန်မာနိုင်ငံ စစ်ကိုင်းမြို့သို့ ခေတ္တ အလည်အပတ် ရောက်၍ သမီးများ ထံတွင် တည်းခိုနေခိုက် –

တနေ့သ၌ သမီးများနှင့်အတူ စစ်ကိုင်းတောင်၊ ချပ်သင်းချောင်၊ သီလရှင် ဆရာကြီး ဒေါ်ဝိစာရီထံသို့ ရောက်ရှိသွားကြလေသည်။ ထိုအခါ ဆရာကြီးထံသို့ ရောက်ရှိနေနှင့်သော ရွှေဘိုခရိုင်၊ ရေဦးမြို့ ဆန်စက်သူဌေး ဦးဘသင်နှင့် ဆရာကြီး ဒေါ်ဝိစာရီက မိတ်ဆက်ပေးယင်း ဦးဘသင်နှင့် သာသနာရေး ဆွေးနွေးမိကြရာ ဆာဦးသွင်က "ဦးတို့ စစ်ကိုင်းကို ရောက်လာတာကတော့ ဘုရားဖူးယင်း သမီး များထံ အလည်လာယင်း ဦးတို့ ရန်ကုန်မြို့ သာသနာ့ရိပ်သာအတွက် ကမ္မဋ္ဌာန်း နည်းပြ ဆရာတော်တစ်ပါး ရရှိရန် စုံစမ်းယင်းဆိုပါတော့။" "ဒီလိုဆိုယင် ကျွန်တော်ညွှန်ကြားပါရစေ၊ ယခု ကျွန်တော်များ မျက်မှောက်ကိုးကွယ် ဆည်းကပ် နေတဲ့ ကျွန်တော်များနယ်က ဆရာတော်နှင့် အထူးသင့်လျော်မယ်လို့ ထင်ပါတယ်၊ ထိုဆရာတော်မှာ ကမ္မဋ္ဌာန်းနည်းပြသော နေရာမှာသာ ရှင်းလင်းပြတ်သားသည် မဟုတ်ပါ၊ ပရိယတ်ဘက်တွင်လဲ အစိုးရစာချတန်းကို သီရိပဝရဂုဏ်ထူးနှင့် အောင်ပါတယ်၊ စာတတ်ဆရာတော်တစ်ပါးလို့ အခြား သံဃာတော်များကလဲ အသိအမှတ် ပြုထားကြပါတယ်၊ ဒါကြောင့် ယခုပြောတဲ့ ဆရာတော်နှင့် သင့်လျော် လိမ့်မယ်လို့ ထင်ပါတယ်။"

ဤသို့ ပြောဆို ဆွေးနွေးကြပြီးနောက် ထိုဆရာတော်၏ တရားတော်ကို ကိုယ်တိုင် နာခံ မှတ်သားလိုသောကြောင့် (၃)ရက်ခန့် ဝါပန်ပြီး ကြွလာဖို့ ပင့်ပေးရန် တောင်းပန်သဖြင့် ရေဦးစက်သူဌေးက တာဝန်ယူပြီး ပင့်လာ၍ ဆရာကြီး ဒေါ်မာလာရီ၏ သမိဒ္ဓါဒယချောင်တွင် (၃) ရက်တိုင်တိုင် တရားနာယူကြရာ၊ ရဟန်း

ရှင် လူ ပရိသတ် ၃၀၀–ကျော် အနက်မှ စာတတ် ကျမ်းတတ် တရားအခံရင့်ပြီး ပုဂ္ဂိုလ်ကြီးများက ပို၍ နှစ်သက် သဘောကျ ကြသောကြောင့် ဆရာကြီး ဒေါ်မာလာရီ၏ ထပ်မံတောင်းပန်ချက်အရ နောက်ထပ် (၂)ရက် ဆက်၍ နာယူ ကြပြန်လေသည်။

ဥက္ကဋ္ဌကြီး ဆာဦးသွင်မှာလည်း အလွန်ထူးမြတ်သော ဝိပဿနာ ကျင့်စဉ် အလုပ်တရားများကို ကိုယ်တိုင် ကြားနာရပြီး၊ ရန်ကုန်မြို့ ပြန်ရောက်ရောက် ချင်းပင် ထိုဆရာတော်၏ သတင်းကို ဝန်ကြီးချုပ်ဟောင်း ဦးနုအား ပြောပြ၍ ထိုဆရာတော်ကို သွားရောက် ဖူးတွေ့ပြီး၊ ရန်ကုန်မြို့သို့ ပင့်စေလိုကြောင်းဖြင့် ဝန်ကြီးချုပ်အား အကြံပေး ပြောဆိုတိုက်တွန်းလေသည်။

သမိဒ္ဓေါဒယချောင် ဆရာကြီး ဒေါ်မာလာရီ အမှူးရှိသော သီလရှင် ဆရာကြီး အချို့တို့သည် ထိုဆရာတော် သီတင်းသုံးရာသို့ လိုက်သွားကြပြီး နှစ်လ သုံးလခန့် တရား အားထုတ်၍ ကိုယ်တိုင် သိရှိရသော ဝိပဿနာဉာဏ်စဉ် တရား ထူးများကို ဥက္ကဋ္ဌကြီးထံသို့ စာပေးပို့၍ အားရ ကျေနပ်ဖွယ် ကြားသိရသည့်အတိုင်း ဝမ်းမြောက်စွာဖြင့် ဥက္ကဋ္ဌကြီးက ဝန်ကြီးချုပ်အား ထပ်မံပြောပြပြန်လေသည်။

နောက်များ မကြာမီ နိုင်ငံတော်ဝန်ကြီးချုပ်ဟောင်း ဦးနုသည် အထက် မြန်မာနိုင်ငံသို့ တိုင်းခန်းလှည့်လည်ရာမှ ၁၃၁၁–ခုနှစ် တန်ဆောင်မုန်းလဆန်း ၄–ရက်နေ့တွင် ရွှေဘိုမြို့သို့ ရောက်ရှိသွားလေသည်။ ထိုအခါ ဝန်ကြီးချုပ်သည် ရွှေဘိုမြို့ မော်ကွန်းမြင်သာခေါ် မြို့ထောင့်စေတီတော်၏ ခြေတော်ရင်းရှိ ကမ္မဋ္ဌာန်း ကျောင်းတိုက်သို့ သွားရောက်ဖူးမြော်လျက် ရန်ကုန်မြို့သို့ ကမ္မဋ္ဌာန်းတရား အားထုတ်နည်း ပြသချီးမြှင့်ရေးအတွက် သာသနာပြု ကြွတော်မူပါရန် ပင့်ဖိတ် လျှောက်ထားချက်အရ၊ ရှေးဦးစွာ သတင်းပေးသူ ရေဦးမြို့ ဆန်စက်သူဌေး ဦးဘသင်တို့က တပည့်နောက်လိုက် ပြုလျက် ၁၃၁၁–ခုနှစ်၊ တန်ဆောင်မုန်း

လပြည့်နေ့တွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာသို့ ဆရာတော်ကြီးကိုယ်တိုင် ကြွရောက်တော် မူလေသည်။

ထိုဆရာတော်ကား အခြားမဟုတ်ပါ။ ယခုအခါ သာသနာ့ရိပ်သာ စံကျောင်းတော်တွင် အစဉ် သီတင်းသုံးတော်မူလျက်၊ ထိုထိုသော ဝိပဿနာ ယောဂီ ရဟန်း ပရိသတ် လူပရိသတ် များစွာတို့အား ဝိပဿနာပွားများနည်း တို့ကို လက်တွေ့ စာတွေ့ ဂ–ဃ–ဏ–န ပြသတော်မူလျက် ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင် သံဂါယနာပုစ္ဆက ဝန်ဆောင်ဖြစ်တော်မူသော ရွှေဘိုမြို့ ဆိပ်ခွန်ရွာ အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တ အရှင်သောဘန မဟာထေရ်ကြီးပင် ဖြစ်တော် မူပါသည်။

မဟာစည်ဆရာတော်ဘုရားသည် သာသနာ့ရိပ်သာသို့ ရောက်ပြီးနောက် အချိန်ကာလ အချည်းနှီးမကုန်လွန်စေရန် တရားအားထုတ်လိုသူတို့အား တရား ပြသတော်မူမည့်အကြောင်းကို မိန့်တော်မူလေလျှင် ၁၃၁၁–ခုနှစ်၊ နတ်တော်လပြည့် နေ့ (၄–၁၂–၄၉)တွင် တရားအားထုတ်လိုကြသူ ယောဂီပေါင်း ၂၅–ဦး ပေါ်ပေါက် ခဲ့သည်နှင့် ဝိပဿနာ အလုပ်ပေး တရားတော်ကြီးကို မဟာစည်ဆရာတော်ဘုရား ကိုယ်တော်တိုင် စတင်ဟောကြားတော် မူခဲ့လေသည်။

ထိုအခါမှစ၍ သာသနာ့ရိပ်သာသို့ တရားအားထုတ်ရန် လာရောက်ကြသူ ရှင် လူ ရဟန်းအပေါင်းတို့ တစတစ များပြားလာရာ ဆရာတော်ဘုရားကြီးသည် ရောက်သစ်စ ယောဂီအပေါင်းတို့အား ဝိပဿနာအလုပ်ပေးတရားတော်ကြီးကိုပင် ဟောကြား၍ တရားပေးတော်မူခဲ့ပါသည်။

## အားထုတ်ဘူးသူ အားပေးသူ

ဝိပဿနာလုပ်ငန်းတရားကို ဟောလျှင် ဖြစ်စေ၊ ကျမ်းရေးသားလျှင် ဖြစ်စေ ထိုဆရာသည် မိမိဟောပြော ရေးသားသော ဝိပဿနာလုပ်ငန်းကို ထိထိ ရောက်ရောက် အားထုတ်ဘူးသူ ဖြစ်ဖို့ ရှေးဦးစွာ အရေးတကြီး လိုအပ်ပေသည်။ ထို့ပြင် ထိုနည်းအရ အားထုတ်သူ တပည့်များစွာတို့ ပေါက်ရောက်အောင်မြင်၍ ထောက်ခံချက်များစွာ ရရှိထားသောနည်း ဖြစ်ဖို့လည်း ဒုတိယ အရေးတကြီး လိုအပ်ပေသည်။

## ဝစ္ဆပရိဗိုဇ်နှင့် မြတ်စွာဘုရား

ဤအရာ၌ မဇ္ဈိမပဏ္ဏာသ(၁၅၇) မဟာဝစ္ဆသုတ်မှ သာဓက အထောက် အထားတစ်ရပ်ကို အကျဉ်းချုပ် ဆောင်ပြလိုပါသည်။

ထိုသုတ်တွင် ဝစ္ဆပရိဗိုဇ်က "မြတ်စွာဘုရားမှတပါး တရားထူးကို ရသော အခြားပုဂ္ဂိုလ်များ ရှိပါ၏လော"ဟု မေးလျှောက်သဖြင့် မြတ်စွာဘုရားက –

"အိုဝစ္ဆ၊ ရဟန္တာဖြစ်ကြသော ငါ၏တပည့် ရဟန်းယောကျ်ား ရဟန်း မိန်းမတို့သည် တစ်ရာ နှစ်ရာ သုံးလေးရာ ငါးရာမက များစွာပင် ရှိကြသည်။ အနာဂါမ်၊ သကဒါဂါမ်၊ သောတာပန်ဖြစ်ကြသော ငါ၏တပည့် လူ ဥပါသကာ ဥပါသိကာမတို့သည်လည်း တစ်ရာ နှစ်ရာ သုံးလေးရာ ငါးရာမက များစွာပင် ရှိကြသည်"ဟု ဖြေကြားတော်မူလေသည်။ ထိုစကားကို ကြားရ၍ ဝစ္ဆပရိဗိုဇ်က–

"အရှင်ဂေါတမ၊ အကယ်၍ အရှင်ဂေါတမ ဟောပြသော ဤတရားသည် အရှင်ဂေါတမ တပါးသာ ပြီးစီးပေါက်ရောက်၍ အခြားသူတို့ မပေါက်ရောက် ခဲ့ပါလျှင် အရှင်ဂေါတမ ဟောပြောသော ဤအကျင့်မြတ်သည် မပြည့်စုံဘဲ ရှိရာ ပါသည်။ ယခုမူကား ထိုသို့မဟုတ်ပါဘဲ အရှင်ဂေါတမလည်း ပေါက်ရောက်

ပေသည်။ တပည့်ရဟန်းယောကျ်ား၊ ရဟန်းမိန်းမ၊ လူဥပါသကာ၊ ဥပါသိကာမ တို့လည်း ပေါက်ရောက်ကြပေသည်။ သို့ဖြစ်၍ အရှင်ဂေါတမ ဟောပြသော အကျင့်မြတ်သည် ပြည့်စုံလှပါပေသည်"ဟု ချီးကျူးလျှောက်ထားလေသည်။

သို့ဖော်ပြသော ပါဠိတော် အထောက်အထားနှင့်အညီ မဟာစည်ဆရာတော်ဘုရားသည်လည်း ဤသို့သော ဂုဏ်အင်္ဂါများနှင့် ပြည့်စုံကြောင်းကို ဝိပဿနာအခြေခံတရားတော်စာအုပ်၊ စာမျက်နှာ – ၁၁၄၊ စာကြောင်းရေ ၁၄ – တွင် ဤသို့ အမိန့်ရှိချက်ပါရှိပေသည်။

"ဘုန်းကြီးက မိမိတဦးတည်း ထင်မြင်သဘောကျတာတွေကို လျှောက်ဟောနေတာ မဟုတ်ပါဘူး၊ တပည့်ယောဂီ လေးငါးဆယ်ယောက်လောက်တွေ့မြင်ရုံနဲ့လဲ ဟောနေတာ မဟုတ်ပါဘူး၊ ယောဂီတွေ ရာပေါင်းများစွာ ဒီအတိုင်းတွေ့မြင်နေပြီ၊ ယခုလဲ တချို့က တွေ့မြင်နေဆဲ ဖြစ်နေကြတယ်၊ ဒါ့ကြောင့်ဟောနေတာပါ" ဤသို့ ပါရှိသည်ကို တွေ့ရပါသည်။

## ယောဂီ ရာပေါင်းများစွာ

မဟာစည်ဆရာတော်ဘုရား၏ မိန့်ခွန်းတွင် "ယောဂီ ရာပေါင်းများစွာ"ဟူ၍ပါရှိသည့်အတိုင်း ရာပေါင်းမည်မျှ များသည်ကို ဖော်ပြလိုပါသည်။ ၁၃၂၀–ပြည့်နှစ်၊ နတ်တော်လဆန်း ၁၁–ရက် (၂၁–၁၂–၅၆) တနင်္ဂနွေနေ့တွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ၌ ကျင်းပသော (၉)ကြိမ်မြောက် မဟာစည်ဆရာတော်ဘုရား၏ ဩဝါဒ ခံယူပူဇော်ပွဲတွင် တင်ပြသော ယောဂီစာရင်းကို ဤသို့ တွေ့ရှိရပါသည်။

မဟာစည်ဆရာတော်ဘုရားကြီးသည် သာသနာ့ရိပ်သာ အတွင်း၌ ဝိပဿနာတရား စတင်ပြတော်မူသည့် ၁၃၁၁–ခုနှစ်၊ နတ်တော်လမှစ၍ ၁၃၂၀–ပြည့်နှစ်၊ တန်ဆောင်မုန်းလကုန်အထိ ရန်ကုန်မြို့ သာသနာ့ရိပ်သာတွင် တရားအားထုတ်ပြီးသော ယောဂီဦးရေမှာ –

၁။ ရဟန်းတော် ယောဂီ ............................ ၂၄၁၉–ပါး
၂။ အမျိုးသား ယောဂီ ............................ ၂၀၄၆–ဦး
၃။ အမျိုးသမီးနှင့် သီလရှင် ယောဂီ ............ ၅၃၃၅–ဦး
စုစုပေါင်း ၉၈၀၀–ဦး

ရှိခဲ့ပါသည်။

ထို့ပြင် မြန်မာနိုင်ငံအရပ်ရပ်၌ ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ဩဝါဒခံ ကမ္မဋ္ဌာန်း ဌာနခွဲပေါင်း ၁၅၀–ကျော်ရှိရာ၊ ထိုဌာနများမှ ရရှိသော ယောဂီဦးရေ စာရင်းမှာ ၁၄၇၅၈၁–ဦး ရှိ၍ အားလုံးပေါင်း မြန်မာနိုင်ငံတွင်း ယောဂီဦးရေမှာ ၁၅၇၃၈၁ (တစ်သိန်း ငါးသောင်း ခုနစ်ထောင့် သုံးရာ ရှစ်ဆယ့် တစ်ဦး) ရှိပါသည်။

ထို့ပြင် ယိုးဒယားနိုင်ငံ၌လည်း ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ တပည့် ကမ္မဋ္ဌာနာစရိယ ဦးအာသဘနှင့် ဦးဣန္ဒဝံသသို့ ကြီးမှူး၍ ၁၃၁၄–ခုနှစ်မှ အစပြုကာ သတိပဋ္ဌာန် အမှတ်တရားကို ညွှန်ကြားပြသခဲ့ရာ ကမ္မဋ္ဌာန်း ဌာနခွဲပေါင်း ၃၀၀–ကျော်ရှိ၍ အားထုတ်ပြီးသော ယောဂီပေါင်းမှာ တစ်သိန်းကျော် ရှိပြီဟု ကြားသိရပါသည်။ ထို့ပြင် သီဟိုဠ်၊ အိန္ဒိယ၊ ဥရောပ အစရှိသော အခြားနိုင်ငံတို့၌လည်း ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ဩဝါဒအရ အားထုတ်ပြီးသော ယောဂီများမှာလည်း ရာပေါင်းများစွာ ရှိပါသေးသည်။

ဖော်ပြပြီးသော စာရင်းများအရ၊ တပည့်ယောဂီ နှစ်သိန်းငါးသောင်းကျော်တို့တွင် ရုပ်နာမ်အဖြစ်အပျက်ကို တွေ့မြင်၍ အနိစ္စာနုပဿနာဉာဏ် ကောင်းကောင်းဖြစ်ဘူးသော ယောဂီများမှာ တစ်သိန်းထက် နည်းမည် မဟုတ်ပေ။ ဤမျှ များပြားစွာသော တပည့် ယောဂီတို့ကို ရည်ရွယ်၍ ကျေးဇူးရှင် မဟာစည် ဆရာတော်ဘုရားကြီးက "ယောဂီတွေ ရာပေါင်းများစွာ"ဟု မိန့်တော်မူခြင်း ဖြစ်ပေသည်။ အလွန်ပင် အားတက်ဖွယ်ကောင်းပါပေစွ။

## ယောဂီ သုံးသိန်းကျော်

လွန်ခဲ့သော ၁၃၂၂-ခုနှစ်၊ နတ်တော်လက နှစ်ပတ်လည် စာရင်းအရဆိုလျှင် သာ၍ပင် အားတက်ဖွယ် ကောင်းပေသည်။ ထိုစာရင်းကို အောက်ပါအတိုင်း တွေ့ရပေသည်။

၁။ ရဟန်းတော် ယောဂီ .... .... .... ၂၉၇၁-ပါး

၂။ အမျိုးသား ယောဂီ .... .... .... ၂၃၈၈-ဦး

၃။ အမျိုးသမီးနှင့် သီလရှင်ယောဂီ .... ၆၁၇၄-ဦး

ရန်ကုန်သာသနာ့ရိပ်သာ ယောဂီပေါင်း ၁၁၅၃၃-ဦး ရှိခဲ့ပါသည်။

ထို့ပြင် မြန်မာနိုင်ငံအရပ်ရပ် ဌာနခွဲများမှ ယောဂီပေါင်း ၂၃၄၁၅၆-ဦး ရှိပါသည်။ နှစ်ရပ်ပေါင်းလျှင် မြန်မာနိုင်ငံ ယောဂီပေါင်း - ၂၄၅၆၈၉ (နှစ်သိန်း လေးသောင်း ငါးထောင့် ခြောက်ရာ ရှစ်ဆယ့်ကိုးဦး) ရှိပါသည်။ ယိုးဒယား စသော နိုင်ငံခြားယောဂီများပါ ပေါင်းလိုက်လျှင် ကျေးဇူးရှင် မဟာစည်ဆရာတော် ဘုရားကြီး၏ ဩဝါဒခံ ယောဂီပေါင်း သုံးသိန်းကျော် လေးသိန်းခန့် ရှိကြောင်း သိရပါသည်။ ထို သုံးသိန်းကျော် လေးသိန်းခန့် ယောဂီတို့တွင် ရုပ် နာမ် အဖြစ် အပျက်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် တွေ့မြင်၍ အနိစ္စာနုပဿနာဉာဏ် ကောင်းကောင်း ဖြစ်ဘူးသော ယောဂီပေါင်းမှာလည်း တစ်သိန်းခွဲထက် နည်းမည် မဟုတ်ပေ။ ထို့ကြောင့် "ယောဂီတွေ ရာပေါင်းများစွာ ဒီအတိုင်း တွေ့မြင်နေပြီ။ ယခုလဲ တချို့ တွေ့မြင်ဆဲ ဖြစ်နေတယ်။ ဒါကြောင့် ဟောနေတာပါ" ဟု ရဲရဲ ရင့်ရင့် ဝန်ခံ၍ မိန့်မြွက်အားပေးတော်မူသော ဆရာတော်ဘုရားကြီး၏ မိန့်ခွန်း တော်သည် အလွန့်အလွန်ပင် အားတက်ဖွယ် ကောင်းလှပါပေသည်။

## အထူးသိမှတ်ဖွယ်

မဟာစည်ဆရာတော်ဘုရားကြီးသည် ဘုရားဟောပါဠိတော်ကို အထူးသဖြင့် ရိုသေလေးစားလျက် အနက်အဓိပ္ပာယ်ကို ယူဆ ဟောပြောလေ့ရှိပေသည်။ ထို့ကြောင့် ပါဠိတစုံတခု၌ တိုက်ရိုက်ဖြောင့်ဖြောင့် ရနေသော အနက်သည် အခြားပါဠိတော်များနှင့် ဆန့်ကျင်ခြင်းမရှိဘဲ ညီညွတ်နေလျှင် ထိုအနက်ကိုပင် ရိုသေလေးစားသောအားဖြင့် အတိအကျ ယူဆ ဟောပြောရေးသားတော်မူပေသည်။ အဘယ်ကြောင့်နည်းဟူမူ –

"သုတ္တံ အပ္ပဋိဗာဟိယံ၊ တံ ပဋိဗာဟန္တေန ဗုဒ္ဓေါ ပဋိဗာဟိတော ဟောတိ" ပိဋကတ်သုံးပုံ ပါဠိတော်ဟူသော သုတ်ကို မပြစ်ပယ်အပ်၊ ၎င်းပါဠိတော်သုတ်ကို ပြစ်ပယ်လျှင် မြတ်စွာဘုရားကိုပင် ပြစ်ပယ်ရာ ရောက်လေတော့၏။ (သုတ်မဟာဝဂ် အဋ္ဌကထာ–၁၅၈) ဟူသော အဋ္ဌကထာ ဩဝါဒနှင့်အညီ အခြားပါဠိတော်များနှင့်လည်း မဆန့်ကျင်၊ အပြစ်လည်းမရှိ၊ သင့်လည်း သင့်လျော်သော ပါဠိ၏အနက်ကို လျှော့၍ဖြစ်စေ၊ တစ်မျိုးပြင်၍ဖြစ်စေ ယူလျှင် မြတ်စွာဘုရားကို ပြစ်ပယ်ရာရောက်မည်စိုးသောကြောင့်ဟူ၏။

သို့ဖြစ်၍ မဟာစည်ဆရာတော်ဘုရား ရေးသားတော်မူသော ဝိပဿနာဆိုင်ရာကျမ်းနှင့် စကားပြောပုံအတိုင်း (ဟောပြေသည့်အတိုင်း) အသံဖမ်းစက်ဖြင့် ယူထားရာမှ ရေးကူးရိုက်နှိပ်ထားသော အခြားစာအုပ်စာတမ်းများ၌ ပါဠိအနက်တစ်စုံတစ်ရာတွင် မိမိတို့ ဉာဏ်မသက်ဝင်နိုင်လျှင် အခြားပါဠိတော်များနှင့် နှီးနှော၍ ယူသင့်ပါကြောင်း သူတော်ကောင်း ပညာရှိတို့အား အမြွက်အားဖြင့် ညွှန်ကြားလိုပါသည်ဟု ဝိပဿနာ အခြေခံတရားတော်စာအုပ် နိဒါန်းတွင် ဖော်ပြထားလေသည်။

## သီဟိုဠ်ကျွန်း၌ သာသနာပြုခြင်း

( ဆရာတော် ဦးသုဇာတ၏ ခရီးသွား မှတ်တမ်းအရ အချုပ်အားဖြင့် ဖော်ပြထား ပါသည်။)

မြန်မာသက္ကရာဇ် ၁၃၁၇–ခု၊ ပထမဝါဆိုလဆုတ် ၁၁–ရက်နေ့မတိုင်မီတွင် မြန်မာနိုင်ငံမှ သီဟိုဠ်ကျွန်းသို့ မဟာစည်ဆရာတော်ဘုရား သာသနာပြုစေလွှတ် တော်မူရန် အကြောင်းဖြစ်ပေါ်လာခဲ့သည်။

"ဝိပဿနာ ပဋိပတ်သာသနာသည် သီဟိုဠ်သို့တိုင် ပြန့်နှံ့ တည်ရှိစေရန် သာသနာပြု စေလွှတ်တော်မူပါ ဘုရား"

ဤသို့ ဝန်ကြီးချုပ်ဟောင်း ဦးနုက မဟာစည်ဆရာတော်အား အတန်တန် လျှောက်ထားခဲ့လေသည်။

ထိုကို အကြောင်းပြု၍ မဟာစည်ဆရာတော်ဘုရားက အရှင်သုဇာတ၊ အရှင်ဥတ္တရာဘိဝံသ၊ အရှင်ဇဝနတို့အား "သီဟိုဠ်ကျွန်းသို့ ပဋိပတ္တိသာသနာပြု သွားကြစေလိုသည်"ဟု မိန့်တော်မူသည်။

ထို့ကြောင့် ၁၃၁၇–ခု၊ ပထမဝါဆိုလဆုတ် ၁၁–ရက်၊ (၁၅–၇–၅၅) သောကြာနေ့တွင် နိုင်ငံကူးလက်မှတ် ပြုလုပ်ကြသည်။ ၎င်းလဆုတ် ၁၂–ရက် စနေနေ့ညနေ ၃–နာရီတွင် ကမ္ဘာအေး ဗုဒ္ဓသာသနာအဖွဲ့ ရုံးခန်း၌ ထိုကိစ္စအတွက် အထူးအစည်းအဝေးတစ်ရပ် ကျင်းပသည်။

ဗုဒ္ဓသာသနာအဖွဲ့ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာဦးသွင်၊ ဒု–ဥက္ကဋ္ဌအဖြစ် အငြိမ်းစား တရားဝန်ကြီးချုပ် သတိုးသီရိသုဓမ္မ အဂ္ဂမဟာ သရေစည်သူ ဒေါက်တာ ဦးသိမ်းမောင်၊ တရားဝန်ကြီးဦးချန်ထွန်းစသော သာသနာရေး အရာရှိကြီးများ၊ မဟာစည်ဆရာတော်ဘုရားနှင့် သီဟိုဠ်သာသနာပြု တပည့်မထေရ်ကြီးများ တက်ရောက်ကြသည်။

## ထိုအစည်းအဝေးမှ

ဆရာတော် ၃-ပါး၏ ခရီးစရိတ်ကို သတိုးသီရိသုဓမ္မ ဆာဦးသွင်က ကုန်ကျသမျှ လှူဒါန်းမည်၊ တာဝန်ယူသည်။ နိုင်ငံခြားဆက်သွယ်ရေး အထူးအရာရှိ ဦးသိန်းဟန်က ဆရာတော် ၃-ပါး၏ ကပ္ပိယပြုလုပ်၍ (အစိုးရစရိတ်ဖြင့်) လိုက်ပို့ရမည်။

၁၃၁၇-ခု၊ ဒုတိယဝါဆို လဆန်း ၂-ရက် (၂၁-၇-၅၅)နေ့တွင် လေယာဉ်ဖြင့် အိန္ဒိယမှ သီဟိုဠ်သို့ကြွရန် သင့်လျော်သည်ဟု ဆုံးဖြတ်ကြသည်။

၁၃၁၇-ခု၊ ဒုတိယဝါဆိုလဆန်း ၂-ရက် (၂၁-၇-၅၅) ကြာသပတေးနေ့ နံနက် ၅-နာရီခွဲ အချိန် ဥက္ကဋ္ဌကြီး ဆာဦးသွင်-ဒေါ်ဒေါ်သိန်းတို့ ကပ်သော အရုဏ်ဆွမ်းကို ဘုဉ်းပေးကြပြီးလျှင် မင်္ဂလာဒုံ လေဆိပ်သို့ ဆင်းကြသည်။

## ဆင်းကြပုံ အစီအစဉ်

ရှေ့ဆုံးမှ ရဲအရာရှိများက မော်တော်ဆိုင်ကယ်ဖြင့် ရင်ဆိုင်လာသော ကားများကို လမ်းဘေးတွင် ရပ်ပေးစေသည်။ ထို့နောက်မှ ဆာဦးသွင်ကားဖြင့် ကျေးဇူးရှင် မဟာစည်ဆရာတော်၊ အရှင်သုဇာတနှင့် ဆာဦးသွင်၊ ထိုနောက်မှ ဘုရားဒကာ ဦးဘိုးစိန်-ဒေါ်ကြင်ရုံကားဖြင့် မန္တလေး သာသနာ့ရိပ်သာ ရွှေစေတီ ဆရာတော်နှင့် အရှင်ဥတ္တရာဘိဝံသ၊ ထို့နောက်မှ မင်းကတော် ဒေါ်သန်းမေ ကားဖြင့် အရှင်ဝဏ္ဏိတ၊ အရှင်ကောသလ္လ၊ အရှင်ဇဝန၊ ထိုနောက်မှ သံဃာတော်များကား၊ ထိုနောက်မှ ယောဂီများကား စသည်ဖြင့် အစဉ်အတိုင်း လိုက်ပါကြသည်။

ဗုဒ္ဓသာသနာအဖွဲ့မှ တရားဝန်ကြီး ဦးချန်ထွန်းနှင့် ဇနီး ဒေါ်ခင်သိန်း၊ ဦးစိန်မောင်၊ ဦးကျော်စိန် စသော အရာရှိကြီးများ၊ ဝိသာခါ အမျိုးသမီးအဖွဲ့မှ

ဝန်ကြီးကတော် ဒေါ်နွဲ့ရီ စသော အမျိုးသမီးများ၊ ဗုဒ္ဓသာသနကောင်စီမှ နိုင်ငံခြား ဆက်သွယ်ရေး အရာရှိချုပ် ဦးသိန်းဟန်က မြန်မာနိုင်ငံ အစိုးရ ကိုယ်စား ဆရာတော် ၃–ပါး၏ ကပ္ပိယအဖြစ်ဖြင့် သီဟိုဠ်ရောက်အောင် လိုက်ပို့သည်။

လေဆိပ်တွင် သတင်းထောက်များက ဓာတ်ပုံအမျိုးမျိုး ရိုက်ယူကြသည်။

## ထွက်ခွာကြပြီ

ထိုနေ့နံနက် ၇–နာရီ ၃၇–မိနစ်တွင် ယူဘီအေလေယာဉ်ဖြင့် ကလကတ္တားသို့ ရှေးရှုထွက်သည်။ ၈–၁၅ အချိန် ရခိုင်ရိုးမတောင်ပေါ် ရောက်သည်။ ၈–၂၅ နာရီတွင် အရှင် ၃–ပါးအား ကော်ဖီ, ကိတ်မုန့်, ပေါင်မုန့်, ပန်းသီးကပ်သည်။ ၉–၃၈ နာရီတွင် စစ်တွေလေဆိပ်သို့ ဆင်းသည်။ စစ်တွေလေဆိပ်ကား ပင်လယ် ကမ်းခြေကျွန်းဆွယ်တွင် ပြုလုပ်ထားသည်။ မိုးရွာနေသောကြောင့် လေယာဉ်ပေါ်မှ ဆင်းမကြည့်နိုင်ကြချေ။ (နေ့တိုင်း မိုးရွာ လေပြင်းတိုက်သော်လည်း ထိုနေ့ လေငြိမ် မိုးစဲ၍ လေယာဉ် ငြိမ်သက်သည်။)

စစ်တွေမှ ၁၀–၁၅ နာရီထွက်၍ ၁၀–၄၅နာရီတွင် နေ့ဆွမ်းအဖြစ်ဖြင့် ကော်ဖီ, ချိစ်ကိတ်, သစ်သီးကိတ်, ပေါင်မုန့်လိမ်, ကြက်ဥပြုတ်, ကြက်သား ကြော်, အာလူးကြော်, ပန်းသီးများကို ဆက်ကပ်သည်။ စစ်တွေမှ ထွက်သည်က စ၍ ပင်လယ်ပေါ်မှ ဖြတ်ကျော်ပျံသန်းခဲ့ရာ၊ ၁၂–၂၄ နာရီတွင် ကလကတ္တားမြို့ ဒန်ဒန်လေဆိပ်သို့ ရောက်ကြသည်။ ၁၂–၃၀ နာရီတိတိ ရှိလေပြီ။ (ကလကတ္တား နာရီကား ၁၁–၃၀ နာရီသာ ရှိသေးသည်။ မြန်မာနာရီထက် ၁–နာရီ နောက်ကျ သည်။)

အတွင်းဝန် ကိုစောလှိုင် ကြိုလာသော ကားဖြင့် ထိုလေဆိပ်မှ မြန်မာ ဓမ္မသာလာ ဘုန်းကြီးကျောင်းသို့ သွားရောက် တည်းခိုကြသည်။ ၁၈–၇–၅၅

ဝါဆိုလဆန်း ၉-ရက်နေ့တွင် ကလကတ္တား လေဆိပ်မှ ၆-နာရီအချိန် V.T.C.D.Y လေယာဉ်ဖြင့် မဒရပ်သို့ သွားကြသည်။ ၆-၂၅ နာရီတွင် အချိုပွဲ ဆက်ကပ်သည်။ (ကြက်သားကြော်နှင့် ကြက်ဥပြုတ်တို့ကို ဘုန်းကြီးများ မစားဘူး ထင်၍ လေယာဉ်မယ်အမျိုးသမီးက နုတ်ယူထားလိုက်သည်ဟု သိရသည်။)

၇-၃၀ နာရီတွင် ဘူဗနေဆွာ Buvaneswar လေဆိပ်သို့ ဆင်းသက်သည်။ ထိုလေဆိပ်ကား မြို့တောင်ဘက် ကျသည်။ မြို့ပတ်ဝန်းကျင်မှာ ခြောက်သွေ့လှ၏။ မြို့ကွက် မြို့ခင်း စနစ်ကျ၏။ အုတ်တိုက် ကွန်ကရစ်မိုးချည်း တပုံစံတည်းလိုပင် ဆောက်ထား၏။ မဟာဒနီမြစ် တောင်ဘက်ဩရစ္ဆ နယ်၏ မြို့တော်ဖြစ်သည်။ မဟာဒနီမြစ်ကား လေယာဉ်ပေါ်မှ ကြည့်လျှင် အလွန် သာယာစိမ်းစို၍ ရှု၍မငြီး ဖြစ်ပေသည်။

ထိုလေဆိပ်မှ ၇-၅၅ နာရီတွင် ထွက်၍ ၉-၃၃ တွင် Visakha patnam သို့ ရောက်၏။ ၎င်းလေဆိပ်ကား မြို့နှင့် ကွာလှမ်းသည်။ တောင်ပတ်လည် ဝိုင်း၍ ပင်လယ်နှင့်နီးသည်။ ထင်းရှုးပင်များကို စနစ်တကျစိုက်ထားသည်။ ထန်းတောလည်း ပေါသည်။

ထိုမှ ၁၀-နာရီ ထွက်သည်။ လေယာဉ်တက်၍ ၃-မိနစ်ရှိက ပင်လယ်ပေါ်သို့ ရောက်သည်။ ပင်လယ်လှိုင်းကြီးများ တဖွေးဖွေးဖြင့် ကမ်းဘက်သို့ အလုအယက် ဆက်ကာဆက်ကာ ပြေးသွားနေကြသည်ကို ကြည့်ရှုခြင်းဖြင့် လေယာဉ်စီးခရီးသည်တို့၏ စိတ်ကို ရွှင်ပျစေသည်။ ၎င်းနောက် ပင်လယ်ကွေ့ကြီးကို တွေ့ရသည်။ ၎င်းတွေ့ပြီး လေယာဉ်မှ အနောက်ဖက်သို့ ကြည့်လိုက်လျှင် ဂိုဒါဝရီမြစ်ကို မြင်ရသည်။ မြစ်ဝတွင် ရေနောက်သည်။ ပင်လယ်ရေ စိမ်းပြာ၍ ကြည်လင်သည်။ ရေကြည် ရေနောက် မရောစပ်။

၁၁-နာရီတွင် လေယာဉ်မယ်က ပေါင်မုန့် ၄-ချပ်၊ ထောပတ်၊ ချိစ်၊

ခရမ်းချဉ်သီးညှပ် ပေါင်မုန့် ၄–ချပ်၊ ပန်းသီး ၂–လုံး၊ ၄က်ပျောသီး ၂–လုံး၊ လက်ဖက်ရည် အချို ၂–ခွက် လာ၍ ကပ်သည်။ ဤနေ့အဖို့ ဤမျှဖြင့်ပင် ဆွမ်းကိစ္စ ပြီးစီးကြရတော့သည်။

မဒရပ် လေဆိပ်သို့ ၁၂–၂၅ နာရီတွင် ရောက်သည်။ မဒရပ် ကောင်စစ်ဝန် ဦးသန်းမောင်ကိုယ်တိုင် ကားဖြင့် လာရောက်ကြိုဆိုနေပေသည်။ ထိုကားဖြင့် မဟာဗောဓိ အသင်းတိုက်သို့ သွားရောက် တည်းခိုကြသည်။ ၁–၁၅နာရီတွင် ၎င်းတိုက်သို့ ရောက်ကြသည်။

၁၃၁၇–ခု ဒုတိယ ဝါဆိုလဆန်း ၁၀–ရက် သောကြာနေ့ ၁၀–နာရီတွင် ၄က်ပျောသီး ၁–လုံး၊ သရက်သီး ၁–လုံး၊ ပေါင်မုန့် ၂–ချပ်၊ ဘယာကြော် ၂–ခု၊ အာလူးပြုတ်ထောင်းကြော် ၁၊ ကြက်ဥကြော် ၁–လုံး၊ ခရမ်းချဉ်သီးနှင့် ကြက်သွန် သုတ်၊ ဘီစကွတ်မုန့် ၂–ခု၊ လံကာ လေယာဉ်မယ်က ကပ်သည်။ (မြန်မာ, အိန္ဒိယ, သီဟိုဠ်တို့၏ လေယာဉ်ပေါ်၌ ကျွေးသော အစားအစာများမှာ မကွာခြား လှကြပေ။)

၁၂–၄၅ နာရီတွင် သီဟိုဠ်ကျွန်း မြောက်ဖျား ဂျက်မနာ လေဆိပ်သို့ ရောက်သည်။ ၎င်း၏ ဆေးလက်မှတ်ပြ လက်မှတ်ထိုးခြင်း စသည်ပြုလုပ်ပြီး၊ ၁–၃၀နာရီထွက်၍ ကိုလံဘိုမြို့ လေဆိပ်သို့ နေ့ ၂–၄၅နာရီတွင် ရောက်ကြသည်။

လေယာဉ်ကွင်း၌ ပြည်ထဲရေးဝန်ကြီး၊ စားနပ်ရိက္ခာဝန်ကြီးနှင့် အတွင်းဝန်များ၊ မြန်မာသံအမတ်ကြီး ဦးဘလွင်နှင့် ဇနီး ဒေါ်သန်း၊ ဝိပဿနာ ပြန့်ပွားရေး အသင်းသူ အသင်းသားများ၊ သံဃာတော်များက အသင့်ကြိုဆိုနေကြသည်။

လေယာဉ်မှ အဆင်းတွင် ရွှေထီးမိုး၍ လေယာဉ်ရုံးသို့ လာကြရာ၊ ရုပ်ရှင် ရိုက်သူ ရိုက်ကြသည်။ သတင်းထောက်များကလည်း ဓာတ်ပုံရိုက်ကြသည်။ လေယာဉ်ပေါ်၌ စက်သံဖြင့် ဆူညံ၍ လူသံတောင် သဲ့သဲ့ကြားရသော နားနှစ်ဖက်ကို

လေယာဉ်မှ အဆင်း၌လည်း သက်သာခွင့် မပေးဘဲ သီဟိုဠ် အတီးအမှုတ် ဆရာတို့၏ နားကွဲမတတ် တီးကြသော အသံကို နာခံလျက် လေယာဉ်ရုံးသို့ ရောက်လာခဲ့ကြသည်။ ရုံးရိပ်သို့ ရောက်လျှင် ရောက်ချင်း စားနပ်ရိက္ခာဝန်ကြီး ဇေယျဝဒ္ဓနက "ခေတ္တရပ်တော်မူပါဘုရား"ဟု လျှောက်ထား၍ ရပ်လိုက်စဉ်၊ လံကာ ဘုန်းတော်ကြီးများက မြန်မာသာသနာပြု ရဟန်းတော်သုံးပါးကို ဝန်းရံကာ နာရီဝက်ခန့် အသံရှည်ရှည် ဆွဲ၍ ပရိတ်ရွတ်ကြပေတော့သည်။ ထို့နောက် ကိုလံဘို မြို့ မာယာလမ်း ယမုနာခြံ ခေတ္တကျောင်းသို့ အစီအစဉ်အတိုင်း သွားကြသည်။

ည ၆–နာရီတွင် ပူဇော်ကန်တော့ရန် ကိုလံဘို ယူနီဗာစီတီ၊ ကင်းရျော ဟောသို့ ကြွကြသည်။ ၆–၃၀ တွင် လူများက သီလယူ၍ သံဃာတော်များက ပရိတ်ရွတ်ကြသည်။ ထို့နောက် နိုင်ငံခြားဆက်သွယ်ရေး အရာရှိ ဦးသိန်းဟန်က ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရား၏ သန္ဓေသကထာနှင့် ဗုဒ္ဓသာသနာ အဖွဲ့မှစာကို အင်္ဂလိပ်လို ဖတ်ကြားသည်။ နောက် စားနပ်ရိက္ခာဝန်ကြီး ဇေယျဝဒ္ဓန နှင့် ဝန်ကြီးချုပ် ဆာဂျွန်ကောတလာဝလ၊ မြန်မာသံအမတ်ကြီး ဦးဘလွင်တို့က လည်း အသီးအသီး သာသနာနှင့် စပ်သော စကားများကို ပြောကြသည်။ သီဟိုဠ် သာသနာပြု ခေါင်းဆောင် အရှင်သုဓာတကလည်း မြန်မာနှင့်သီဟိုဠ်သာသနာ ဆက်သွယ်လာခဲ့ပုံ၊ ယခုလည်း စားနပ်ရိက္ခာဝန်ကြီး ဇေယျဝဒ္ဓနက မြန်မာနိုင်ငံ ဝန်ကြီးချုပ်ဟောင်း ဦးနုထံသို့ သီဟိုဠ် သာသနာပြုရန် သံဃာတော်များ ပို့ပေး ပါမည့်အကြောင်း တောင်းပန်ချက်အရ၊ ဝန်ကြီးချုပ်ဟောင်း ဦးနုက ကျေးဇူးရှင် မဟာစည်ဆရာတော် ဘုရားထံ "သီဟိုဠ်သို့ ပဋိပတ္တိ သာသနာပြုရန် တပည့် ကမ္မဋ္ဌာနာစရိယ တပါးပါး စေလွှတ်ပါရန်" အတန်တန် တောင်းပန်သည်။

ထိုသို့ တောင်းပန်ချက်အရ၊ မဟာစည်ဆရာတော်ဘုရားက ဘုန်းကြီး ၃–ပါးကို စေလွှတ်လိုက်သဖြင့် ကြွလာကြရပုံကို ပြောပြသည်။ ၎င်းကို ဆရာတော်

ဦးဉာဏဝါသ က ဘာသာပြန် ပြောပြပြီး၊ ၈–၃၀နာရီတွင် အစည်းအဝေး ရုပ်သိမ်းသည်။

၁၃၁၇–ခု ဒုတိယ ဝါဆိုလဆုတ်(၁)ရက် (၄–၈–၅၅) ကြာသပတေးနေ့ညတွင် ကျောင်းအဖြစ် လှူထားသော (ဒကာမကြီး ညီနီစံကာ၏ တိုက်၌ အရှင်သုဓာတ၊ အရှင်ဥတ္တရာဘိဝံသ၊ အရှင်ဇဝန၊ အရှင်ဓာဂရတို့ ဝါဆိုကြသည်။ ဒကာမကြီး နီစံကာတို့ သားအမိတစုက ဝါဆိုသင်္ကန်း ဒွိစုံစီကပ်ကြသည်။

၎င်းဝါဆိုရာ၌ သံအမတ်ကြီး ဦးဘလွင်၊ အမတ်ကတော် ဒေါ်သန်း၊ အတွင်းဝန်များ၊ ဆရာဝန်များနှင့် ပရိသတ် တစ်ရာကျော်ခန့်လာ၍ ကြည်ညိုကြသည်။ ၎င်းပရိသတ်ကို အရှင်သုဓာတက ဝါဆိုရပုံ အကြောင်းတရားနှင့် ဝိပဿနာ အခြေခံတရားကို ဟောတော်မူသည်။

၎င်း လဆုတ် ၂–ရက် သောကြာနေ့တွင် မဇ္ဈောဂေါဒ ရိပ်သာကိုဖွင့်သည်။ မဇ္ဈောဂေါဒ အုန်းခြံကြီးကား ဧကေါးရာရှိ၍ မစွက်ပွန်ဆေကာနှင့် မစွက်ဘာလကာဒိ ညီအမနှစ်ယောက် ပိုင်သည်။ ကိုလံဘို အရှေ့တောင် (၁၂)မိုင်ခန့် ဝေးကွာသည်။

ညနေ (၃)နာရီတွင် ယမုနာ ဝိုင်အမ်ဘီအေ အသင်းတိုက်သို့ ကြွ၍ ၎င်းမှ သံဃာတော်များ၊ အစိုးရ အရာရှိများ၊ အသင်းသူ အသင်းသားများ အစီအစဉ်အတိုင်း ကားပေါင်းများစွာဖြင့် မဇ္ဈောဂေါဒရိပ်သာသို့ သွားကြသည်။ ရိပ်သာမရောက်မီ တမိုင်ကျော်ခရီးမှ စ၍ လမ်း၏ ဝဲ,ယာ နှစ်ဖက်မှ နေ၍ ပရိသတ်ကြီးက ကြိုဆိုနေကြပေသည်။

၎င်းလမ်းတလျှောက်တွင်လည်း ပေ ၁၅၀–လျှင် ပိတ်ဖြင့် ပြုလုပ်ထားသော မုခ်တစ်ခုကျ၊ ဤသို့သော မုခ်ပေါင်း ၅၀ ကျော်မျှ ရှိလေသည်။ လမ်းဘေးနှစ်ဘက်တွင် ကြိုးတန်းလျက် အုန်းရွက်များကို ပန်းသဖွယ် ဆွဲချထားကြသည်။

ကြက်လျှာအောင်လံပန်းတိုင် စသည်တို့ကိုလည်း ဆင်ယင်ထားကြသည်။ ဘေးမှ ပရိသတ်ကြီးကလည်း ဆရာတော်များ သူတို့ရှေ့သို့ ရောက်တိုင်း သာဓုခေါ်ကြသည်။ (၎င်းတို့ခေါ်သော သာဓုသံကို မြန်မာနားဖြင့် ဆားစ် ဆား ဆား ဟု ကြားနေရသည်။)

၅-၁၀ နာရီတွင် ရိပ်သာဖွင့်မည့် ဌာနသို့ ရောက်သည်။ ပိတ်ပြာ၊ ဝါ၊ နီ တို့ဖြင့် ချုပ်လုပ်ထားသော ထီးကြီးအောက်ရှိ အထူးကုလားထိုင်၌ အရှင်သုဇာတ ထိုင်သည်။ ဒေါက်တာဝဇီရဉာဏ ဆရာတော်က ငါးပါးသီလပေးသည်။ နောက် သံဃာတော်များက ပရိတ်ရွတ်ကြသည်။ ထို့နောက် မစ္စက်ပွန်ဆေကာ မိသားတစုတို့က သာသနအောင်လံကို ၅-၃၀ နာရီတွင် တင်ကြသည်။ အရှင်သုဇာတထေရ်က (၄)ပေခန့်မြင့်၍ ကြေးဖြင့် ပြုလုပ်ထားသော မီးစာ ၇-စရှိ ဟင်္သာမီးတိုင်မှ မီးစ ၇-စကို ညှိထွန်းလျက် ကမ္မဋ္ဌာန်း ဌာနသစ်ကို ပထမဆုံး ဖွင့်လှစ်လိုက်သည်။

ထို့နောက် ဝဇီရဉာဏ ဆရာတော်က မိတ်ဆက်စကား ပြောကြားသည်။ ဆက်၍ အရှင်သုဇာတထေရ်က ကျေးဇူးတင်စကားနှင့် ဝိပဿနာအခြေခံတရား၊ တရားရ၍ အကျိုးရှိပုံများကို ဟောသည်။ ၎င်းနောက် ပြည်ထဲရေး အမြဲတမ်း အတွင်းဝန် မစ္စတာ ဘီ၊အက်(ဖ်) ပရဲယားနှင့် ဒေါက်တာ အသောကာ အမျိုးသမီးတို့ စကားပြောကြပြီးလျှင် အစည်းအဝေးကို ရုပ်သိမ်းလိုက်သည်။ (ပရိသတ် ၂၅၀၀-ခန့်ရှိသည်။) ထိုည၌ တရားအားထုတ်သူများမှာ ရဟန်းတော် ၂၂-ပါးနှင့် နီပေါလ်ကျောင်းသား ၁-ယောက်၊ ပေါင်း ၂၃-ဦး ဖြစ်သည်။

ယမုနာအိမ် (ခေတ္တကမ္မဋ္ဌာန်းကျောင်း)၌ ၁၃၁၇-ခု၊ ဒုတိယ ဝါဆိုလဆုတ် ၇-ရက် (၁၀-၈-၅၅)နေ့မှ စ၍ လံကာယောဂီမယ်(၁၄)ယောက် တရားယူ အားထုတ်ကြသည်။ ၎င်းလကွယ်နေ့ (၁၈-၈-၅၅)နေ့တွင် ဝိပဿနာ ပြန့်ပွားရေး

အသင်းမှ ဥပါသကာ(၆၀)၊ ဥပါသိကာ(၁၀)ယောက်၊ ပေါင်း(၇၀)တရားစ၍ အားထုတ်ကြသည်။

၁၃၁၇-ခု၊ ဝါခေါင်လဆန်း ၈-ရက် သောကြာနေ့ (၂၆-၈-၅၅)တိုင်၊ နေ့ ၃-နာရီမှ ၅-နာရီထိ ယမုနာခြံတွင်း၌ သတိပဋ္ဌာန်သုတ္တန် ပါဠိတော်ကို အားထုတ်ပုံနှင့်တကွ အရှင်သုဇာတထေရ်က ဟောသည်။ အဘိဓမ္မာဆရာကြီး အရိယရတန ဒကာကြီးက ဆင်ဟာလီဘာသာဖြင့် ပြန်ဟောသည်။ တနင်္လာနေ့တိုင်း မဇ္ဈေဂေါဒ ကမ္မဋ္ဌာန်းဌာန၌ တရားဟော (တရားပွဲ)ပေးသည်။ တရားနာရသူများ တရားနှင့်ပတ်သက်၍ မရှင်းလင်းသော အချက်များလည်း ရှင်းလင်းပြီးဖြစ်၍ အထူးနှစ်ခြိုက်ကြသည်။ ဤနည်းဖြင့် ယောဂီများ တနေ့တခြား တိုးတက်လာသည်။ တစ်လကြာသော် ယမုနာဌာန၌ ယောဂီတစ်ရာကျော် တိုးတက် အားထုတ်လာကြပေသည်။

ယမုနာကျောင်းအမကြီး ဝတ်လုံကတော် မစ္စက်နိစံကာတို့ သားသမီးတစုကား သဒ္ဓါတရားအလွန်ကောင်းကြပေသည်။ ဆရာတော်များအတွက် တစ်လတစ်ထောင်ကျော် အကုန်ခံ၍ သာသနာတော်ကို အားပေးကြသည်။ မဇ္ဈေဂေါဒ ကမ္မဋ္ဌာန်းဌာန တာဝန်ခံ ခြံရှင် ဆရာဝန်ကတော် မစ္စက်ပွန်ဆေကာကလည်း တစ်လ တစ်ထောင်ကျော် နှစ်ထောင်နီးပါး အကုန်ခံ၍ သံဃာယောဂီ၊ လူယောဂီများအား အရုဏ်ချိန် စားသောက်ဖွယ်များနှင့် ညနေ အဖျော်ရည်များ၊ ညတွင် လျှပ်စစ်မီးများကို ဝါဆိုလဆုတ် ၁-ရက်မှ နတ်တော်လအထိ တစ်ဦးတည်း လှူဒါန်းသည်။

သံအမတ်ကြီး ဦးဘလွင်၏ ဟောပြောချက်အရ ဆရာဖြစ်သင် မြူဆီယတ်စ်ကောလိပ်ကျောင်းမှ ဆရာမလေး (၄၂) ယောက်တို့က တရားအားထုတ်လိုပါသည်၊ တရားပေးတော်မူပါဟု လျှောက်ထားသောကြောင့် ၁၃၁၇-ခု၊ ဝါခေါင်

လဆုတ် ၂-ရက် (၄-၉-၅၅) တနင်္ဂနွေနေ့မှ ၎င်းကောလိပ်ကျောင်းသို့ သွားရောက်၍ အရှင်သုဇာတက တရားပေးသည်။ ၎င်း ဆရာမလောင်းများကို အရှင်ဇဝနက နေ့တိုင်းကြွ၍ တရားစစ်ဆေးပြုပြင်ပေးသည်။

မတ္တေဂေါဒ္ဒ အားထုတ်ကြသော ရဟန်းယောဂီ၊ လူယောဂီများကို အရှင်ဥတ္တရာဘိဝံသထေရ် ကြွ၍ ဟောပြပြုပြင်ပေးသည်။ အရှင်သုဇာတက ယမုနာခြံ၌ အားထုတ်သူများကို ဟောပြပြုပြင်ပေးသည်။ ဝါဆိုလ တရားဌာန ဖွင့်ချိန်မှစ၍ ဝါခေါင်လကုန်ထိ (၃)ဌာနပေါင်း ယောဂီ ၃၀၀ ခန့်ရှိလေသည်။

ယမုနာခြံ၌ ယောဂီများ အမြဲတမ်း နေ့ညအားထုတ်နိုင်အောင် အလယ်မှ စကြံလမ်းနှင့် ဘေးနှစ်ဖက်က အခန်း (၁၈)ခန်းရှိသော တဲကြီး တစ်ဆောင်ကို တီယူဒီဆီးလဝါးနှင့် ဖနီး ဒေါက်တာ အသောကတို့က ကြောင့်ကြစိုက်၍ ဆောက်လုပ်ထားသည်။ ဝါခေါင်လဆုတ် ၅-ရက်(၇-၉-၅၅)တွင် ပြီး၍ ထိုညမှစ၍ မိန်းမယောဂီများ အမြဲတမ်း အားထုတ်ကြသည်။

၎င်းယမုနာ အိမ်ကား မာယာလမ်းမကြီးနှင့် ကပ်နေ၍ နံနက် ၅-နာရီမှ ည ၈-နာရီတိုင် မော်တော်ကားသံတို့ဖြင့် မပြတ် ဆူညံနေချေသည်။ ဤသို့ ဆူညံနေသည့် အတွင်းမှာပင် ယောဂီများမှာ သမာဓိရကြ၍ တရားရအောင် အားထုတ်နိုင်ကြသည်။

သီဟိုဠ်သူ သီဟိုဠ်သားတို့ကား ပွဲလမ်းသဘင် မရှိ၍ စောစော အိပ်ကြသည်။ ည ၈-နာရီဆိုလျှင် ကား အသွားအလာ အလွန်နည်းသွားလေသည်။ ဘိုင်စကုပ်သာ ရှိသည်၊ အငြိမ့်ပွဲ ဇာတ်ပွဲမရှိ။ ဘိုင်စကုပ်ကိုလည်း မြန်မာတို့လောက် မကြည့်ကြပေ။ တရားပွဲ ပရိတ်ပွဲသာရှိ၍ ညလုံးပေါက် ဟောလျှင် ညလုံးပေါက် နာယူကြသည်။ ကလေးသူငယ်များကပင် လူကြီးများလို ရှိသေစွာ တရားနာကြပေသည်။ မြန်မာကလေးများနှင့် ကွာခြားလှသည်။ တရားပွဲမှာ ဆော့ခြင်း၊ ဆူပူခြင်း မရှိသလောက်ပင် ကောင်းစွာ နာယူကြသည်။

## တရားအားထုတ်သောအခါ ဝတ်ဆင်ကြပုံ

တရားအားထုတ်ကြသောအခါ၊ ဥပုသ်စောင့်သော အခါများမှာ ယောဂီများ မိန်းမ ကလေး လူကြီး (သီဟိုဠ်လူမျိုးအားလုံး) အဝတ်ဖြူကို ဝတ်ဆင်ကြသည်။ အမျိုးသမီးများက ဆာရီအဖြူ ဝတ်၍၊ အမျိုးသားများက ပိတ်ဖြူလုံချည်၊ အင်္ကျီဖြူ ဝတ်ဆင်ကြသည်။

## ယောဂီများအား ထမင်းကျွေးပုံ

တရားအားထုတ်သူ ယောဂီမှန်သမျှတို့သည် ထမင်းပန်းကန် တစ်ချပ်နှင့် ဟင်းရည် ပန်းကန်တစ်လုံး ယူခဲ့ကြသည်။ တာဝန်ခံ အသင်းက ယောဂီများအား ကြောင့်ကြစိုက်၍ ကျွေးမွေးသည်။ ထမင်းမကျွေးနိုင်သော ကမ္မဋ္ဌာန်းဌာနသို့ (မကျွေးနိုင်သော နေ့မှ) ယောဂီများ မလာကြတော့ချေ။

သို့ဖြစ်၍ ဆိုင်ရာ အသင်းက ယောဂီများအား ထမင်းကျွေးနိုင်ရန် အထူး ကြောင့်ကြစိုက်ရသည်။ ထမင်းကျွေးပုံမှာ မည်သည့် နေ့ရက်တွင် ယောဂီများ အား ထမင်းကျွေးသူရှိသည်။ မည်သည့် နေ့ရက်တွင် ကျွေးသူ မရှိဟု သတင်းစာ မှ နေ၍ ကြော်ငြာသည်။ ထိုအခါ ကျွေးမည့်သူ ပေါ်ထွက်လာသည်။ မိုင် တစ်ရာကျော် ခရီးဝေးမှပင် လာ၍ ကျွေးကြသည်။ အချို့လည်း ကုန်ကျစရိတ်ကို စာတိုက်မှပို့၍ လှူဒါန်းကြသည်။ ကျွေးမည့်သူ မပေါ်သည့်ရက်မှာ အသင်းက စိုက်ထုတ်၍ ကျွေးရသည်။ ဤသို့ အသင်းက ကျွေးရသည်မှာ နည်းလှသည်။ ကျွေးသည့် အခါမှာ နံနက် ၆-၃၀နာရီတွင် အာပုံ၊ မုန့်တွန်ဆံ၊ စံပေါလယ် (စံပေါလယ်ဆိုသည်မှာ အုန်းသီးမှုန့်၊ ငြုတ်သီး၊ ဆား၊ ရှောက်ရည်တို့ဖြင့် ပြုလုပ် သော သီဟိုဠ်ငါးပိပင် ဖြစ်သည်။) ငှက်ပျောသီး၊ သဘော်သီး၊ ပေါင်မုန့်၊ နို့မပါ သကြားနှင့်သာ ဖျော်သော ကော်ဖီ၊ လက်ဖက်ရည် စသည်တို့ကို ကျွေးသည်။

၉–နာရီ အုန်းရေတိုက်သည်။ ၁၁–နာရီတွင် ထမင်းကျွေးသည်။ ညနေ ၄–နာရီခန့်တွင် ဖျော်ရည်၊ ထမင်းအပြီးတွင် မုန့်မှ တပါး ငှက်ပျောသီး၊ သဘော်သီး၊ နာနတ်သီး တခုခု ပါသည်က များသည်။ လက်ဖက်ရည်နှင့် ကော်ဖီတွင် နို့မထည့်ဘဲ ဖျော်လေ့ရှိကြသည်။ ၎င်းကို နံနက်သာမက ညနေပါ ရဟန်းတော်များရော ဥပုသ်သည်များပါ သောက်ကြသည်။ (ဖျော်ရည်ဟူသတတ်။)

## ယောဂီများ စားသောက်ကြပုံ

အချိန်ကျ၍ သံချောင်း ခေါက်လိုက်၍ ယောဂီရဟန်းများက သပိတ်ပိုက်၍ ရှေ့မှ၊ ယောဂီဒကာများက ပန်းကန်ပြားနှင့် ပန်းကန်လုံးကို ကိုင်၍ နောက်မှ အစဉ်အတိုင်း ရှုမှတ်လျက် လာကြသည်။ ဆွမ်းစားကျောင်း (ဒါနဆာလာ)သို့ ရောက်သောအခါ စီတန်းလျက် တင်ပလ္လင်ခွေပေါ်တွင် သပိတ်ထား၍၊ လူများက ထမင်းပန်းကန်ထား၍ ထိုင်ကြသည်။ နောက် ပန်းကန်ဆေးရန် ရေဖလုံကြီးကို လူတစ်ယောက်က ယူ၍ ရဟန်းထေရ်ကြီးမှစ၍ လူတန်းဆုံးအောင် သွားသည်။ မိမိရှေ့ရောက်လျှင် မိမိပန်းကန်ကို ထုတ်၍ ဆေးရသည်။ နောက် ထမင်းနှင့် ဟင်းကို လူတစ်ယောက်စီ (ဟင်းအမယ်များလျှင် များသလောက် တစ်ယောက်စီ) ယူ၍၊ မထေရ်ကြီးမှစ၍ အစဉ်အတိုင်း ထည့်သွားကြသည်။ ထမင်းပန်းကန်ထဲတွင် အားလုံးပုံထားသည်။ ဟင်းရည်ကို ပန်းကန်လုံးထဲ ထည့်၍ ပန်းကန်စောင်းသောက်ကြသည်။ ဇွန်းမလို၊ စားပွဲခုံ မလို၊ တာဝန်ကျဉ်းလှပေသည်။

စားပြီးကြသောအခါ ရေဖလုံကြီးကို အစဉ်အတိုင်း ယူဆောင်ပေးရပြန်သည်။ မိမိရှေ့ရောက်သော် မိမိပန်းကန်ကို ဆေးကြောလိုက်ကြခြင်းဖြင့် ကိစ္စအားလုံး ပြီးကြတော့သည်။ စားသောက်ပြီးသောအခါ ထမင်းစားလာစဉ်က အတိုင်းပင် အစဉ်အတိုင်း ပြန်ကြသည်။ သီလရှင်နှင့် ဒကာမပိုင်းကလည်း ဤနည်းအတိုင်းပင် သွားကြ စားကြ ပြန်ကြသည်။

## ကမ္မဋ္ဌာန်းဌာန ရွှေ့ခြင်း

ကန္တုဗောဒ ကမ္မဋ္ဌာန်းဌာနကို ၁၃၁၇–ခု၊ တန်ဆောင်မုန်း လပြည့်ကျော်မှ စ၍ ဆောက်လုပ်ရာ၊ နတ်တော်လတွင် ပြီးစီးသည်။ ကမ္မဋ္ဌာနာစရိယဆရာတော်များ နေရန် ရှိရင်းအုတ်တိုက်၊ ယောဂီရဟန်းများက ဒကာများ အားထုတ်ရန် (၁၀)ခန်း တိုက်ခန်းတန်းလျားတစ်ခု၊ ယောဂီ သီလရှင်များနှင့် ဒကာမများ နေရန် အလယ်မှ စင်္ကြံနှင့် တဖက် ၁၀–ခန်းစီရှိသော တိုက်(၁)ခု၊ ဓမ္မာရုံတစ်ခု၊ ဒါန သာလာ ထမင်းကျွေးရုံ(၂)ခု ပြုလုပ်ထားသည်။ လူ (၇၀)လောက် နေသာသည်။

၎င်း ကန္တုဗောဒ ရိပ်သာသို့ မဇ္ဈေဂေါဒ ရိပ်သာမှ ၁၃၁၇–ခု၊ နတ်တော် လဆုတ် ၁၀–ရက် (၈–၁–၅၆)တွင် ပြောင်းရွှေ့သည်။ မဇ္ဈေဂေါဒ ကျောင်းအမကြီး မစွက်ပွန်ဆေကာ၊ ယမုနာ ကျောင်းအမကြီး ဝတ်လုံတော်ရကာတော် မစွက်နိစံကာ တို့နှင့် အသင်းသူ အသင်းသားများ၊ မြန်မာသံအမတ်ကြီး ဦးဘလွင်၊ သီဟိုဠ် အစိုးရအတွင်းဝန်များ၊ (ဝန်ကြီးများက သူတို့ အစည်းအဝေးနှင့် တိုက်ဆိုင်နေ သဖြင့် မလာနိုင်၍ ဝမ်းနည်းကြောင်း လျှောက်ထားကြသည်။) အားလုံး ဝိုင် အမ် ဘီ အေ အသင်းတိုက်၌ စုဝေးကြ၍၊ နေ့ ၂–နာရီတွင် ၎င်းတိုက်မှ ကန္တုဗောဒ ဌာနသို့ အစီအစဉ်အတိုင်း ကားပေါင်းများစွာဖြင့် သွားကြသည်။ (ကိုလံဘိုနှင့် ကန္တုဗောဒကား ၇–မိုင်ခန့်ဝေးသည်။) ၃–နာရီ ရောက်ကြသည်။ ၃–၁၅နာရီတွင် သံအမတ်ကြီး ဦးဘလွင်က သာသနာ့အောင်လံကို တင်သည်။ အရှင်သုဇာတ ထေရ်က မီးစာ ၅–စရှိ ဆီမီးတိုင်ကို ထွန်းညှိသည်၊ ယောဂီမယ်တို့၏ ကမ္မဋ္ဌာန်း တိုက် တံခါးမှ ပိုးကြိုးကို ကတ်ကြေးဖြင့် ကိုက်ဖြတ်လျက် ကမ္မဋ္ဌာန်းဌာနသစ် ဖွင့်တော်မူလိုက်သည်။

ထို့နောက် သံအမတ်ကြီး ဦးဘလွင် သီဟိုဠ်ကျွန်း၌ အမြဲတမ်း ကမ္မဋ္ဌာန်း ဌာနတစ်ခု ပထမဆုံးတည်နိုင်၍ ဝမ်းသာကြောင်း စသည်ဖြင့် နာရီဝက် ပြောသည်။

နောက် အရှင်သုဇာတထေရ်က မိနစ် ၄၀–တရားဟောပြီး ၅–နာရီတွင် ရုပ်သိမ်းလိုက်သည်။ ၎င်းဌာနကား ယနေ့တိုင် ၂၂–နှစ်ရှိ၍ ယောဂီပေါင်း ၂၅၀၀–ခန့် ရှိပေသည်။ နေ့စဉ် ထမင်းကျွေးသည်။

ထိုဌာနကို မြန်မာကမ္မဋ္ဌာန်း ဆရာတော်များက ၎င်းတို့ ကိုယ်စား သီဟိုဠ်ဆရာတော် ဦးသုမတိပါလအား အပ်နှင်းအုပ်ချုပ်စေ၍ တရားပြစေသည်။ ဆရာတော် ဦးသုမတိပါလကား မြန်မာ ရွှေကျင်တိုက်ခွဲ ဝိသုဒ္ဓါရုံဂိုဏ်းဝင် ပုဂ္ဂိုလ်ဖြစ်သည်။ ၎င်းဌာနသည် ကိုလံဘို အရှေ့ ၇–မိုင်ခန့် ဝေးသည်။

၁၃၁၈ ခု၊ နယုန်လဆုတ် ၂–ရက် (၂၅–၆–၅၆)တွင် မတ္တေဂေါဒ အနီးတလဂလ အရပ်၌ ကမ္မဋ္ဌာန်းဌာန အသစ်တစ်ခု ဖွင့်ပြန်သည်။ ၎င်းဌာနကို ရှမ်းဂိုဏ်းဆရာတော်များ အုပ်ချုပ်၍ တရားပြကြသည်။ တစ်ကြိမ် အားထုတ်လျှင် ရဟန်းနှင့် ဒကာများဘက် (၁၀)ဦး၊ ဒကာမများဘက် (၁၄)ယောက်သာ အားထုတ်နိုင်သည်။ ၎င်းဌာန၌ တနင်းလာနေ့ တရားဟောရသည်။ အရှင်သုဇာတထေရ်ကား ကန္ဒုဗောဒဌာန၌ တနင်္ဂနွေ၊ တလဂလ၌ တနင်းလာ၊ ဓနဝုကန္ဒ၌ ဗုဒ္ဓဟူး၊ ယမုနာဒ၌ သောကြာ ဤသို့ ၄ ဌာနတွင် အလှည့်ကျ တရားပြ(ဟောပေး) တော်မူသည်။ အရိယရတနဒကာကြီးက ဘာသာပြန် ပြုလုပ်သည်။ တရားတစ်ပွဲလျှင် ဘာသာပြန်ခ ၁၀ိ ရသည်။ ၎င်းဒကာကြီးကား သူကိုယ်တိုင် စာတတ်မွေ့ကထိက ဖြစ်၍ ဆရာတော်ဟောသော တရားကို အတိအကျ ဘာသာပြန်နိုင်သည်။ ၎င်းဌာနသည် ကိုလံဘိုမှ အရှေ့တောင် ၂၂–မိုင်ဝေးသည်။ သီဟိုဠ်ကျွန်း၌ အမြဲတမ်း ၁၂ ဌာနလောက်ရှိ၍ ယာယီဌာန ၁၇–ဌာနလောက် ရှိသည်။ ၁၃၂၅–ခု၊ နတ်တော်လထိ ယောဂီပေါင်း ၅၀၀၀–ခန့် ရှိပေသည်။ အမြဲတမ်းဌာန နည်းနေခြင်းမှာ အမြဲတမ်း ထမင်းမကျွေးနိုင်သောကြောင့် ဖြစ်သည်။

## ဂိုဏ်းနှင့်ဇာတ်

တရား အားထုတ်ကြရာ၌ ဂိုဏ်းနှင့်ဇာတ် ရောနေသည်။ သီဟိုဠ်ကျွန်း ရဟန်းတော်များမှာ ၁–ရှမ်းဂိုဏ်း၊ ၂–အမရပူရဂိုဏ်း၊ ၃–ရာမညဂိုဏ်းဟု မူလ ဂိုဏ်းမကြီး (၃)ဂိုဏ်းရှိသည်။ ၎င်းမှ ဇာတ်နှင့် အနေအထိုင် လိုက်၍ ဂိုဏ်းပေါင်း (၄၀)ကျော်ထိအောင် ကွဲနေကြသည်ဟု သိရသည်။

မည်သည့်ဂိုဏ်းမှ မဆို တရားအားထုတ်လို၍ ဆရာတော်များထံသို့ ရောက်လာကြလျှင် အတူတကွ နေထိုင်စားသောက် အားထုတ်ကြလေသည်။ မတ္တေဂေါဒ ကမ္မဋ္ဌာန်းဌာနမှ ကန္ဒုဗောဒဌာနတိုင်အောင် ၁၃၂၅–ခု၊ နတ်တော်လ ထိ ရဟန်းတော်ပေါင်း ၃၀၀–ခန့် တရားအားထုတ်လာကြသည်။ ၎င်းရဟန်း တော်များသည် ဂိုဏ်းပေါင်းစုံမျှ ဖြစ်ကြသော်လည်း အတူတကွ စားသောက် နေထိုင် အားထုတ်ကြသည်။

## လူပုဂ္ဂိုလ် ဇာတ်နိမ့် ဇာတ်မြင့်

လူများမှာလည်း ဗန္ဒာရ–အမတ်မျိုး၊ ဂေါယိဂါမ–လယ်သမားမျိုးစသည် ဖြင့် အမျိုး ဇာတ်ပေါင်း (၃၀)ကျော် ရှိသည်။ ၎င်းတို့သည် အခြေအနေ ကွဲကြ သော်လည်း တရားဌာနသို့ ရောက်၍ တရား အားထုတ်ကြသောအခါ ကွဲပြားခြင်း မရှိ၊ အတူတကွ စားသောက်နေထိုင် အားထုတ်ကြသည်။

သီဟိုဠ် ရဟန်းတော်များ ဂိုဏ်းကွဲပုံနှင့် လူများ ဇာတ်နိမ့် ဇာတ်မြင့် အကြောင်းအရာများကို သီဟိုဠ် လင်းရောင်ခြည် (အရှင်ဇာဂရဗုဒ္ဓိရေး) စာအုပ်၌ ကြည့်နိုင်ပါသည်။ သီဟိုဠ်အကြောင်း ကောင်းစွာ သိရပါလိမ့်မည်။

## ကမ္မဋ္ဌာန်းဌာနများ ဖွင့်ခြင်း

ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရား၏ ဘုန်းတော် ဂုဏ်တော်ကြောင့် လည်းကောင်း၊ အရှင်သုဇာတထေရ်၏ ဟောပြောမှု၊ ဒကာကြီးအရိယရတန၏ ဘာသာပြန်မှုကြောင့် လည်းကောင်း၊ အရှင်ဥတ္တရာဘိဝံသထေရ်နှင့် အရှင်ဇဝန တို့၏ တရားပြသမှုကြောင့် လည်းကောင်း၊ ဆရာတော် ဘုရားကြီး ဦးသုမတိပါလ ၏ ဟောပြောမှုကြောင့် လည်းကောင်း၊ သံအမတ်ကြီး ဦးဘလွင်၏ နှိုးဆော် ဟောပြောမှုကြောင့် လည်းကောင်း၊ ဝန်ကြီးချုပ်ဟောင်း ဦးနုနှင့် ကမ္ဘာအေး ဗုဒ္ဓသာသနကောင်စီ၏ အရှိန်အဝါကြောင့်လည်းကောင်း မြတ်စွာဘုရား၏ ပဋိပတ္တိ သာသနာတော်သည် နေရောင်အလား သီဟိုဠ်ကျွန်း၌ ထင်ရှား ထွန်းတောက်လာပေသည်။

ထို့ကြောင့် ကန္တီဗောဒ ကမ္မဋ္ဌာန်း ဌာနမှ တရားအားထုတ်၍ ပြန်ကြကြသော ရဟန်းတော်တို့သည် မိမိတို့ကျောင်းတိုက်၌ လည်းကောင်း၊ သဒ္ဓါတရားနှင့် ပြည့်စုံ၍ ပစ္စည်းနိုင်လုံကြသော ဒကာ ဒကာမတို့၏ ခြံများ၌လည်းကောင်း ကမ္မဋ္ဌာန်း ဌာနသစ်များ ဖွင့်လှစ်ရန် လိုလားကြပေသည်။

သို့ဖြစ်၍ ၎င်းတို့၏ လျှောက်ထားချက်အရ ဆရာတော်တို့နှင့် သံအမတ်ကြီး ဦးဘလွင်တို့သည် ဌာနသစ်များကို အောက်ပါအတိုင်း ဖွင့်လှစ်ပေးလိုက်ကြပေ သည်။

၁၃၁၈–ခု၊ ဝါခေါင်လဆုတ် ၂–ရက် (၂၃–၈–၅၆) ကြာသပတေးနေ့တွင် ကိုလံဘိုမှ မိုင်–၁၀၀၊ ကန္ဒီမှ ၂၈–မိုင် ဝေးသော အရဟတ္တုံဂေါဒ (တောင်ပေါ်ဌာန) ကမ္မဋ္ဌာန်းဌာနကို ဖွင့်လှစ်သည်။ ၎င်းဌာနကား မေမြို့လို အေးလှ၏။ ရေပေါ၏။ တောင်ပေါ်မှ စီးဆင်းသောရေကို လိုရာသို့ ရေတံလျှောက်ဖြင့် သွယ်ယူ၍ အသုံးချ နိုင်၏။ ၎င်းဌာနကို ရာမညဂိုဏ်း ဆရာတော်တစ်ပါးက အုပ်ချုပ်၍ တရားပြသည်။

၁၃၁၈-ခု၊ တော်သလင်းလဆုတ် ၃-ရက် (၂၂-၉-၅၆) စနေနေ့တွင် ကိုလံဘို အရှေ့တောင် ၉၁-မိုင် ဝေးသော ဘလန်ဂေါဒ အနန္တမေတ္တေယျ ဆရာတော်ဘုရားကြီးကျောင်း၌ ကမ္မဋ္ဌာန်း ဌာနသစ် ဖွင့်သည်။ ပရိသတ် ၅၀၀၀-ခန့် ရှိ၍ စည်ကားလှသည်။ ၎င်းဌာနကား တောင်ကုန်းပေါ်မှာ ဘုရားကျောင်းနှင့် ဓမ္မာရုံ၊ တစ်ဖက်ဆောင်းမှ စာသင်တိုက်၊ တစ်ဖက်ဆောင်းမှ ကမ္မဋ္ဌာန်းကျောင်းတိုက် ပြုလုပ်ထားသည်၊ နေရာကျယ်ဝန်းသည်။ ရေရှားသည်၊ မိုးနည်းသည်။ ထို ဆရာတော်ဘုရားကြီးသည် အမရပူရဂိုဏ်းမှ ခေါင်းဆောင် ပညာစုံတတ်သော ဆရာတော်တစ်ပါးဖြစ်သည်။ ထိုဌာနမှ ၄-၅ မိုင်ခန့် ဝေးမည်ဟု ခန့်မှန်းရသော နေရာ တောင်ထိပ်တစ်ခုပေါ်၌ ဘိုးတော်ဦးဝိုင်း လက်ထက် မောင်းထောင် သာသနာပိုင်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းခံသွားပြီး အမရပူရဂိုဏ်းကြီးကို ပထမဆုံး တည်ထောင်သည့် ဆရာတော်ကြီး၏ ကျောင်းရှိသည်။ ၎င်းကျောင်းမှာ မြေညက် ဖြင့် ဆောက်လုပ်၍ အမိုးက ဝါးဆစ်ခြမ်းပုံ အုတ်ကြွပ်ကို မိုးထားသည်။ ယနေ့ထိ နှစ်ပေါင်း ၁၇၀-ခန့်ရှိပေပြီ။ မြေကျောင်းပင် ဖြစ်သော်လည်း လူမပြတ်နေ၍ ပြုပြင်ထားသဖြင့် ဤမျှကြာအောင် တည်ရှိနေခြင်း ဖြစ်ပေသည်။ နောင်လည်း မည်မျှကြာအောင် တည်ရှိနေမည် မသိနိုင်ပေ။ ၎င်းကျောင်း ပတ်ဝန်းကျင် တောင်ပေါ် တောင်စောင်း တောင်အောက်တို့၌ လက်ဖက်ပင်များ စိုက်လျက် လဘက်ခြံကြီးများ၊ လက်ဘက်စက်ကြီးများ ရှိကြသည်။ မိုးမှန်မှန် ရွာ၍ အနန္တ မေတ္တေယျ ဆရာတော်ကြီး နေရာထက် စိုပြေသည်။ တောင်ထိပ်မှာပင် ရေမရှားပေ။

၁၃၁၈-ခု၊ တော်သလင်းလကွယ် (၄-၁၀-၅၆) ကြာသပတေးနေ့တွင် မက်လဂလ တောကျောင်းကို ကမ္မဋ္ဌာန်းဌာန ပြုလုပ်ဖွင့်လှစ်ရန် သံအမတ်ကြီး ဦးဘလွင်နှင့် ဆရာတော်တို့ သွားကြသည်။ နေ့ဆွမ်းစားပြီး ဌာနဖွင့်လှစ်သည်။ မိုးတဖွဲဖွဲရွာနေ၍ ပရိသတ် ၅၀၀-ခန့် ယောက်သာ ရှိသည်။ သံအမတ်ကြီးက

ရှေးဦး စကားပြောသည်။ ဆရာတော်က ၎င်းနောက်မှ တရားဟောရသည်။ ၎င်းဌာန၏ ပတ်ဝန်းကျင်မှာလည်း လက်ဖက်ခြံတို့ဖြင့် စိုပြေလှသည်။ ကိုလံဘို အရှေ့မြောက် မိုင် ၆၀–ခန့်ဝေးသည်။ ထိုဌာနကို ရှမ်းဂိုဏ်းမှ အနေအထိုင် ကောင်းကြသော ဘုန်းတော်ကြီးများပိုင်၍ ၎င်းတို့ပင် တရားပြသကြသည်။

၁၃၁၈–ခု၊ သီတင်းကျွတ်လဆုတ် ၂–ရက် (၂၁–၁၀–၅၆) တနင်္ဂနွေနေ့တွင် ကိုလံဘို အရှေ့မြောက် မိုင် ၂၀–ကျော် ဝေးသော မိနုဝံဂေါဒ မြို့ဖျားကျောင်း၌ ကမ္မဋ္ဌာန်း ဌာနတစ်ခု ဖွင့်လှစ်ပေးရသည်။ ၎င်းဌာနကား တစ်ခါအားထုတ်လျှင် ယောဂီ ၁၀–ယောက်ခန့်သာ နေထိုင်နိုင်သည်။ နေရာနှင့် ကျွေးမွေးမှုတာဝန် အားနည်းသည်။ ၎င်းကျောင်းကား ရာမညကျောင်းဖြစ်သည်။

၁၃၁၈–ခု၊ တန်ဆောင်မုန်းလဆန်း ၁၁–ရက် (၁၃–၁၁–၅၆) အင်္ဂါနေ့တွင် အနုရာဓမြို့၌ ကမ္မဋ္ဌာန်းဌာနတစ်ခု ဖွင့်သည်။ ၎င်းမြို့မှာ ကိုလံဘိုမြောက် မိုင် ၁၃၀–ကျော် ဝေးသည်။ ကိုလံဘိုမြို့မှ သံအမတ်ကြီး ဦးဘလွင်နှင့် ဆရာတော် ၃–ပါး၊ ဘာသာပြန် ဒကာကြီး အရိယရတနတို့ သံအမတ်ကြီး၏ကားဖြင့် နံနက် ၆–နာရီ ၁၅–မိနစ်ထွက်၍ ၈–၃၀ နာရီ ပေါတလန်သို့ရောက်သည်။ ၎င်းမြို့ ဟော်တယ်၌ နာရီဝက်ရပ်နား၍ စားသောက်ကြသည်။ ၎င်းမှ ၉–နာရီထွက်၍ အနုရာဓမြို့သို့ ၁၀–နာရီရောက်သည်။ ၁၁–နာရီ ဆွမ်းစားပြီး ၁–၃၀နာရီတွင် ကမ္မဋ္ဌာန်းဌာနသစ် ဖွင့်သည်။ သံအမတ်ကြီး ဦးဘလွင်နှင့် ယောဂီထောက်ပံ့ရေး အသင်းမှ ဥက္ကဋ္ဌတို့ စကားပြောကြသည်။ နောက် အရှင်သုဓာတထေရ်က တရားဟောသည်။ ၄–၃၀ နာရီတွင် ကိုလံဘိုသို့ ဆရာတော်များ ပြန်ကြွခဲ့ကြ သည်။

မြန်မာဆရာတော်များ မြန်မာနိုင်ငံသို့ ပြန်ကြွကြသောအခါတွင် ကန္ဒဗောဒ ကမ္မဋ္ဌာန်းဌာနကို အုပ်ချုပ်ပြသရန် လွှဲအပ်ထားခဲ့သော သီဟိုဠ် ဆရာတော်ကြီး

ဦးသုမတိပါလ ကြွရောက်ဖွင့်လှစ်သည့် ကမ္မဋ္ဌာန်းဌာနများမှာ –

၁–မိရဿ၊ ၂–ပေါလ်ဂဒ်ဩဝိဋ္ဌ၊ ၃–ဟဗုရုဂလ၊ ၄–နူဝရ၊ ၅–မာတရ တို့ ဖြစ်ကြသည်။

**ယာယီဌာနများ**

၁–အမ္ပိတိယ။ ၂–ဒနဝုကန္ဒ။ ၃–ဂမ္ပဟ ဝိုင် အမ် ဘီ အေ။ ၄–ဂေါဒဂေဒရ။ ၅–ကေသုဝိလိဂါမ။ ၆–မာသာဂေါဒ။ ၇–မဟာရ။ ၈–မရာကာဒုဝ။ ၉–ဝိသုဒ္ဓါရာမယ။ ၁၀–ဥဒုသုသီရိပိတိယ။ ၁၁–ဝေလိခေါ။ ၁၂–မဏ္ဍေဂေါဒ။ ၁၃–ယမုနာ။ ၁၄–မြူဆီယတ်စ်ကောလိပ်။ ၁၅–အနူဋ္ဌာဝိဇ္ဇာလယကျောင်း။ ၁၆–ကိုလံဘို ဝိုင် အမ် ဘီ အေ။ ၁၇–ကောတာဝ။ ၎င်းဌာနတို့မှာ ၁–ပတ်မှ ၃–ပတ်အထိ တရားပြသရသော ဌာနတို့ ဖြစ်သည်။ မဏ္ဍေဂေါဒ၌ ၅–လခန့်ကြာ၍ ယမုနာ ဌာနမှာ ၂ ဝါ ကြာအောင်ပင် တရားပြသရပါသည်။ ဒနဝုကန္ဒာဌာနနှင့် ကောတာဝ ဌာနတို့၌လည်း ၂ ဝါစီပင် ကြာသည်။

ကိုလံဘိုမြို့ပေါ်၌ အမြဲတမ်း ပဓာနဘာဝနာ မဏ္ဍဌာန ရှိသင့်သည်ဟု ဆရာတော်၏ ဟောပြောချက်အရ၊ ဝတ်လုံကတော် မစ္စက် ဩဒိနိစ်ကာက "တပည့်တော်၏ အိမ်ကြီးကို ဆရာတော်အား လှူဒါန်းပါသည်။ ဆရာတော် သဘောရှိသလို သာသနာပြုတော်မူပါ"ဟု လျှောက်ထားသည်။ ဆရာတော်က လမ်းနှင့် နီးကပ်ခြင်း၊ နေရာလည်း ကျဉ်းခြင်းတို့ကြောင့် အလှူခံတော် မမူပေ။ သို့ကြောင့် ကိုလံဘိုမြို့ပေါ်၌ နေရာတစ်ခုရရှိရန် အစိုးရထံသို့ ဝိပဿနာဘာဝနာ ပြန့်ပွားရေး အသင်းက တောင်းဆိုသည်။ ကောတလာဝလ အစိုးရ လက်ထက်က တောင်း၍ မရခဲ့။ ဗဏ္ဍာရနာယက အစိုးရ တက်လာမှ ရပေသည်။ နေရာမှာ အင်္ဂလိပ်သံရုံးအနီး မကာတီလမ်းဘေး တစ်ဧကရှိ၍ အလွန်သင့်လျော်သော

နေရာဖြစ်ပေသည်။ ထိုနေရာ၌ ၁၃၁၈ ခု၊ သီတင်းကျွတ်လဆန်း ၂-ရက် (၆-၁၀-၅၆)တွင် ဝန်ကြီးချုပ်ကိုယ်တိုင် အုတ်မြစ်ချသည်။ ထိုအဆောက်အဦကြီး မပြီးခင်ပင် ဆရာတော်များ မြန်မာနိုင်ငံသို့ ပြန်ကြွခဲ့ကြသည်။

## သီဟိုဠ်မှ မြန်မာနိုင်ငံသို့

၁၃၁၈ ခု၊ တန်ဆောင်မုန်း လဆန်း ၈-ရက် (၁၂-၁၁-၅၆) တွင် ဆေးထိုးကြသည်။ ၁၃၁၈-ခု၊ တန်ဆောင်မုန်း လဆုတ် ၁-ရက် (၁၈-၁၁-၅၆)တွင် သံအမတ်ကြီး ကားဖြင့် ယမုနာမှ သင်္ဘောဆိပ်သို့ အရှင်သုဇာတ၊ အရှင်ဥတ္တရာဘိဝံသတို့ ဆင်းကြသည်။ ညနေ ၅-နာရီတွင် ဒါဘီရှိုင်းယား Derbyshire သင်္ဘောပေါ်သို့ လိုက်ပို့သူများပါ တက်ကြသည်။ သင်္ဘောကလေးဖြင့် တဆင့်ကူးရသည်။ သင်္ဘောပေါ်သို့ ရောက်လျှင် သတင်းထောက်များက ဓာတ်ပုံရိုက်ကြသည်။ လိုက်ပို့ကြသော ယောဂီများသည် ၆-၃၀ နာရီတွင် ကန်တော့ကာ ပြန်ဆင်းကြသည်။

ကိုလံဘိုသင်္ဘောဆိပ်မှ နံနက် ၉-၃၀ နာရီတွင် သင်္ဘော ထွက်ခွာသည်။ နေ့ ၂-နာရီ ဂါလ် Galle နှင့် တည့်တည့်သို့ ရောက်သည်။ ည ၈-နာရီမှ ကျွန်းစွန်းကို လွန်သည်။ သီဟိုဠ်ကျွန်းအနီး ပင်လယ်ရေသည် စိမ်းလဲ့လဲ့နေသည်။ ၎င်းမှ လွန်၍ ကမ်းမမြင်ရသော နေရာမှာကား အပြာရောင် ဖြစ်နေသည်။ သင်္ဘောသွားနေသည့် ဘေးဘက်မှ ၃-ပေမှ ၅-ပေခန့်ထိ ရှိသော ငါးကြီးများ အုပ်လိုက် (ခုန်လိုက်၊ ပေါ်လိုက်၊ ငုပ်လိုက်)ဖြင့် ပျော်မြူးနေကြသည်ကို တခါတခါ မြင်ရသည်။ ၆-လက်မခန့်မှ တစ်ပေခန့်ရှိ ငါးပျံများကလည်း သင်္ဘောဦးဆီမှ ပေ ၁၀၀-၂၀၀-၃၀၀ ခန့်ထိ ပျံသန်းကြသည်။ လှိုင်းလုံးကြီးများအတွင်း ပျံကျကာ ကွယ်ပျောက်သွားကြသည်။ ထိုနေ့တွင်အနည်းငယ်သင်္ဘောမူးသလို ရိပ်တိတ်တိတ် နေသည်။ အချို့မှာ သင်္ဘောမူးလွန်း၍ အိပ်ရာမှ မထနိုင်၊ မစားနိုင်ကြပေ။

တန်ဆောင်မုန်း လဆုတ် ၃-ရက် (၂၀-၁၁-၅၆)တွင် ကမ်းမမြင် လမ်းမမြင် ပင်လယ်ရေပြာပေါ်၌ သင်္ဘောခုတ်မောင်းနေချေပြီ။ အရှေ့ပင်လယ်ပြင်မှ နေထွက်၍ အနောက်ပင်လယ်ပြင်ထဲသို့ နေဝင်သွားသည်ကို တွေ့ရသည်။ ငါးပျံများကိုလည်း တွေ့ရသည်။ ငါးအုပ်ကြီးများကို မတွေ့မြင့်ရတော့ချေ။

စားဖွယ် သောက်ဖွယ် များကိုလည်း ထုံးစံအတိုင်း သူ့အချိန်နှင့်သူ ကျွေးသည်။ သင်္ဘော မမူးသဖြင့် အစားမပျက်ပေ။ ၎င်းလဆုတ် ၄ ရက် (၂၁-၁၁-၅၆)တွင် ကမ်း မမြင်ရသေး၊ အစားသောက်ကိုလည်း နေ့တိုင်းကဲ့သို့ ကျွေးသည်။ ဟင်းပြောင်းလဲရုံသာ ထူးခြားသည်။

နံနက် ၅-နာရီခွဲ ၆-နာရီကျလျှင် အိပ်ခန်းတွင်းသို့ ကော်ဖီ၊ သစ်သီး ပို့လာသည်။ ၎င်းပို့လာသော ကုလားကား ၁၅ ပြား၊ ၂၀ ပြား စသည် ဆုချလိုက်လျှင် မုန့်နှင့်သစ်သီးကပိုမို ယူလာတတ်သည်။ ဖိနပ်ကိုလည်း တိုက်ပေးသေးသည်။ ဆရာတော်တို့ကား ပိုက်ဆံမကိုင်၊ ပါလည်း မပါသဖြင့် ဆုမချနိုင်သောကြောင့် မုန့်နှစ်ခု၊ သစ်သီးတစ်လုံးထက် မပိုနိုင်၊ ဖိနပ်တိုက်ဖို့ကား ဝေးလေစွ။ နံနက်စာနှင့် နေ့စာကိုမူ ထမင်းစားခန်းသို့ သွား၍ စားရသဖြင့် လူများနှင့် မထူးလှပေ။ ထိုနေ့မှာ မြောက်လေ ပြင်းပြင်းတိုက်၍ လူများ ကုန်းပတ်ပေါ်သို့ အထွက်နည်းကြသည်။ အခန်းတွင်းမှာပင် အနေများကြသည်။ လေတိုက်သော်လည်း သင်္ဘောငြိမ်သက်သဖြင့် အနေအစားမပျက်ကြ။ ထိုနေ့တွင်လည်း အရပ် ၈ မျက်နှာ ပင်လယ်ရေပြာမှလွဲ၍ အခြားဘာကိုမျှ မမြင်ရသေး။ ငါးပျံကလေးများကိုတော့ တခါတခါ သင်္ဘောဦးဆီမှ လန့်ပျံကြသည်ကို တွေ့မြင်ရသည်။

တန်ဆောင်မုန်း လဆုတ် ၅ ရက် (၂၂-၁၁-၅၆) နံနက် ၅ နာရီ ၃၀ မိနစ် အချိန် အလင်းရောင်ပေါ်သည်မှစ၍ ကပ္ပလီကျွန်းဆီမှ တောင်နှင့် သစ်ပင်များကို

၇-၃၀ နာရီထိ မြင်ရသည်။ မြန်မာပိုင် စားပွဲကျွန်းစုကို နံနက် ၈-၁၅နာရီမှ ၁၁ နာရီထိ မြင်ရသည်။ ကျွန်း ၅ ကျွန်း တွေ့မြင်ရသည်။ သင်္ဘောခရီးသည်များသည် ၂-ရက်လုံးလုံး မြေနှင့် သစ်ပင်ကို မတွေ့ရဘဲ အပြာရောင် ပင်လယ်ရေကိုသာ တွေ့မြင်နေကြရဖြင့် ပျင်းရိ အားငယ်နေကြရာ၊ ၎င်းကျွန်းများကို တွေ့မြင်ကြရသောအခါ ပျော်ရွှင် အားတက်လာကြသည်။ အိပ်ရာမှ ဦးအောင်ထ၍ ထိုကျွန်းများကို မြင်သူတို့၏ "ဟော့ ဟိုမှာ ကျွန်းတစ်ကျွန်း တွေ့ပဟော့၊ ဟော ဟိုဟာက တောင်ကြီးဘဲ၊ ဒါဟာ အန်ဒမန်ခေါ်တဲ့ ကပ္ပလီကျွန်းဘဲ"ဟု ပြောဆိုကြသံကို ကြားရ၏။

ထိုအသံကို ကြားသူများလည်း အခန်းတွင်းမှ ကုန်းပတ်ပေါ်သို့ တက်ကြပြီးလျှင် သူ့ထက်ငါ ဝမ်းသာအားရ ကြည့်ရှုကြလေသည်။ မှန်ပြောင်းဖြင့် မျှော်ကြည့်က သစ်ပင်, အုန်းပင်များကို ခြားနားစွာ မြင်ရပေသည်။ မီးပြတိုင်ကြီးများကိုလည်း မြင်ရသည်။ ၁၁ နာရီ ကျော်သော် ဘာကိုမျှ မမြင်ရတော့ဘဲ ပင်လယ်ရေပြင်ကိုသာ တွေ့မြင်ရတော့သည်။

ည ၇-နာရီတွင် သင်္ဘော၏ မြောက်ဖက်ဆီမှ မီးတစ်ပွင့်ကို မြင်ရသည်။ ပုသိမ်မီးပြတိုင်မှ မီးဟု ပြောကြသည်။ ၎င်းမီးပြတိုင်အပြင် အခြားမီးပြ ၁၇-ခု ရှိသေးကြောင်းကိုလည်း သိရသည်။ နံနက် ၄-နာရီတွင် မြန်မာပင်လယ်ဝသို့ ရောက်သည်။ ရေလည်း နောက်ကျူလာပြီ။ ရန်ကုန်မြစ်ရေအတိုင်းပင်။ ရွှေတိဂုံစေတီတော်မြတ်ကို မီးရောင်များ ဝေဝေဆာဆာနှင့် ကြည်ညိုဖွယ်ရာ ဖူးတွေ့ရပေသည်။ "တို့တိုင်း တို့ပြည် တို့ဌာနီ ရောက်ပြီဟ"ဟု မြန်မာများမှာ ဝမ်းသာအားရ ရှိလာကြလေသည်။

၁၃၁၈-ခု၊ တန်ဆောင်မုန်း လဆုတ် ၆-ရက် (၂၃-၁၁-၅၆) သောကြာနေ့ နံနက် ၄-နာရီ ပင်လယ်ဝ ရောက်သည်။ နံနက် ၇-နာရီ ရန်ကုန် ဆိပ်ကမ်းသို့

ဆိုက်ကပ်သည်။ ၈–နာရီတွင် သင်္ဘောပေါ်မှ ဆင်းကြသည်။ ဆိပ်ခံဘောပေါ်မှ ကြိုဆိုနေကြသော သာသနာ့ရိပ်သာမှ သံဃာတော်များ၊ ယောဂီများလည်း သင်္ဘောကြီးပေါ်သို့ တက်ကြည့်ကြသည်။ သင်္ဘောဆိပ်မှ ၉–၁၅ နာရီတွင် သာသနာ့ရိပ်သာကျောင်းသို့ ရှေးရှု ထွက်ခွာလာခဲ့ကြသည်။

## ဒုတိယအကြိမ် သီဟိုဠ်ကျွန်းသို့

၁၃၁၈–ခု၊ သီတင်းကျွတ်လဆန်း ၂–ရက် (၆–၁၀–၅၆) တနင်္ဂနွေနေ့ ၁၂–၄၅ နာရီတွင် ဝန်ကြီးချုပ်ဗန္ဒရနာယက အုတ်မြစ်ချ၍တည်ဆောက်ခဲ့သော ၂–သိန်းတန် တရားတိုက် (၁)ခုနှင့် ယောဂီများနေရန် ၂–သောင်းတန်တိုက် (၂)ခု ပြီးပါပြီ။ ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရား၊ အရှင်သုဇာတထေရ်နှင့် နောက်ပါ ရဟန်းတစ်ပါး၊ ပေါင်း (၃)ပါး ကြွတော်မူပါဟု လင်္ကာအသင်းက ပင့်လျှောက်စာ ရောက်လာသည်။ ၎င်းစာအရ အိန္ဒိယမှ ဘုရားဖူးလှည့်လည်ပြီး သီဟိုဠ်သို့ကြွရန် မဟာစည်ဆရာတော်ဘုရား ဆုံးဖြတ်တော်မူသည်။

၁၃၂၀–ပြည့်၊ နတ်တော်လဆုတ် ၁၃ ရက် (၆–၁–၅၉) အင်္ဂါနေ့ နံနက် ၇–၅၀ နာရီတွင် သာသနာ့ရိပ်သာမှ ကျေးဇူးရှင် မဟာစည်ဆရာတော်၊ အရှင်သုဇာတ၊ အရှင်နန္ဒဝံသ၊ အရှင်အာလောက၊ အရှင်ပဏ္ဍိတ၊ ပဲခူးရိပ်သာ ဆရာတော် ဦးပညာဝါနှင့် ကပ္ပိယ ဒကာ၊ ဒကာမများပါ မင်္ဂလာဒုံသို့ ကားဖြင့် သွားကြသည်။ ၈–၁၅ နာရီတွင် မင်္ဂလာဒုံရောက်၊ ပစ္စည်းများ ချိန်တွယ်ပြီး ၁၀–၃၀ နာရီတွင် ယူဘီအေ ဗိုင်းကောင့် လေယာဉ်ဖြင့် ကလကတ္တားသို့ ရှေးရှုထွက်သည်။ ထွက်၍ ၂၅–မိနစ် ကြာလျှင် အနောက်ရိုးမတောင်ပေါ် ရောက်သည်။ တောင်ဖက်ဆီမှ ပင်လယ်ပြင်ကြီးကို တွေ့ရသည်။ ၁၁–နာရီတွင် ထုံးစံအတိုင်း နေ့စာကျွေးသည်။ မိနစ်–၃၀ ကြာလျှင် စားသောက် ပြီးစီးသည်။

လေယာဉ်မှာ ပင်လယ်ပေါ် ပေ ၁၈၅၀၀ အမြင့်မှ ပျံနေရာ ပင်လယ်လှိုင်းများကို မှုန်မှုန်သာ မြင်ရသည်။ ပင်လယ်ပေါ်မှ ပျံနေခိုက် လေတိုက်ပုံ ညီမျှ၍ လေယာဉ်ငြိမ်သက်သည်။ တောင်ပေါ်မှ ပျံနေခိုက်တွင်ကား လေလှိုင်းလေဝဲများနှင့် တွေ့တတ်၍ လေယာဉ် လှုပ်ရှားတတ်သည်။ ၁–၃၅ နာရီတွင် ကလကတ္တား၊ ဒန်ဒန် လေဆိပ်သို့ ရောက်သည်။ (ရန်ကုန် ကလကတ္တားသို့ ဗိုင်းကောင့် လေယာဉ်ဖြင့် ၂–၄၀ နာရီကြာ ပျံသန်းရသည်။)

ကလကတ္တား ကောင်စစ်ဝန်ရုံးမှ အရာရှိများ အသင့် ကြိုဆိုလာသော ကားဖြင့် မြန်မာ ဓမ္မသာလာသို့သွား၍ တည်းခိုကြသည်။

နောက်တနေ့ (၇–၁–၅၉)တွင် ဘင်္ဂါလီ ဗုဒ္ဓဘာသာကျောင်းမှ ဆွမ်းစားပင့်၍ ၉–၃၀ နာရီ ကြွကြသည်။ ဟင်းများမှာ မြန်မာဟင်းမျိုးဖြစ်၍၊ ကျွေးပုံမှာ သီဟိုဠ်နည်းတူ တပါးချင်း တန်းစီကျွေးသည်။

နေ့ ၁၂–နာရီတွင် ပြတိုက်နှင့် ဝိတိုရိယ အဆောက်အဦကို သွားရောက်ကြည့်ကြသည်။ ပြတိုက်တွင်ကား ရှေးဟောင်းပစ္စည်း အသုံးအဆောင်၊ အဝတ်အထည်၊ အဆာသွတ် ကုန်းသတ္တဝါများ၊ ငှက်များ၊ ရေသတ္တဝါများ၊ သတ္တုများစသည် အတော်စုံပေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၄၀၀၀ ကျော်က ဆေးစိမ်ထားသော လူသေအလောင်းမှာ ၅–ပေ ၄–လက်မခန့်ရှိသည်ကို တွေ့ရသည်။

ဝိတိုရိယ ဟောကြီးမှာ အားလုံးစကျင်ကျောက်ဖြူတို့ဖြင့်သာ ဆောက်လုပ်ထားသောကြောင့် လည်းကောင်း၊ ကြီးကျယ် ခမ်းနားသောကြောင့်လည်းကောင်း အံ့ဖွယ်တစ်ရပ် ဖြစ်ပေသည်။ (ထိုအဆောက်အဦများမှာ မြန်မာ ဓမ္မသာလာမှ အနောက်တောင်ကျသည်။)

၁၃၂၀–ပြည့်၊ နတ်တော်လဆုတ် ၁၄ ရက် (၈–၁–၅၉) နံနက် ၇–နာရီ (ဂျိန်း)ဇိန ဘုရားရှိခိုးကျောင်းသို့ သွားကြသည်။ သူတို့ ဘာသာဝင်များက ဇိန

ဟူ၍လည်းကောင်း၊ မဟာဝိရ ဟူ၍လည်းကောင်း ခေါ်ကြ၏။ ဗုဒ္ဓ ဘာသာများက နာဋ္ဌပုတ္တဟု ခေါ်ကြသည်။ ၎င်း ရုပ်ပွားကား အဝတ်ပလာဖြစ်၏။ နာဋ္ဌပုတ္တ အသက် ထင်ရှားရှိစဉ်ကလည်း "ဘုရား ဖြစ်ပြီ"ဟု ၀န်ခံသည့် အချိန်မှစ၍ အဝတ်အားလုံးကို ပယ်ရှားလျက် ပလာကိုယ်ထီးနေသူဖြစ်သည်။ ၎င်းဘာသာဝင်များမှာ အိန္ဒိယနိုင်ငံ နေရာတိုင်း အနည်းငယ်စီ ရှိ၏။ ဂူဂျာရတ်နယ်မှာ အတော်များများရှိသည်ဟု သိရ၏။ ဗုဒ္ဓဘာသာဝင်ကား ရှားပါးလှ၏။

### ကလကတ္တားမှ ဂါယာသို့

ထိုနေ့ည ဟောင်ရာဘူတာမှ ဘုံဘေမေ ရထားဖြင့် ၈–နာရီ ဂါယာသို့ ထွက်၊ နောက်နေ့ နံနက် ၅ နာရီ ဂါယာရောက်၏။ ဂါယာမှတောင် ၆ မိုင်ကျော် (၃–ဂါဝုတ်) ဝေးသော မဟာဗောဓိပင်နှင့် စေတီတော် ရှိရာသို့ နေရဉ္ဇရာမြစ်၏ အနောက်ဖက်ကမ်း ကားလမ်းမှ ကားဖြင့် သွားကြသည်။ စေတီတော်နှင့် ဗောဓိပင်ကို ကြည်ညိုရှိခိုးကြ၏။ စေတီတော်၏ အရှေ့မုခ်အဝင် တောင်ဖက်တွင် ဟိန္ဒူများ ကိုးကွယ်သော ဘုရားကျောင်း အုတ်တိုက်ငယ်တစ်ခု ရှိရာ၊ ၎င်း အတွင်း၌ နတ်ရုပ်များနှင့် အလယ်ခန်းတွင် သျှိဝ၏( )ကို ပါရာဗတီ ဇနီးသည်၏ အင်္ဂါပုံ ပေါ်သို့ စိုက်လျက် ပြုလုပ်ထား၏။ (လူဖြစ်ရာ မူလရင်းကို သရုပ်ဖော် ကိုးကွယ်လျက် သားဆုတောင်းကြသည် ဟူ၏။) မဟာသ်၏ ဝင်းကြီးအတွင်း၌ လည်း အုတ်ပြာသာဒ်ဆောင် ၁၉ ဆောင်ဖြင့် ဤနည်းအတိုင်း ( )အင်္ဂါ ၂–ခု ကို ပူးတွဲထုလုပ် ကိုးကွယ် ထားကြသေး၏။ ဗုဒ္ဓ၏ ဆင်းတုတော်များကို ပြာသာဒ် ပြင်ဖက်၌ ပစ်ထားကြ၏။ ဗုဒ္ဓ၏ ပုံတော်များမှာ မတ်ရပ်တော် (၈)ဆူ၊ တင်ပလ္လင်ခွေ (၂)ဆူ၊ ခြေချထိုင်ပုံ (၁)ဆူ၊ စေတီပုံ (၂)ဆူ၊ ပေါင်း (၁၃)ဆူ ဖူးတွေ့ခဲ့ရ၏။

ထိုမဟာသ်၏ ဝင်းကြီးကား ဗောဓိပင်မှ အရှေ့မြောက် (၁)ဖာလုံခန့် ဝေး၍ နေရဉ္ဇရာ မြစ်ဆိပ်ကမ်း၌ တည်ဆောက်ထား၏။ ယခုအခါ နေရဉ္ဇရာမြစ်ကား မိုးတွင်း၌သာ ရေရှိ၍ နတ်တော်, ပြာသို ရောက်လျှင် ရေပြတ်စဲကာ သဲသောင်ပြင် ဖြစ်နေတော့သည်။

နေရဉ္ဇရာမြစ်၏ အရှေ့ဖက်ကမ်း၊ ဗောဓိပင်၏ အရှေ့တောင် အရပ်၌ သုဇာတာ (ယနာနို့ဆွမ်း လှူသူ) နေခဲ့ဘူးသော သေနနိဂုံး ရွာရှိ၏။ ၎င်းမှ မြောက်ဖက်တလျှောက် သရက်တောများ၊ ဉရုဝေလတောနှင့် တောင်များ တည်ရှိကြ၏။

## ဂါယာမှ ရာဇဂြိုဟ်သို့

၁၃၂၀-ပြည့်၊ ပြာသိုလဆန်း ၃ ရက် (၁၁-၁-၅၉) တနင်္ဂနွေနေ့ နံနက် ၇-နာရီတွင် ဂါယာမှ ရာဇဂြိုဟ်သို့ သွားကြရာ၊ ၈-၃၀ နာရီရောက်ကြ၏။ (ဂါယာနှင့် ရာဇဂြိုဟ် အဖြောင့်ခရီးမိုင် ၄၀ ကွာ၏။ အဋ္ဌကထာ ဆရာက ၅-ယူဇနာ ဝေးသည်ဟု ဆို၏။ တယူဇနာ ၈-မိုင်ဖြင့် တွက်သော် ကိုက်ညီ၏။ ဗောဓိပင်နှင့် ဂါယာလည်း ၃-ဂါဝုတ်ဟု အဋ္ဌကထာ၌ ဆို၏။ ယခု ၆-မိုင် ကျော် ဝေး၏။ ရာဇဂြိုဟ်နှင့် နာလန္ဒလည်း ၁-ယူဇနာ ဝေးသည် ဆို၏။ ယခု ၈-မိုင် ဝေးကွာ၏။)

ရာဇဂြိုဟ်ကား ဗောဓိပင်၏ အရှေ့မြောက် မိုင် ၄၀-ခန့် ဝေး၏။ သာသနာ ၂၅၀၀-နှစ်က ကားလမ်းဖောက်၍ အဖြောင့်ခရီး ပေါက်သွားခြင်း ဖြစ်၏။ (ရှေးအခါက ကွေ့သွားရသောကြောင့် မိုင် ၈၀-ဝေး၏။)

## တောင်ငါးလုံး

ရာဇဂြိုဟ် တောင် ၅–လုံးကား မြောက်ဖက်က ဝေပုလ္လတောင်၊ အရှေ့မြောက်နှင့် အရှေ့ဖက်က ဂိဇ္ဈကုဋ်တောင်၊ အရှေ့တောင်ဖက်က ဣသိဂိလိတောင်၊ တောင်ဖက်က ပဏ္ဍဝတောင်၊ အနောက်နှင့် အနောက်မြောက်ဖက်က ဝေဘာရတောင် ဤသို့ ဝိုင်းရံလျက်ရှိ၏။ ဝေဠုဝန် ကျောင်းတော်ကား ဝေဘာရတောင်၏ မြောက်ဖက်ကျ၍ မြို့တွင်း ဝင်သောအခါ ဝေဘာရနှင့် ဝေပုလ္လတောင် ၂–လုံး ကြား မြောက်ဖက်မှ ဝင်ရသည်။ ရေပူတွင်းကား ဝေဘာရတောင်၏ အရှေ့ထိပ်တွင် ရှိသည်။ သို့သော် ဝေဘာရတောင်မှာလောက် မများချေ။

## ရာဇဂြိုဟ်မှ နာလန္ဒသို့

နာလန္ဒကား ရာဇဂြိုဟ်မှ မြောက် ၁–ယူဇနာ (ယခု ၈ မိုင်ခန့်) ဝေး၏။ ၎င်းနာလန္ဒကား ဘုရားလက်ထက်တော်က ဥပါလိဒကာကြီးတို့ နေရာဖြစ်သည်။ ဥပါလိကား ဘုရားအမည်ခံ နာဋပုတ္တ ဂိုဏ်းဆရာကြီး၏ တပည့်ရင်းဖြစ်၍ မြတ်စွာဘုရားနှင့် ဝါဒပြိုင်ရာတွင် အရှုံးပေးကာ မြတ်စွာဘုရားအား ကြည်ညိုလာသဖြင့် ဗုဒ္ဓ၏တပည့်သာဝကအဖြစ် ခံယူသော ပုဂ္ဂိုလ်ပေတည်း။ ဤတွင် ဂိုဏ်းဘုရား နာဋပုတ္တမှာ တပည့်ရင်း သူဌေးဒကာတစ်ယောက် ဆုံးရှုံးရသောကြောင့် နှလုံးပူလောင်ကာ သွေးပွက်ပွက်အန်၍ နေရာတွင် ဒူးမခိုင်တော့ဘဲ လဲကျသွားရာ၊ ၎င်း၏တပည့် ဂိုဏ်းရဟန်းများက ထမ်းစင်ဖြင့် ထမ်း၍ ပါဝါပြည်သို့ ယူဆောင်သွားကြသည်။ ၎င်း ပါဝါမြို့၌ပင် အနိစ္စ ရောက်ရှာသည်။ (၎င်း ပါဝါပုရ ပါဝါမြို့ကား နာလန္ဒနှင့် ၉–မိုင်ခန့် ဝေး၍ နာလန္ဒ၏ အရှေ့မြောက်ကျ၏။) နာဋပုတ္တ အနိစ္စရောက်ရာနေရာ၌ ၎င်းဘာသာဝင်များက ယခုအခါ အဆောက်အဦ အကြီးအကျယ် ဆောက်ထား၍ စည်ကားနေပေသည်။ ထိုနေရာများကို ကြည့်ရှုပြီး ဂါယာဘူတာ ရထားတွဲရှိရာသို့ ပြန်ခဲ့ကြသည်။

## ဂါယာမှ ဗာရာဏသီသို့

ဘုန်းကြီးများ၏ တွဲပိုင်ကို ည ၉–နာရီဆွဲ၍ ထွက်ခဲ့ကြသည်။ ည ၁–၃၀ နာရီ ဗာရာဏသီသို့ ရောက်သည်။(ဂါယာနှင့် ဗာရာဏသီကား ၁၈–ယူဇနာ ဝေး၏။ ယခု ၁၂၉–မိုင် ဝေး၏။) နေ့ဆွမ်းစားပြီးချိန်တွင် ဗာရာဏသီမြို့ မြောက် ၆–မိုင်ကွာဝေးသော မိဂဒါဝုန်တောရှိ စေတီများကို ကြည်ညိုပူဇော်ကြ၏။ စေတီတော်များအပြင် နန္ဒိယသူဌေးကြီး ဆောက်လုပ်၍ ဗုဒ္ဓမြတ်စွာ သီတင်းသုံး သွားသော ကျောင်းတော်ရာလည်း ရှိပေသည်။ မိဂဒါဝုန်မှ အပြန် ညနေပိုင်း ဟိန္ဒူများ အထွဋ်အမြတ်ကိုးကွယ်ကြသော "ဗိသျှနာထ"ခေါ် သျှိဝ၏ ဟိန္ဒီဘုရားသို့ သွားကြ၏။ (ပန်း၊ ရေချမ်း ကပ်ကြကာ ဖူးမြော်ပူဇော်ကြသော ဟိန္ဒူ ပရိသတ် များပြား စည်ကားလှပေသည်။)

## ဗာရာဏသီမှ ကုသိနာရုံ

၁၃၂၀–ပြည့်၊ ပြာသို လဆန်း ၄–ရက် (၁၂–၁–၅၉) ည ၁၀–နာရီ ဂေါရက်ပုရသို့ ထွက်ခဲ့ကြရာ၊ ၅–ရက်နေ့ နံနက် ၅–၃၀ နာရီ ရောက်ကြသည်။ တွဲထဲမှာပင် ဆွမ်းဘုဉ်းပေးကြပြီး ဘူတာမှ အရှေ့တောင် ၃၂ မိုင် ဝေးသော "ကုသိနာရုံ"သို့ ဘတ်စ်ကားဖြင့် ၁၀–နာရီထွက်၊ ၁၁–နာရီကျော်ကျော် ရောက်ကြ၏။ ကုသိနာရုံ စေတီတော်နှင့် လျောင်းတော်မူဘုရားကို ဖူးမြော်ကြပြီး ၎င်းမှ တောင်ဖက် ၁–မိုင်ခန့်ဝေးသော တေဇောဓာတ်လောင်ရာ ကုန်းတော်ရှိ စေတီတော် ပျက်ကို ဖူးမြော်ကြ၏။ ၎င်းမှအပြန် ည ၆–နာရီတွင် ဂေါရက်ပုရမြို့တွင်းရှိ အသင်းတိုက် တစ်ခု၌ မဟာစည်ဆရာတော်ဘုရား ဝိပဿနာတရား ဟောတော်မူ သည်။ ဦးဘစန်းက အင်္ဂလိပ်လို ပြန်၍ ပြောသည်။ ၁–နာရီခန့် ဟောသည်။

## ကုသိနာရုံမှ လုမ္ဗိနီ

ၚင်းမှ ည-၁၀နာရီ နောင်ဂါးသို့ ထွက်၊ ၁၃၂၀-ပြည့်၊ ပြာသိုလဆန်း ၆-ရက် (၁၄-၁-၅၉) နံနက် ၄-နာရီတွင် ရောက်၏။ နောင်ဂါး ဗုဒ္ဓဘာသာအသင်းမှ ဒကာဒကာမများက မဟာစည် ဆရာတော်အား ပန်းကုံးတို့ဖြင့် ကြိုဆို ပူဇော်ကြသည်။ မုန့်မျိုးစုံတို့ဖြင့် အရဏ်အချိုပွဲအဖြစ်လည်း ဆက်ကပ်ကြသည်။ ၉-နာရီတွင် တစ်ကြိမ် လာကြကာ ပူဇော်ကြပြန်သည်။ အားလုံးစု၍ အမှတ်တရ ဓာတ်ပုံလည်း ရိုက်ယူလိုက်ကြသည်။ နေ့ဆွမ်းစားပြီး ၁၁-နာရီတွင် နောင်ဂါး ဘူတာမှ အရှေ့မြောက် ၁၉-မိုင် ဝေးသော (နေပေါလ်နယ်တွင်းရှိ) ဗုဒ္ဓဖွားမြင်တော်မူရာ လုမ္ဗိနီသို့ သွား၍ ဖူးမြော်ပူဇော်ကြသည်။ (ကုသိနာရုံနှင့် လုမ္ဗိနီ မိုင် ၈၀-ကျော်ခန့် ဝေးသည်။)

၁၃၂၀-ပြည့်၊ ပြာသိုလဆန်း ၇-ရက် (၁၅-၁-၅၉) နံနက် ၃-၁၅နာရီတွင် နောင်ဂါးမှ သာဝတ္ထိဗာလရမ္ပူရ်သို့ ထွက်ခဲ့ကြရာ နံနက် ၈-၃၀နာရီတွင် ရောက်ကြ၏။ ၁၁-၃၀တွင် ဗာလရမ္ပူရ်ဘူတာမှ အနောက်မြောက် ၁၂-မိုင် မြို့အစွန်နှင့် ၉-မိုင်ဝေးသော ဇေတဝန် ကျောင်းတော်ရာ ရှိရာသို့ ဆရာတော်များ ဘတ်စ်ကားဖြင့် ကြွကြသည်။ (လုမ္ဗိနီနှင့် ဇေတဝန် မိုင် ၉၀ ခန့် ဝေးသည်။) (ဇေတဝန် ကျောင်းတော်အကြောင်းကား ဦးလှတင်ရေးသော "ဇေတဝန်ကျောင်းတော် စာအုပ်" ထင်ရှားရှိလေပြီ။)

(၁၆-၁-၅၉) နေ့ နံနက် ၈-၃၀ အချိန် ဗာလရမ္ပူရ်မှ ထွက်၍ လက္ခနောင်းသို့ ၃-၃၀ အချိန် ရောက်သည်။ ညတွင် လက္ခနောင်းမှ အာဂရာသို့ လာရာ၊ (၁၇-၁-၅၉) နေ့ နံနက် ၅-၃၀ အချိန် ကုဏ္ဍလာ ဘူတာမှ (ဆရာတော်တို့၏ သီးသန့်တွဲကို မဖြုတ်သင့်ဘဲ) ဖြုတ်ထားခဲ့သည်။ နောက် မီးရထား ၂-၃ စင်း ဝင်လာသော်လည်း သီးသန့်တွဲကို မချိတ်မဆွဲဘဲ ထားပြန်သည်။ အဖြစ်က

ဆန်းနေတော့၏။ ဤတွင် တမင်လုပ်မှန်း သိ၍ ဦးသုဓာတ ဆရာတော်ကိုယ်တိုင် ရုံပိုင်ထံသွားပြီး "ဘာကြောင့် အာဂရာဘက်ကို မဆွဲသေးသလဲ၊ ဘာလုပ်တာလဲ"ဟု ခပ်တည်တည် မေးတော့မှ "ဆွဲပါမည်၊ ဒီတစ်ခါလာတဲ့ ရထားဖြင့် ဆွဲပေးလိုက်မည်" ပြောသည့်အတိုင်း ၉-၃၀ နာရီ ရထားဝင်မှ တွဲဆက်ပေးလိုက်တော့သည်။ အာဂရာသို့ ၈-၃၀ နာရီ ရောက်ရမည့်အစား ၁၁-၅၀ နာရီကျမှ ရောက်တော့၏။

အကြောင်းကား ဓာတ်နိမ့် ဟိန္ဒူဗုဒ္ဓဘာသာဝင်များစွာတို့က မဟာစည် ဆရာတော်နှင့် နောက်ပါသံဃာ ၅-ပါး၊ ဒကာ ဒကာမများအား ဆွမ်းကပ် ကျွေးမွေးရန် စီမံချက်ပြုတ်ထားကြရာ၊ ထိုအလှူကို မပျက် ပျက်အောင် ဓာတ်မြင့် ဟိန္ဒူများက ပြုလုပ် နှောင့်ယှက်ခြင်း ဖြစ်လေသည်။ ရထားတွဲပေါ်မှ ဆင်းသော အခါ ၁၂-နာရီ ရှိနေပြီဖြစ်၍ မည်သည့် စားဖွယ်ကိုမျှ မလှူရ၊ မကပ်ကြရတော့ချေ။

ဓာတ်နိမ့် ဟိန္ဒူများ ဗုဒ္ဓဘာသာသို့ ကူးပြောင်းလာကြခြင်းမှာ အမ္ဗကာရ ဝန်ကြီး၏ ဟောပြောချက်ကြောင့် ဖြစ်သည်။ ၎င်း ဓာတ်နိမ့်ဟိန္ဒူ ဗုဒ္ဓဘာသာ များက ဆရာတော်ဘုရားကြီးနှင့် တကွ နောက်ပါများကို ကားကြီးကားငယ်ဖြင့် အာဂရာရှိ တက်ကျမဟာနှင့် နန်းတော်ဟောင်းကြီးများကို လိုက်ပြကြပြီး သူတို့၏ အသင်းတိုက်၌ အဖျော်ရည်များ ကပ်ကြ၏။ မဟာစည်ဆရာတော်ဘုရားထံမှ ငါးပါးသီ ခံယူ၍ တရားကို ရိုသေလေးစားစွာ နာယူကြသည်။ ညနေ ၅-၃၀အချိန် အာဂရာမှ နယူးဒေလီသို့ ဆရာတော်တို့ ထွက်လာကြရာ ည ၁၂-၁၀နာရီတွင် ရောက်ကြသည်။ ဘူတာမှ သံမှူးဦးလှအောင်နှင့် အဖွဲ့သားများက ကြိုဆို၍ ဆရာတော် ၆-ပါးနှင့် ဦးအုန်းမောင်ကို မြန်မာသံအမတ်ကြီး အိမ်သို့ ပင့်ခေါ် သွားသည်။

၁၃၂၀-ပြည့်၊ ပြာသိုလဆန်း ၁၀-ရက် (၁၈-၁-၅၉) တနင်္ဂနွေနေ့ နံနက် ၉-နာရီတွင် အမ္ဗကာရ၏တပည့် ဗုဒ္ဓဘာသာဝင် များစွာတို့က မဟာစည်

ဆရာတော်ကိုပင့်၍ ၈-ပါးသီလ ယူကြသည်။ သီလခံယူ အပြီးတွင် ဝန်ကြီးချုပ် နေရူးက ပင့်၍ သံမှူး ဦးလှအောင်၊ မစွက်ဘောရီတို့ကို စကားပြန်အဖြစ် ခေါ်ဆောင် လျက် ကြွတော်မူသည်။

## ဝန်ကြီးချုပ် နေရူးနှင့် တွေ့ဆုံခြင်း

**နေရူး**။ ။ ဆရာတော်ဘုရား၊ ရှေးက အိန္ဒိယကို ရောက်ဘူးခဲ့လျှင် ဘယ်နေရာများသို့ ရောက်ခဲ့ပါသနည်းဟု ဝန်ကြီးချုပ်က လျှောက်ကြား မေးမြန်း သည်။

**ဆရာတော်**။ ။ ဆရာတော်သည် ဗုဒ္ဓဂါယာမြို့၊ ဆရ်နတ်မြို့၊ ကုသိနာရုံ မြို့များကို လည်ပတ်ခဲ့ဘူးပါပြီ။ ရှေးကလည်း ဗုဒ္ဓဂါယာမြို့ကို ရောက်ခဲ့ဘူးပါ ပြီ။ ဤအကြိမ်တွင် ဘုရားနေရာများ တိုးတက်နေခြင်း၊ ပြင်ဆင်ထားခြင်းများကို အလွန် အားရဝမ်းသာစွာ တွေ့ရှိရပါသည်။ အစိုးရသည် ဤတိုးတက် ဆောင်ရွက် မှုကို ဆက်လက် အားထုတ်သွားလိမ့်မည်ဟု မျှော်လင့်ပါသည်။

**နေရူး**။ ။ အိန္ဒိယအစိုးရသည် ဗုဒ္ဓဇယန္တိ ပွဲတော်များကို မှုတည်သော ကြောင့် ဤ တိုးတက်မှုများကို ပြုလုပ်ဆောင်ရွက် ပြီးစီးနိုင်ပါသည်ဟု ဝန်ကြီးချုပ် က လျှောက်ကြားပါသည်။

**ဆရာတော်**။ ။ ဗုဒ္ဓဘာသာ ရှေးထုံးစကားအရ၊ ၂၅၀၀ မဟာပရိနိဗ္ဗာန နှစ်ပတ်လည် ပွဲတော်သည်ကား အိန္ဒိယပြည်တွင် ဗုဒ္ဓဘာသာ တရားတော်၏ ခေတ်သစ်ပြန်ပေါ်ခြင်းကို ရှေ့ပြေးလမ်းညွှန် ဖြစ်ပါသည်ဟု ဆရာတော်က အမိန့် ရှိတော်မူသည်။

**နေရူး**။ ။ ဘုရားရှင်၏ ကျင့်စဉ်များနှင့် ဟောပြောချက် တရားတော် များကို ပိုမိုကျယ်ပြန့်စွာ သိရှိနားလည်စေခဲ့လျှင် ဤတိုင်းပြည်အတွက် အကျိုး

ကျေးဇူး များပါလိမ့်မည်ဟု တပည့်တော် ထင်ပါသည်။ ဤအချက်သည် တစ်ကမ္ဘာလုံးမှာ အမှန်စင်စစ် လိုနေပါသည်။ အတွင်းစိတ်ဓာတ် ငြိမ်းချမ်းရေး အတွက် ဤကဲ့သို့သော တရားဓမ္မများသည်သာလျှင် အဏုမြူဗုံးနှင့် လူတို့၏ အတွင်းဓာတ်အဓမ္မမှုကို ငြိမ်းအေးစေပါလိမ့်မည်ဟု ဝန်ကြီးချုပ်က လျှောက်ထား၏။

**ဆရာတော်**။ ။ ဆရာတော်က သဘောကျ၍ ကမ္ဘာကြီးတွင် လောဘ၊ ဒေါသ၊ မောဟ တရားများသည် ခိုက်ရန်ဒေါသ ဖြစ်ခြင်း၏ မူလအကြောင်းများ ဖြစ်သည်။ ဘာသာရေးအလုပ်အားလုံးသည် ဤတရားဆိုး အဓမ္မမှုတွေကို ချေမှုန်း ဖျက်ဆီးရန် ဖြစ်ပါသည်။ ဝန်ကြီးချုပ်သည် သာသနာပြု လုပ်ငန်းကို အားပေး လိမ့်မည်ဟု တောင့်တမျှော်လင့်ပါသည်ဟု မိန့်ကြားတော်မူသည်။

**နေရူး**။ ။ (ဘုရားရှင် လက်ထက်တော်ကပင်) ဤ ကမ္ဘာကြီးတွင် လူ့သူတော်ကောင်းနှင့် အမျိုးကောင်း သားသမီးဖြစ်ဖို့ရန် ကြိုးစားအားထုတ်ခဲ့သူ များနှင့် ၎င်းပြင် တည့်တည့်ဆန့်ကျင်သော အယူဝါဒ ရှိသူများလည်း ရှိခဲ့ဘူး သည်မှာ အနှောင့်အယှက် ဒုက္ခပင် ဖြစ်ပါသည်။ ဘုရား၏ တရားတော်များကို ကိုယ်တိုင်များစွာ ကြည်ညိုလေးစားပါသည်။ သို့ရာတွင် ဝန်ကြီးချုပ်အနေနှင့် သီးခြားဘာသာတပါးကို မျက်နှာလိုက်၍ ဦးစားပေးမည်မဟုတ်ပါ။ သို့သော် ဤနိုင်ငံတွင် ခံယူကိုးကွယ်နေကြသော ဟိန္ဒူ၊ မူဆလင်၊ ခရစ်ယာန်၊ ဗုဒ္ဓဘာသာနှင့် အခြားဘာသာအားလုံးတို့သည် လူတို့၏ ကောင်းကျိုးအတွက် ကြိုးစား ဆောင်ရွက်လုပ်ကိုင် နေကြသောကြောင့်၊ ဤဘာသာတရားများကို အားပေးရပါ လိမ့်မည်။ တရားတော်များ ပြန့်ပွားရေးကိစ္စမှာ သာသနာပြုပုဂ္ဂိုလ်များအတွက် သော်လည်းကောင်း၊ သို့မဟုတ် ဆရာတော်ကဲ့သို့ ရဟန်းတော်များအတွက် သော်လည်းကောင်း ဖြစ်ပါသည်။

**ဆရာတော်။** ။ ဝန်ကြီးချုပ်ကို မေတ္တာပို့၍ ဝန်ကြီးချုပ်နှင့် တကွ တိုင်းပြည်အတွက် ချမ်းသာ ကြွယ်စေကြောင်း ဆုတောင်းပါသည်ဟု နောက်ဆုံး အမိန့်ရှိလိုက်ပါသည်။

ဝန်ကြီးချုပ်ကိုယ်တိုင် တံခါးပေါက်အထိ ဆရာတော်ကို လိုက်ပို့၍ ဖူးတွေ့ရသည့် အခွင့်အရေး ရရှိသဖြင့် အလွန်နှစ်သက် ဝမ်းမြောက်ပုံရှိကြောင်း သိရပါသည်။ မြန်မာသံရုံး ပထမအတွင်းဝန် ဦးလှအောင်က ဘာသာပြန်ဆိုပါသည်။

၎င်းမှအပြန် နေ့ဆွမ်းကို ဗင်္ဂါလီ ဗုဒ္ဓဘာသာများက မဟာဗောဓိအသင်း တိုက်၌ ကပ်ကြသည်။

**၁၈-၁-၅၉ ရက် ဆောင်ရွက်ချက်များ**

၈-၄၅ နံနက်။ ။ အံမ္ဗကာရ၏ ဘဝန်ခန်းမ (ဘာရတိယ ဗောဒ္ဓမဟာသဘာ) ဗုဒ္ဓဘာသာ လူသစ်များသည် (၈)ပါး သီလကို ပထမအကြိမ် ဆရာတော်ထံမှ ခံယူကြသည်။

၉-၁၀ နံနက်။ ။ နိုင်ငံခြားရေး ဝန်ကြီးဌာနတွင် ဝန်ကြီးချုပ်နှင့် တွေ့ဆုံခြင်း၊ (မဟာဗောဓိ အသင်း) ဗုဒ္ဓဝိဟာရကျောင်းသို့ လည်ပတ်ခြင်းနှင့် (ဘင်္ဂလီဗုဒ္ဓဘာသာများ) အိန္ဒိယ ဗုဒ္ဓဘာသာအသင်းက ဆွမ်းကပ်လှူပူဇော်ခြင်း။

၃-၀၀ ညနေ။ ။ အသောက ဝိဟာရ ကျောင်းသို့ လည်ပတ်ခြင်း။ ကုတတ်ဖ်မင်းနော် မှတ်တိုင်သို့ လည်ပတ်ခြင်း။

၄-၀၀ ညနေ။ ။ (ဒေါက်တာရာလဥဝိရ) အိန္ဒိယ ယဉ်ကျေးမှုအတွက် ကမ္ဘာလုံး ဆိုင်ရာ လောကစာတ် ကျောင်းတော်ကြီးသို့ လည်ပတ်ခြင်း။

၅-၃၀ ညနေ။ ။ ဂျူဂတ်ကျောတိ ဝိဟာရကျောင်းနေရာသို့လည်ပတ်ခြင်း။

ညနေပိုင်းတွင် ကမ္မဋ္ဌာန်းဋ္ဌာန ပြုလုပ်ရန် အသောက ဝိဟာရသို့ကြွ၍ ဆရာတော်များကိုယ်တိုင်ကြည့်ကြသည်။ (၁၉-၁-၅၉)နေ့ နံနက် ၈-နာရီတွင် မဟာစည်ဆရာတော်သည် ခေတ်သစ်ကျောင်းမှ ပင့်၍ ကြွရောက်ပြီး ကျောင်းသူ ကျောင်းသားတို့အား မေတ္တာတရားနှင့် ကိုယ်ချင်းစာတရားကို ဟောတော်မူသည်။

ညနေပိုင်း ၄-နာရီတွင် ပထမ သမ္မတကြီး ရာဂျင်န္ဒြာပရာဆပ်က ပင့်၍ နောက်ပါ သံဃာ ၅-ပါး၊ သံမှူး ဦးလှအောင်၊ မစ္စက်ဘောရီတို့နှင့် တကွ မဟာစည် ဆရာတော်ဘုရား ကြွတော်မူသည်။ သမ္မတကြီးက "အိန္ဒိယသို့ ဘုရားဖူး ကြွလာ ရတာ သပ္ပါယ ဖြစ်ပါရဲ့လား" စသည်ဖြင့် လျှောက်ထား၍ သပ္ပါယ ဖြစ်ကြောင်း စသည်မျှသာ ပြောကြားခဲ့သည်။ တရားအထူး မဟောခဲ့ပေ။

၅-နာရီခွဲတွင် မြန်မာသံရုံး၌ မဟာစည် ဆရာတော်ဘုရားက မြန်မာလို ဝိပဿနာတရား ဟော၍ သံမှူး ဦးလှအောင်က အင်္ဂလိပ်လို ဘာသာပြန် ဟောသည်။

### ၁၉-၁-၅၉ ရက် ဆောင်ရွက်ချက်များ

၉-၀၀ နံနက်။ ။ ခေတ်သစ် ကျောင်းသားများအား တရားဟော၍ မေတ္တာ ပို့ခြင်း။

၁၀-၃၀ နံနက်။ ။ အေ ၃ ဒေါက်တာ မောတိဘက်ယ် နိုင်ငံခြားသံအဖွဲ့ ဌာန၊ မစ္စက်ဘောဒစ်စ် နေအိမ်တွင် ဆွမ်းကပ်ခြင်း။

ညနေခင်းအချိန်။ ။ ရှုမျှော်ခင်း ကြည့်ရှုခြင်းနှင့် အနားယူခြင်း။

၄-၃၀ ညနေ။ ။ အိန္ဒိယပြည် သမ္မတမင်းထံသို့ ကြွရောက်တွေ့ဆုံခြင်း။

၅–၃၀ ညနေ။ ။ ဗုဒ္ဓဘာသာ မိတ်ဆွေများ အသင်း၏ စီစဉ် ကျင်းပချက်ဖြင့် မြန်မာအိမ်တော်တွင် မဟာစည်ဆရာတော်ဘုရားသည် ဝိပဿနာ လုပ်ငန်းတရား ဟောကြားတော်မူခြင်း။

၁၃၂၀–ပြည့်၊ ပြာသိုလဆန်း ၁၂–ရက် (၂၀–၁–၅၉) ညနေ ၄–နာရီတွင် ဒုတိယ သမ္မတကြီးက ပင့်ပြန်သဖြင့် ရှေးနည်းတူ ကြွတော်မူ၍ စကားပြောဟောကြသည်။ ဒုတိယ သမ္မတကြီးကား စကားပြော ကောင်း၍ ပါဠိဘာသာကိုလည်း အတော် လေ့လာထားသူ ဖြစ်လေသည်။ ပါဠိတော်ထဲမှ ပါဠိများကိုပါ ကိုးကား၍ ပြောဆိုလျှောက်ထားလေသည်။ တရား ဆွေးနွေးမှုကား အထူးမပြုပေ။

ထိုမှအပြန် သံမှူး ဦးလှအောင်က ပင့်၍ ကြွရောက်ပြီး ပရိတ်ရွတ်ကြသည်။ ည ၇–နာရီတွင် သံအဖွဲ့ဝင် ဒကာဒကာမတို့၏ ပူဇော်ခြင်းကို ခံယူပြီး ဘူတာသို့ လိုက်ပို့ကြသော ပရိသတ်တို့နှင့်အတူ သံဃာတော်များ ကြွကြသည်။ နယူးဒေလီဘူတာမှ ည ၁၀–နာရီ ၁၀–မိနစ်တွင် ဆံချိဘက်သို့ ထွက်သော ရထားဖြင့် ထွက်ခဲ့ကြရာ၊ နောက်နေ့ ၁၁–၄၅ နာရီတွင် ဆံချိဘူတာသို့ ရောက်ကြ၏။ ဘူတာနှင့် ဆံချိစေတီတော်ကုန်းသည် ၄–ဖာလုံခန့် ဝေးမည်ထင်သည်။ ၎င်းစေတီသို့ ကားဖြင့်ကြွကာ စေတီတော်ကို ဖူးမြော်ကြသည်။ ဆံချိကား တောရွာကလေးတစ်ရွာသာ ဖြစ်သည်။ ၎င်းမှ နေ့ ၃–နာရီထွက်၊ ဘိုပါလ်သို့ ၄–၄၅ နာရီရောက်ကြ၏။ (၎င်းမြို့ကား စော်ဘွားတစ်ဦး၏ မြို့ဖြစ်သည်။)

ထိုဘိုပါလ်မြို့မှာ တပိုင်းကမြေပြန့်၊ တပိုင်းက တောင်စောင်း လျှောက်၍ တည်ထားသောကြောင့် သာယာလှပေသည်။ ဘိုပါလ်မှ နေ့ ၁–နာရီထွက်ခဲ့၍ ဘူဆစ်သို့ ည ၁၀–နာရီ ရောက်ကြ၏။ ဘူဆစ်မှ ဓာတ်နိမ့် ဟိန္ဒူ ဗုဒ္ဓဘာသာများက ပန်းကုံးများဖြင့် စည်ကားသိုက်မြိုက်စွာ ကြိုဆိုကြသည်။ ၎င်းမှ ဂျလ်ဂွန်းသို့ ထွက်ခဲ့ရာ ည ၁၀–နာရီတွင် ရောက်ကြ၏။

၁၃၂၀–ပြည့်၊ ပြာသိုလပြည့်၊ (၂၃–၁–၅၉) သောကြာနေ့ နံနက် ဘူတာမှ အဂ္ဂြာသို့သွားရန် ဒကာများက ဘတ်စ်ကား ငှားကြရာ၊ လူ ၄၀–စီး ကားကိုသာ ငှားနိုင်မည်။ စီးသူ ၂၀–ကျော် ဖြစ်သော်လည်း ၄၀–တွက် ပေးရမည်။ ၃၆–မိုင် ဝေးသော်လည်း မိုင် ၄၀–တွက် ပေးရမည်ဟု ဈေးကိုင် နေကြသည်။ သို့ရာတွင် သူတို့ သဘောအတိုင်း လိုက်လျောကြသည်။

ထို့ပြင် ဆရာတော်များ ဂျလ်ဂွန်းမှ နံနက် ၈–၂၀ နာရီ ထွက်ခဲ့ကြရာ ၉–၃၀ နာရီတွင် အဂ္ဂြာသို့ ရောက်ကြသည်။ အဂ္ဂြာ လိုဏ်ဂူကား ချောင်း ကမ်းဘေးရှိ ကျောက်တောင်ကြီးကို သူ့အခန်းနှင့်သူ ဗုဒ္ဓရုပ်ပွားတော်ပုံမျိုးစုံကို တစ်မိုင်နီးပါးအထိ ထွင်းထု၍ လည်းကောင်း၊ ဆေးဖြင့် ရေးခြယ်၍လည်းကောင်း ပြုလုပ်ထားသော အံ့ဩဖွယ် ဂူကြီး ဖြစ်ပေသည်။ ၎င်းဂူ၌ ထုလုပ်ရေးခြယ် ထားသော မယ်တော်မာယာပုံ စသည်တို့မှာ ပုဂံအာနန္ဒာဘုရားတွင်းမှ ပုံများနှင့် တူလှပေသည်။

ဘူဆစ်မှ ဗုဒ္ဓဘာသာဝင် ဟိန္ဒူများက တရားဟောရန် ပင့်ထားသောကြောင့် ၎င်းမှ စောစော ပြန်ခဲ့ကြရာ ဂျလ်ဂွန်းသို့ ၄–နာရီခန့် ပြန်ရောက်ကြသည်။ ဘူဆစ် သို့ ၅–နာရီအရောက် သွားရန်ဖြစ်သော်လည်း ဇာတ်မြင့် ဟိန္ဒူများက ဇာတ်နိမ့် ဟိန္ဒူများကို ကားမငှားကြသောကြောင့် ကားဖြင့် မသွားနိုင်တော့ဘဲ ၆–နာရီကျမှ မီးရထားဖြင့် နောက်ပါ သံဃာများနှင့်တကွ မဟာစည်ဆရာတော် ကြွရတော့ သည်။ ပရိသတ်ကား ၅–နာရီတွင် တရားဟောလိမ့်မည်ဟု ကြော်ငြာထားရာ ၆–နာရီတိုင် မရောက်လာ သဖြင့် လာတော့မည် မထင်သောကြောင့် အချို့ ပြန်ကုန်ကြသည်။ ၇–နာရီတွင် ဆရာတော်များ ရောက်ချိန်၌ကား ပရိသတ် သုံးထောင်ကျော်ခန့်သာ ကျန်တော့သည်။ ခုနစ်ထောင်ခန့် ပြန်သွားကြသည်ဟု ကျန်ရစ်သူတို့က လျှောက်ထားကြသည်။ အပြန်တွင်မူ ကားငှား၍ ရသဖြင့် တော်သေး၏။ (ဤသို့ ဖြစ်ရခြင်းမှာ ဇာတ်မြင့် ဟိန္ဒူများက ကားပိုင်မရှိသော

ဇာတ်နိမ့် ဟိန္ဒူများကို နှိပ်စက်ခြင်း တစ်မျိုးပင်၊ တရားပွဲကိုလည်း ပျက်အောင် ဖျက်ခြင်းဟု ဆိုနိုင်သည်။)

ဤတရားပွဲတွင် မဟာစည်ဆရာတော်သည် "သတ္တဝါတို့ကို ဖန်ဆင်းတတ်သော ဘုရားမရှိ၊ အတိတ်ဘဝက ပြုလုပ်ခဲ့ဘူးသော မိမိတို့၏ ကံအကြောင်းတရားသာ ရှိကြောင်း၊ ကံကြောင့်သာ ဖြစ်ရကြောင်း၊ သို့ပါလျက် ပညာရှိအမည်ခံ စာရေးဆရာ၊ စာပေဟောဆရာတို့ကသာ မရှိသော ဘုရားကို ရှိလေဟန် ရေးကြ၊ ဟောကြပြီး ဇာတ်နိမ့် ဇာတ်မြင့်အားဖြင့် ခွဲခြားထားသောကြောင့် ကွဲပြားနေရကြောင်း"စသည်ဖြင့် ကျမ်းအကိုးအကား စုံလင်စွာ တင်ပြ ဟောကြားတော်မူသည်။ သံရုံးစာရေးကြီး ဦးအောင်စိန်က ဟိန္ဒူဘာသာပြန်၍ ဟောပြရာ ပရိသတ်ကြီးက လက်ခုပ်တဖြောင်းဖြောင်း တီးကာ အထူးအားရနှစ်သက်ကြောင်း ပြကြပေသည်။

ထိုအရပ်တွင် ၂-နာရီတိတိ တရားဟောတော်မူပြီး ၉-နာရီတွင် ဆရာတော်များ ပြန်ခဲ့ကြသည်။ ၁၀-နာရီခန့်တွင် ဂျုလ်ဂွန်းဘူတာ မိမိပိုင်တွဲသို့ ပြန်ရောက်ကြ၏။ ၁၁-နာရီခန့်တွင် ဘုံဘေသွား ရထားဖြင့် တွဲချိတ်ရန် ဖြစ်သော်လည်း တွဲမချိတ်ဘဲ ရုံပိုင်လုပ်သူ ဟိန္ဒူတို့က ဆရာတော်များကို တတ်နိုင်သလောက် ညှဉ်းပန်းကြပြန်သည်။ နောက်ရထား တစ်စီး နှစ်စီးထွက်သည့်တိုင် ဤအတိုင်းထားရာ ဆရာတော်ဘုရားက နယူးဒေလီ သံရုံးသို့လည်းကောင်း၊ ဘုံဘေမှ ကြိုဆိုကြမည့် အသင်းအဖွဲ့များသို့ လည်းကောင်း သံကြိုးရိုက်ရန် ဦးအုန်းမောင်နှင့် စာရေးကြီးဦးအောင်စိန်တို့ကို စေခိုင်းတော်မူသည်။

သံကြိုးသွားရိုက်ခါမှ ရုံပိုင်က ယခုလာမည့် ရထားဖြင့် တွဲချိတ်ပေးပါမည်၊ သံကြိုးမရိုက်ပါနှင့်ဟု ဝန်ခံပြောဆိုကာ ၃-နာရီ မိနစ် ၅၀-ရထားရောက်မှ တွဲချိတ်ပေး၍ ဘုံဘေသို့ ထွက်ခွာရတော့သည်။ အာဂဇာတ်မြင့် ဟိန္ဒူတွေ။ ။

ဘုံဘေသို့ ၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၁-ရက် (၂၄-၁-၅၉)နေ့ ၁၂-နာရီ မိနစ် ၄၀-မှ ရောက်တော့သည်။ ၈-နာရီရောက်ဖို့ရာ မရောက်သဖြင့် ဘုံဘေမှ ကြိုဆိုနေကြသော အသင်းသူ အသင်းသားတို့မှာ ဆွမ်းနှင့် စားဖွယ်များကို မကပ်မလှူကြတော့ဘဲ ပန်းစည်း ပန်းကုံးများကိုသာ လှူကြရတော့သည်။ ၎င်း ဗုဒ္ဓဘာသာဝင်များ၏ လျှောက်ထားချက်အရ ရောက်လျှင် ရောက်ချင်းပင် မဟာဗောဓိ အသင်းတိုက်သို့ ကြွတော်မူ၍ ဝိပဿနာတရား ဟောတော်မူသည်။ ပရိသတ်ကြီးကား နှစ်ထောင်းအားရ ရှိလှပေသည်။

ဘုံဘေမြို့၌ ကြည့်ရှုသင့်သော မြူစီယံ၊ ငါးပြတိုက်၊ ဥယျာဉ်စသည်တို့ကို ကြည့်ရှုကြပြီး ၎င်း (၁၄-၁-၅၉) ည ၁၀-နာရီ ၁၀-မိနစ် ထွက်သော ရထားဖြင့် ဘုံဘေမြို့မှ မဒရပ်သို့ ထွက်ခွာခဲ့ကြသည်။

၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၃-ရက် (၁၆-၁-၅၉) နံနက် ၇-၁၅နာရီ တွင် မဒရပ်သို့ရောက်ကြ၏။ မဒရပ်ရှိ ကောင်စစ်ဝန် ဦးအောင်သက်၊ ဒေါ်သင့် နှင့် အဖွဲ့သားများက ကြိုဆိုကြကာ မဟာဗောဓိ အသင်းတိုက် ဘုန်းကြီးကျောင်း သို့ ပို့ပေးကြသည်။

မဒရပ်၌ ၃-ရက်ခန့် အနားယူယင်း ပြတိုက်၊ ပင်လယ်ကမ်းခြေ စသည် များကို ကြည့်ရှုကြသည်။ ၎င်းပြင် မဒရပ်မှ ၄၅-မိုင် ဝေးသော ရှင်ဗုဒ္ဓဃောသ၊ အရှင်ဓမ္မပါလတို့ သီတင်းသုံးသွားခဲ့ကြဘူးသော ကံစီပူရသို့ ကားငယ် ၂-စီးဖြင့် သွား၍ လေ့လာကြသည်။ ဗုဒ္ဓဘာသာဆိုင်ရာကား မရှိတော့ချေ။ ဟိန္ဒူတို့ ကိုးကွယ်ကြသော သျှိဝ၏ ဘုရားကျောင်းကြီးများသာ ခမ်းနား ကြီးကျယ်စွာ ရုပ်လုံးရုပ်တုတို့ဖြင့် ပြုလုပ်ထားကြသည်ကို တွေ့ခဲ့ကြရသည်။ သခ်ိဳရ လက်ချက်ကား ထက်မြက်လေစွ။

= = =

## မဒရပ်မှသီဟိုဠ်သို့

၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၆-ရက် (၂၉-၁-၅၉) ကြာသပတေးနေ့ နံနက် ၁၁-နာရီတွင် မဒရပ်မြို့တွင်းမှ လေဆိပ်သို့ လာကြသည်။ နေ့လယ် ၁-နာရီ ၃၀-မိနစ်တွင် မဒရပ်လေဆိပ်မှ စီလုံလေယာဉ်ဖြင့် ထွက်ခွာခဲ့ကြရာ ၃-နာရီအချိန် သီဟိုဠ်ကျွန်းမြောက်ဖျား ဂျမနားလေဆိပ်သို့ ဆိုက်ရောက်ကြသည်။ လေဆိပ်၌ ခရီးသည်များ၏ ပစ္စည်းအားလုံးကို ချ၍ မွှေနှောက်ရှာဖွေ စစ်ဆေးနေကြသဖြင့် ၂-နာရီမျှ စောင့်ဆိုင်းနေကြရသည်။ ခရီးသည်အားလုံး စိတ်ဒုက္ခရောက်ကြရလေသည်။ စီလုံလေယာဉ်ကို စီးကြသူတိုင်း ဤဒုက္ခမျိုးမှ ရင်ဆိုင်ကြရလေသည်။ အိန္ဒိယလေယာဉ်ကို စီးလျှင် ဤဒုက္ခမျိုးမှ ကင်းလွတ်ကြသည်။ ကိုလံဘိုသို့လည်း အချိန်မှန်ရောက်သည်။ ဂျမနား လေဆိပ်သို့လည်း မဆင်းသက်။

မဒရပ်မှ သီဟိုဠ်သို့သွားလျှင် သီဟိုဠ်လေယာဉ်ကို မစီးသင့်၊ အိန္ဒိယလေယာဉ်ကိုသာ စီးသင့်သည်။ ဆရာတော်များမှာ ထင်ရှား၍ သီဟိုဠ် ဗုဒ္ဓဘာသာဝင်တို့၏ အများဆုံး အကြည်ညိုခံ ပုဂ္ဂိုလ်များ ဖြစ်သည့်အလျောက် သီဟိုဠ်ကို အားပေးသည့်အနေဖြင့် သီဟိုဠ်လေယာဉ်ကို စီးမိကြသောကြောင့် ဤသို့ ဒုက္ခရောက်၍ ၂-နာရီ နောက်ကျကာ ကိုလံဘိုသို့ ရောက်ကြရသည်။

ညနေ ၅-နာရီတွင် ဂျမနားလေဆိပ်မှ ထွက်၍ ၆-၁၅နာရီတွင် ကိုလံဘိုသို့ ရောက်ကြသည်။ ကြိုဆိုနေသော ပရိသတ်ကြီးမှာ ၄-နာရီတွင် ရောက်ကြလိမ့်မည်ဟူသော မျှော်လင့်ချက်ဖြင့် ကြိုဆိုနေကြရာ ၆-နာရီမှ ရောက်လာကြသဖြင့် အနည်းငယ် ပင်ပန်းပုံ ရကြလေသည်။ ၇-၃၀ နာရီ ကျမှ မက္ကာသီ ဘာဝနာမဏ္ဍာနသို့ ဆရာတော်များ ရောက်ကြရလေသည်။

၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၇-ရက် (၃၀-၁-၅၉) ညနေ ၃-နာရီခန့် အချိန်၌ မက္ကာသီ ကမ္မဋ္ဌာန်းဌာနသို့ မြို့ထဲမှ ယောဂီယောင်း ဥပါသကာ ဥပါသိကာ မများ တဖြည်းဖြည်း ရောက်လာကြသည်။ တစ်ရာကျော် နှစ်ရာခန့်ရှိသည်။ ၎င်းတို့သည် မဟာစည်ဆရာတော် အမှူးရှိသော သံဃာတော်တို့အား ရိုသေစွာ ဖူးမြော်ကန်တော့ပြီးလျှင် အချင်းချင်းလည်း စကားပြောခြင်း မရှိကြဘဲ တိတ်ဆိတ် ငြိမ်သက်စွာ ထိုင်လျက် မိမိတို့ နလုံးသွင်းမြဲ တရားကိုသာ နလုံးသွင်း ရှုမှတ်လျက် နေကြ၏။ ထိုသို့ တိတ်ဆိတ်ငြိမ်သက်စွာနှင့် ရှုမှတ်နေကြသည်ကို မြင်ရသဖြင့် မဟာစည်ဆရာတော်မှာ တရားဟောလိုသော စိတ်များ ထက်သန်စွာ ဖြစ်ပေါ် လာသည်။ သို့သော် သီဟိုဠ်စကား မတတ်သဖြင့် ဟောရန်မလွယ်ဘဲ ရှိနေသည်။ မိမိတတ်သမျှ အင်္ဂလိပ်ဘာသာစကားဖြင့် အနည်းငယ်မျှ ဟောရမည်လားဟူ၍ပင် စိတ်ကူးမိသည် ဟူ၏။ ထိုအခိုက်တွင် မြန်မာစကားတတ်သော သီဟိုဠ်ရဟန်း တပါး ရောက်ရှိလာ သဖြင့် ထိုရဟန်းကို ဘာသာပြန်စေပြီးလျှင် "သန္တိပတိတာနံ ဝေါ ဘိက္ခဝေ ဒွယံ ကရဏီယံ ဓမ္မီဝါကထာ အရိယော ဝါ တုဏှီဘာဝေါ။" ဟူသော ပါဠိကို အခြေခံပြု၍ တစ်နာရီကျော်ခန့် တရားဟောသည်။ (၃၁-၁-၅၉)နောက်တနေ့မှာ ဒါယိကာမကြီး နိစ်ကာ၏ အိမ်သို့သွား၍ ကျမ်းစာအုပ် အမျိုးမျိုးကို ကြည့်ကြသည်။

## ဘာဝနာ မဇ္ဈ ဌာန ဖွင့်လှစ်ခြင်း

၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၉-ရက်(၁-၂-၅၉)တနင်္ဂနွေနေ့ ၃-နာရီ အချိန်တွင် ကိုလံဘိုမြို့ မက္ကာသီလမ်းဆောရှိ ဘာဝနာ မဇ္ဈ ဌာန (ဗဟိုကမ္မဋ္ဌာန်း ဌာန) ကို ဖွင့်လှစ်သည်။ ဂိုဏ်းပေါင်းစုံ ဆရာတော်များ အသီးသီး မိန့်ခွန်း ပြောကြသည်။ နောက် ကမ္ဘာ့ဗုဒ္ဓဘာသာအသင်း ဥက္ကဋ္ဌ တရားဝန်ကြီး ဦးချန်ထွန်း၊

သီဟိုဠ်နိုင်ငံ ဝန်ကြီးချုပ် မစ္စတာ ဗန္ဒာရ နာယကတို့က အစီအစဉ်အတိုင်း ပြောကြသည်။

ထိုနောက်မှ မဟာစည်ဆရာတော်ဘုရားက ပါဠိဘာသာဖြင့် မိန့်ခွန်းပြောတော်မူသည်။ ထိုနောက် အရှင်သုဇာတထေရ်က အနည်းငယ်မျှပြောပြီး ဖွင့်လှစ်ပွဲကို ရုပ်သိမ်းလိုက်သည်။

ယင်းသို့ ကမ္မဋ္ဌာန်းဌာန ဖွင့်လိုက်သော်လည်း ယောဂီများကို လက်ခံ၍ တရားပြနိုင်လောက်အောင် အသင့်မရှိသေးသောကြောင့် အမြဲတမ်း ယောဂီများကို လက်မခံသေးဘဲ ယာယီယောဂီ နေ့ယောဂီများကိုသာ လက်ခံ၍ ၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၉-ရက်မှ ၁၃၂၁-ခု၊ ကဆုန်လဆုတ် ၈-ရက် သောကြာနေ့ထိသာ တရားဟော တရားပြပေးခြင်းကို ဆရာတော်များ ဆောင်ရွက်တော် မူကြသည်။

ထိုဌာနမှာ ပဋိပတ္တိသာသနာပြုရာ၌ စည်ပင်ပြန့်ပွားမည့် အခြေအနေမမြင်၊ ရှုပ်ထွေးမှုကိုသာ မြင်တွေ့ရသောကြောင့် ၎င်းဌာနမှ မူလပဓာနကန္ဒုဗောဒဌာနသို့ ပြောင်းရွှေ့ နေထိုင်လျက် ဆရာတော်များ သာသနာပြုကြသည်။

၎င်းကန္ဒုဗောဒဌာနမှာ ပုဂံခေတ်က သဒ္ဒါကြီးအဖွင့် သုတ္တနိဒ္ဒေသကို ရေးခဲ့သော ဆပဒမထေရ်မြတ် သီတင်းသုံးရာဌာနနှင့် မဝေးကွာလှပေ။

၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၁၂-ရက် (၄-၂-၅၉) ဗုဒ္ဓဟူးနေ့မှ စ၍ ဆွာသီဌာန၌ ဝိပဿနာနှင့် သတိပဋ္ဌာန်တရားကို ဟောသည်။ အရိယာရတန ဒါယကာကြီး ဘာသာပြန်သည်။ တရားဟောချိန်မှာ နေ့စဉ် ၄-နာရီခွဲမှ ၆-နာရီ အထိ တစ်နာရီခွဲကြာသည်။ ၁၅-မိနစ် တရားအားထုတ်စေသည်။ နေ့စဉ် ပရိသတ်မှာ ၃၀၀-ကျော် ၄၀၀-ခန့် ရှိသည်။

၁၃၂၀-ပြည့်၊ ပြာသိုလဆုတ် ၁၅-ရက် (၇-၂-၅၉)နေ့ နံနက် ၆-နာရီ မိနစ်-၅၀ မှာ ဘုရားဖူးရန်အတွက် ကားငယ်လေးစီးဖြင့် မဟာစည်ဆရာတော်

ကို ပင့်ဆောင်ကြသည်။ သီဟိုဠ် မြန်မာ ရဟန်းတပည့် ၆–ပါးနှင့်တကွ ဒါယကာ ဒါယိကာမများကလည်း လိုက်ပါကြသည်။ ဒါယိကာမကြီး မကာ၏ အုန်းခြံကြီးထဲရှိ တိုက်အိမ်၌ နေ့ဆွမ်းကပ်ကြသည်။ နေ့ ၂–နာရီမှာ သာရတ္ထဒီပနီဋီကာ၌ ပုလတ္ထိနာဂရ–ဟု ပြဆိုထားသော) ပေါလနာရုဝ ရှေးဟောင်းဌာသို့ ရောက်၍ ထိုအရပ်၌ ထင်ရှားရှိသော ရှေးဟောင်းစေတီနှင့် ဆင်းတုတော်တို့ကို ဖူးမြော်ကြသည်။ ထိုဌာန၌ ရှေးဟောင်း အဆောက်အဦများကို မြင်ရသောအခါ ပရက္ကမဗာဟုမင်းလက်ထက်က သာသနာပြု မထေရ်မြတ်များ၊ မင်းနှင့်တကွ သာသနဒါယကာများကို မျှော်တွေး၍ အထူးသတိရကြသည်။ ထိုဌာနမှ ညနေ ၆–နာရီ ခန့်မှာ ထွက်ခဲ့၍ ည ၈–နာရီကျော်မှာ အနုရာဓမြို့သို့ရောက်ကြသည်။ တည်းရာဌာန၌ ခေတ္တမျှ နားပြီးလျှင် ထူပါရုံ စေတီတော်ကို မီးပူဇော်၍ ဖူးမြော်ကြသည်။ မြတ်စွာဘုရား၏ ဓာတ်တော်တို့ကို အများဆုံး ဌာပနာရာ စေတီ ဖြစ်သောကြောင့် ဖူးမြော်၍ မဝနိုင်အောင် အထူးသဖြင့် စိတ်ကြည်နူးလှပေ၏။ (၈–၂–၅၉) နောက်နေ့၌ မဟာစေတီနှင့် သဃမိတ္တာ ဗောဓိပင်တို့ကိုလည်းကောင်း၊ ဇေတဝနဝါသီနှင့် အဘယဂိရိ စေတီတော်တို့နှင့်တကွ မဟာဝိဟာရကျောင်းတိုက်နေရာ၊ လောဟပါသာဒနေရာ စသည်တို့ကို တွေ့မြင်ရသောအခါ သင်္ဂါရဝမ္ပတို့၏ အနိစ္စသဘောကို ဆင်ခြင်မိသည့်အပြင် ရှေးသာသနာပြု မထေရ်မြတ်များကိုလည်း အထူး သတိရမိကြလေသည်။ ထိုနေ့မှာပင် နေ့ ၂–နာရီကျော် အချိန်တွင် ရှင်မဟိန္ဒမထေရ် သီဟိုဠ်သို့ ပထမကြွရောက်ရာဖြစ်သော မဟိန္ဒလေတောင်သို့ သွားရောက်၍ ထိုတောင်ရှိ စေတီတော် ဆင်းတုတော်တို့ကို ဖူးမြော်ကြသည်။ ကာဠဗုဒ္ဓရက္ခိတမထေရ်၏ သီတင်းသုံးရာ၊ တရားဟောရာ ဌာနတို့ကိုလည်း သွားရောက်၍ ကြည့်ကြသည်။ မဟိန္ဒလေတောင်နှင့် အနုရာဓမြို့ အကြားတွင် မြတ်လေးပန်း ဥယျာဉ်၌ တည်ရှိနေသော ကျောင်းတစ်ခုသို့လည်း ဝင်ရောက်

ကြည့်ရှုကြသည်။ ထိုသို့ ဝင်ရောက်ခြင်းမှာ မဟာတိဿ မထေရ်သည် ဆွမ်းခံသွားစဉ် မာတုဂါမတစ်ယောက်၏ ရယ်သံကိုကြားရ၍ လှည့်ကြည့်ရာတွင် သွားရိုးကို မြင်သဖြင့် အဋ္ဌိက အသုဘနိမိတ် ထင်လျက် ဈာန်ရကာ ရဟန္တာဖြစ်တော်မူရာ ဌာနဖြစ်ကြောင်း ကြားသိရ၍ အမှတ်တရ ဖြစ်စေရန် ဝင်ရောက်ခြင်း ဖြစ်ပေသည်။

၁၃၂၀-ပြည့်၊ တပို့တွဲလဆန်း ၂-ရက် (၉-၂-၅၉)နေ့ နံနက် ၈-နာရီမှာ အနုရာဓမြို့မှ ထွက်ခွာခဲ့ကြသည်။ အဝုကနဋ္ဌ နေ့ဆွမ်းကပ်သည်။ နေ့ ၂-နာရီ ဒမ္ဗုလရောက်သည်။ ဒမ္ဗုလတောင်ပေါ် လိုဏ်ဂူအတွင်းရှိ ဆင်းတုတော်တို့ကို ဖူးမြော်ကန်တော့ ကြသည်။ ၎င်းဌာနမှ ၄-နာရီထွက်ခဲ့၍ ညနေ ၅-နာရီမှာ ပေထက်အက္ခရာတင်ရာ အာလောကလိုဏ်ခေါ် အာလုဝိဟာရသို့ရောက်သည်။ ထိုလိုဏ်၌ရှိသော ဆင်းတုတော်များကို ဖူးမြော်ကြလျက် ပေထက်အက္ခရာ တင်တော်မူခဲ့ကြသော မထေရ်မြတ်တို့၏ ဂုဏ်ကျေးဇူးကို အောက်မေ့ကြသည်။ ၎င်းဌာနမှ ၅-နာရီခွဲ ထွက်ခဲ့ကြ၍ ၆-နာရီခွဲခန့်မှာ ကန္ဒီမြို့ မြန်မာကျောင်းသို့ ရောက်ကြသည်။

၁၃၂၀-ပြည့်၊ တပို့တွဲလဆန်း ၃-ရက် (၁၀-၂-၅၉)နေ့ နံနက် ၆-နာရီမှာ စွယ်တော်တိုက်ကို ဖူးမြော်ကြသည်။ ထိုမြို့တွင်ရှိသော မြန်မာသီလရှင် ဒေါ်ဝိစာရ၏ကျောင်း၌ နေ့ဆွမ်းကပ်သည်။ ထိုသီလရှင်ကျောင်း၌ပင် ညနေ ၃-နာရီ၌ မဟာစည်ဆရာတော်က တရားဟောသည်။ ဆရာတော်နှင့် အတူပါလာသော ဘိက္ခုကြသပခေါ် သီဟိုဠ်ရဟန်းက သီဟိုဠ်ဘာသာပြန်သည်။ တရားဟောပြီးနောက် ၄-နာရီ ၁၅-မိနစ်၌ ၎င်းဌာနမှ ထွက်ခွာလာခဲ့ကြသည်။ ည၌ ၈-နာရီ အချိန် ကိုလံဘို မက္ကသီဌာနသို့ ပြန်ရောက်ကြသည်။

၁၃၂၀-ပြည့်၊ တပို့တွဲလဆန်း ၄-ရက်(၁၁-၂-၅၉) နေ့ ၂-နာရီခွဲ၌ နောက်ပါ တပည့်များနှင့်တကွ မဟာစည်ဆရာတော်ကို သီဟိုဠ်ဒါယကာ

ဒါယိကာမများက ကန္တာရဗောဒသို့ ပင်ဆောင်ကြသည်။ ၃–နာရီခွဲမှာ ကန္တာရဗောဒ ကမ္မဋ္ဌာန်းဌာနသို့ ရောက်သည်။ ထိုဌာန၌ တရားအစည်းအဝေးပွဲ ဖွင့်၍ သီဟိုဠ်ဆရာတော်များက ရှေးဦးစွာ ဟောပြောကြသည်။ ထိုနေ့က အချိန်နည်းသွားသောကြောင့် မဟာစည်ဆရာတော်သည် အနည်းငယ်မျှသာ ပြောဟော၍ နောက်နေ့သို့ ချိန်းပြီးလျှင် အစည်းအဝေးပွဲကို ရုပ်သိမ်းလိုက်သည်။ (၁၂–၂–၅၉) နောက်တစ်နေ့ မဟာစည် ဆရာတော် ၃–နာရီမှ ၅–နာရီအထိ စတုသစ္စကမ္မဋ္ဌာန်းတရားကို ဟောသည်။ အရိယရတနာ ဟောရသောကြောင့် တရားဟောရသည်မှာ အလွန်ပင် အားတက်ဟန် လက္ခဏာရှိ၏။ ထိုကန္တာရဗောဒဌာနသည် ရှေ့နံပါတ် (၁၄၄) စသည်၌ ပြခဲ့သည့်အတိုင်း သီဟိုဠ်တွင် အကြီးဆုံး အခိုင်အခံ့ အပြည့်အစုံဆုံး ကမ္မဋ္ဌာန်းဌာန ဖြစ်သည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆန်း ၆–ရက် (၁၃–၂–၅၉)နေ့ နံနက် ၉–နာရီအချိန် တပည့် ရဟန်းတော်များ၊ ကပ္ပိယဒကာများနှင့်တကွ မဟာစည်ဆရာတော်ကို ကန္တာရဗောဒမှ ပင့်ဆောင်ကြသည်။ ၉–နာရီခွဲအချိန် ဒနဝုကန္ဒ အုန်းခြံကြီးအတွင်းရှိ ဌာနသို့ ရောက်သည်။ ထိုခြံပိုင်ရှင် ဒါယကာကြီး၊ ဒါယိကာမကြီး နှစ်ဦးလုံးပင် အလွန် သဒ္ဓါတရား ကောင်းကြ၏။ ထိုအုန်းခြံထဲ၌ ရဟန်းရောလူရော တရားအားထုတ်ရန် အဆောက်အဦများ ဆောက်လုပ်ထားသည်။ မိမိတို့ကိုယ်တိုင်လည်း အားထုတ်၍ တပည့်အလုပ်သမားတို့ကိုလည်း ကျွေးမွေး၍ အားထုတ်စေသည်။ ထိုရောက်စနေ့၌ ရောက်လာသော ပရိသတ်အား အတ္တဟိတ ပဋိပန္နစသော ပုဂ္ဂိုလ် ၄–မျိုးနှင့် စပ်သော တရားကို ဟောသည်။ (၁၄–၂–၅၉) နောက်တစ်နေ့၌ ခြံရှင် ဒကာကြီးကလည်း ဗဟုသုတများသောကြောင့် ထိုဌာန၌ စက္ခုန္ဓ ပဋိစ္စ ရူပေစ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံစသော ပဋိစ္စသမုပ္ပါဒ် တရားကို ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆန်း ၈–ရက် (၁၅–၂–၅၉)နေ့ နံနက် ၇–နာရီခန့်မှာ ဒနုဝုကန္ဒမှ ပင့်ဆောင်ကြသည်။ ၁၀–နာရီခွဲမှာ နာဂဥယျာဉ် (နာဂဝနဥယျာန) တောကျောင်းသို့ ရောက်သည်။ ထိုတောကျောင်းမှာ ပတ်ဝန်းကျင်တွင် ထိုထိုအရပ်တို့၌ သစ်ပင်ရိပ်တို့ဖြင့် စပ်လျက်ရှိသော သစ်တောကြီးအတွင်း၌ ဖြစ်သည်။ အနီးအပါး၌ ရွာမရှိ၊ အလွန်တိတ်ဆိတ်သည်။ တောင်မှ စမ်းရေယဉ်လည်း တသွင်သွင်ထွက်နေသဖြင့် အလွန်ပင် စိတ်ကြည်နူးဖွယ်ကောင်းသော ကမ္မဋ္ဌာန်းဌာနတစ်ခု ဖြစ်သည်။ ကျောက်တောင်မှ ဘေးသို့ထွက်နေသော လူတရပ်ကျော်ကျော်မြင့်သည့် ကျောက်အဖီစွယ်ကြီးကို ဘေးမှ ကျောက်အင်္ဂတေဖြင့် နံရံကာထားသော လိုဏ်အတွင်း၌ ဆွမ်းကပ်ကြသည်။ ထိုဌာန၌ အနုမောဒနာတရားဟောပြီးလျှင် ခေတ္တမျှ နားနေပြီးနောက် ကားရပ်ထားခဲ့ရာဌာနသို့ တစ်နာရီခန့်လမ်းလျှောက်လာခဲ့ကြရသည်။ နေ့ ၂–နာရီကျော်မှာ ကားထွက်သည်။ ၃–နာရီခွဲမှာ ကုရုနေဂလမြို့သို့ရောက်သည်။ ထိုမြို့၌ တရားနာရန် စုဝေးနေနှင့်ကြသော ပရိသတ်အား နတ်ပြည်မှ မှာတမ်း ၃–ခွန်းကို အရင်းခံ၍ ဝိပဿနာတရားကို ဟောသည်။ ဘိက္ခုကဿပက ဘာသာပြန်သည်။ ၅–နာရီခန့်မှာ ထိုဌာနမှ ထွက်ခဲ့ကြသည်။ ၇–နာရီခန့်မှာ မက္ကာသိ ဌာနသို့ ပြန်ရောက်ကြသည်။ (၁၆၊၁၇–၂–၅၉) နောက် ၂–ရက်မှာ မက္ကာသိဌာန၌ပင် သတိပဋ္ဌာန်တရားကို ဆက်ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆန်း ၁၀–ရက် (၁၈–၂–၅၉)နေ့ နံနက် ၇–နာရီခန့်မှာ တပည့်ပရိသတ်များနှင့်တကွ မဟာစည်ဆရာတော်ကို တိဿမဟာရာမသို့ ပင့်ဆောင်ကြသည်။ ၁၀–နာရီကျော်တွင် ဂေါလ်မြို့သို့ရောက်၍ ဒိသာနာယကခေါ်သော ဒါယကာ၏ အိမ်၌ ဆွမ်းကပ်သည်။ ထိုဒကာလည်း သဒ္ဓါတရားကောင်းသည်။ တောကျောင်းတစ်ခု ဆောက်လုပ်ထားပြီးလျှင် ထိုကျောင်း၌ တရား

အားထုတ်သူတို့ကို တစ်ဦးတည်းက တာဝန်ယူ၍ ထောက်ပံ့ လှူဒါန်းနေသည်။ အချိန်မရ၍ အနုမောဒနာလောက်သာ ဟောရသည်။ ၎င်းမှ နေ့ ၃-နာရီခန့် ထွက်ခဲ့၍ ၃-နာရီခွဲခန့်မှာ မာကရ (မဟာတိတ္ထ)မြို့သို့ရောက်သည်။ ထိုမြို့၌ ယောဂီတော်တော်များများရှိသည်။ စာသင်ကျောင်းတစ်ခု၌ တရားနာရန် အသင့် စုပြီးသားရှိနေသည်။ အမျိုးသမီးသတ်သတ် အမျိုးသားသတ်သတ် အစီအစဉ်ဖြင့် သပ်သပ်ရပ်ရပ် ထိုင်နေကြသည်။ အချင်းချင်း စကားပြောခြင်းမရှိ၊ အလွန် ငြိမ်သက်သည်။ မြန်မာနိုင်ငံက တရားနာပရိသတ်နှင့် မတူပေ။ ထို့ကြောင့် မဟာစည်ဆရာတော်မှာ အာရဒ္ဓေါသ္မိ ဘိက္ခဝေ တုမှာယ ပဋိပဒါယ၊ အာရဒ္ဓစိတ္တောသ္မိ ဘိက္ခဝေ တုမှာယ ပဋိပဒါယ၊ တသ္မာတိဟ ဘိက္ခဝေ ဘိယျောသော မတ္တာယ ဝီရိယံ အာရဘထ အပ္ပတ္တဿ ပတ္တိယာ အနဓိဂတဿ အဓိဂမာယ အသစ္ဆိကတဿ သစ္ဆိကရိယာယ။ ရဟန်းတို့ ဤသို့ ငြိမ်သက် တိတ်ဆိတ်စွာ နေသော အကျင့်ဖြင့် သင်တို့အား ငါဘုရား အားရကျေနပ်တော် မူလှပေ၏။ အားရကျေနပ်သော စိတ် ရှိလှပေ၏။ သို့ဖြစ်၍ သင်တို့သည် မရောက်သေးသော တရားသို့ရောက်ရန်၊ မရသေးသောတရားကို ရရန်၊ မျက်မှောက် မပြုရသေးသော တရားကို မျက်မှောက်ပြုရန်အတွက် အတိုင်းထက်အလွန် တိုး၍ အားထုတ်ကြကုန်လော့ဟု အားပေး ဟောကြားတော်မူသော အာနာပါနဿတိ သုတ်၏ နိဒါန်းစကားကို သတိပေါ်လာပေသည်။ ထို့ကြောင့် ထိုစကားကိုပင် အရင်းခံ၍ ဝိပဿနာတရားကို တနာရီခန့် ဟောသည်။ ဘိက္ခုကဿပက ဘာသာ ပြန်သည်။ ၄-နာရီ မိနစ် ၂၀-မှာ ထိုမြို့မှ ထွက်ခဲ့၍ ၇-နာရီခန့်မှာ မာဂမ္ဘော တိဿမဟာရာမကျောင်းတိုက်သို့ ရောက်သည်။ ထိုကျောင်းတိုက်၌ ဒုဋ္ဌဂါမဏိ မင်းကြီး၏ ခမည်းတော် ကာကဝဏ္ဏတိဿမင်းကြီး တည်ထားခဲ့သော တိဿ စေတီရှိသည်။ ၎င်းစေတီ၏ အနောက်မြောက်ဘက်အရပ်၌ တမာပင်မှာ ဘုရား

ဘက်သို့ သွားသော ကိုင်းမှ အရွက်များသည် မခါးဘဲ ချိုနေသည်။ ထိုအကြောင်းကို ဒိဋ္ဌသိရန် သီဟိုဠ် ကပ္ပိယ ဒကာတစ်ဦးက ထိုကိုင်းမှ တမာရွက်ကို ခူးပေးသည်။ ၎င်းကို မဟာစည်ဆရာတော်ကိုယ်တိုင် စုံစမ်းကြည့်ရာ ချိုနေသည်ကို တွေ့ရသည်။ ထိုရွာ၏ မာဂမဟူသော အမည်မှာ ထိုကာကဝဏ္ဏတိဿမင်းကြီး၏ စံရာ မဟာဂါမမှ ဖြစ်လာသည်ဟု ဆို၏။ ထို့ပြင် တိဿမဟာရာမ ကျောင်းတိုက်မှာလည်း ရှေးက ထင်ရှားကျော်ကြားသော မထေရ်တို့၏ သီတင်းသုံးရာ ဌာနဖြစ်၍ မဟာသိဝမထေရ်၏ စာချလျက် သီတင်းသုံးရာ နေရာလည်းဖြစ်သည်ဟု ဆို၏။ ထိုကျောင်း၌ ယခုရှိနေသော သီဟိုဠ်ဆရာတော်မှာလည်း သဒ္ဓါတရားကောင်းသည်။ ကျောင်းဝတ္ထု ကံမြေများမှ ရသမျှဖြင့် လာလာသမျှ ဘုရားဖူးတို့ကို ကျွေးမွေးပြုစုလေ့ ရှိသည်။ မဟာစည်ဆရာတော်တို့၏ အဖွဲ့ကိုလည်း အစစအရာရာ လိုလေသေးမရှိရအောင် ပြုစု စောင့်ရှောက်လိုက်သည်ကို မဟာစည်ဆရာတော်က ယခုထက်တိုင် အမှတ်ရလျက် ရှိသေးသည် ဟူ၏။

၁၃၂၀–ပြည့်၊ တပို့တွဲလဆန်း ၁၂–ရက် (၁၉–၂–၅၉)နေ့ နံနက် ၈–နာရီခွဲမှာ စိတ္တလတောင်သို့ ပို့ဆောင်ကြသည်။ ၁၅–မိနစ်ခန့် သွားမိသောအခါ၊ တောစခန်းတောလမ်းသို့ ရောက်သည်။ ကားလမ်းမဟုတ်၊ လှည်းလမ်းမျှသာ ဖြစ်သည်။ ထိုလှည်းလမ်းမှာလည်း နေ့စဉ် အသွားအလာ မရှိဘဲ တရံတခါ၌သာ အသွားအလာ ရှိဟန်တူသည်။ လိုက်ပို့သော ကားများမှာလည်း သစ်သစ်လွင်လွင် ဆလွန်းကားငယ်ကလေးများ ဖြစ်၍ ထိုကားမျိုးဖြင့် မသွားသင့်သော လမ်းဟု မဟာစည်ဆရာတော်၏ စိတ်၌ ထင်မြင်သဖြင့် ထိုအရပ်မှပင် ပြန်ကြရန် ပြောသည်။ ထိုအခါ ကားပိုင်ရှင် ဒိသာနာယက ဒကာက ကိစ္စမရှိပါဘူး၊ လမ်းကောင်းပါသည်၊ သွားနိုင်ပါသည်ဟု လျှောက်ထားပြီးလျှင် ဆက်လက်၍ သွားစေသည်။ ထိုလမ်းမှာ တောစခန်းသက်သက်ဖြစ်သည်။ ပတ်ဝန်းကျင်

အနီးအပါး၌ လူနေအိမ်ခြေ ရှိဟန်မတူ။ ထိုတောအရပ်ကိုလည်း သားတို့အား မပစ်ခတ် မနှိပ်စက်ရန် ဘေးမဲ့ပေးထားသည်ဟု ဆို၏။ အစိုးရကထားသော အစောင့်အရှောက်အိမ် တစ်ခုကိုသာ လမ်းဘေး၌ တွေ့ခဲ့ရ၏။ သမင်၊ မျောက် စသော သတ္တဝါတို့ အုပ်လိုက်၊ အစုလိုက် သွားလာနေသည်ကို တွေ့ခဲ့ရ၏။ လမ်းပေါ်၌ ကျွဲရိုင်းများ ဖြတ်သန်းသွားလာနေသည်ကို တွေ့ရ၍ ကားကို ရပ်တန့်ပြီး ခေတ္တစောင့်ဆိုင်းနေခဲ့ရ၏။ အချို့နေရာ၌ လမ်းမှာ တော်တော်ဆိုး၏။ ရေစီးကြောင်းဖြစ်၍ နိမ့်ခွက်နေသော နေရာကို တောသစ်သား ထင်းချောင်းများကို ခင်းလျက် တံတားလုပ်ထားသည်ကို တွေ့ရ၏။ ထိုသို့သော နေရာကို ဖြတ်ကျော်သည့်အခါ ကားပျက်သွားမည်ကို စိုးရိမ်စရာပင်။ သို့သော် သီဟိုဠ်ဒကာတို့သည် ဘုရားဖူးပို့ဆောင်ရန် အလွန် သဒ္ဓါထက်သန်ကြ၏။ မိမိတို့၏ ကားကို ငဲ့ကွက်ခြင်း မရှိဘဲ ထိုမျှလောက်ဆိုးသော လမ်းကိုလည်း အတင်းမောင်းစေကြသည်ပင်။ တကယ့် စေတနာရှင်တွေပါတကားဟု စိတ်ထဲက ချီးကျူးဖွယ်ပင်။ ထိုဘုန်းကြီးက ပြောသည်မှာ တရံတခါ၌ ကျောင်းအနီးသို့ ဆင်းလာပြီးလျှင် စိုက်ပျိုးထားသော သစ်ပင်များကို ဖျက်ဆီးသွားကြောင်း ပြော၏။ ထိုကျောင်းအနီး ပတ်ဝန်းကျင်၌ ဆင်ချေးများကိုလည်း တွေ့ရ၏။ ဆွမ်းစားပြီးနောက် ထိုတောင်ခြေ၌ ပြုလုပ်ထားသော လိုဏ်ဂူကြီးအတွင်းရှိ ဆင်းတုတော်များကို ဖူးမြော်ပြီးလျှင် ရှေးက ရဟန္တာပေါင်း ထောင်သောင်းများစွာတို့၏ သီတင်းသုံးရာဖြစ်သော ကျောင်းကုန်းနေရာတို့ ကို လှည့်လည်ကြည့်ရှုကာ အာရုံပြုကြသည်။ နေ့ ၂–နာရီခွဲ ပြန်လာကြသည်။ ညနေ ၄–နာရီမှာ တိဿမဟာရာမကျောင်းတိုက်သို့ ပြန်ရောက်သည်။ ၎င်းမှ ၄–နာရီခွဲထွက်လာခဲ့ရာ ဂေါလ်တောကျောင်းသို့ ည ၇–နာရီရောက်သည်။ ထိုတောကျောင်းမှာ ကားဖြင့် လိုက်ပို့သော ဒီသာနာယက ဒကာကြီး၏ ကောင်းမှုဖြစ်သည်။ ထိုကျောင်းမှ နံနက် ၈–နာရီအချိန်

ထွက်ခွာလာခဲ့ရာ ပါနဒူရမြို့သို့ ၁၀–နာရီရောက်သည်။ နေ့ ၂–နာရီခွဲမှာ ထိုမြို့ တောင်းဟောခန်းမ၌ ဩဝါဒကထာတရား ဟောကြားသည်။ ၃–နာရီခွဲ ထိုမြို့မှ ထွက်ခဲ့၍ ၄–နာရီကျော်မှာ ကိုလံဘိုမြို့ မဏ္ဍာသီဌာနသို့ ပြန်ရောက်သည်။ ၅–နာရီခွဲ၌ ဌာနတွင် သတိပဋ္ဌာန်တရားကို ဆက်ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆန်း ၁၄–ရက် (၂၁–၂–၅၉) နံနက်ပိုင်း၌ မိနုဝံဂေါဒ ကမ္မဋ္ဌာန်းဌာနသို့ သွား၍ အာရမ္ဘထ စသော ဂါထာကို မူတည်၍ တရားဟော သည်။ နေ့ ၂–နာရီ ထောင်ထဲ၌ ကမ္မသကတာသမ္မာဒိဋ္ဌိအကြောင်း ဟောသည်။ ညနေ ၅–နာရီခွဲမှာ မဏ္ဍာသီဌာန၌ သတိပဋ္ဌာန် တရားကို ဆက်ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလပြည့်နေ့ (၂၂–၂–၅၉) နံနက် ၈–နာရီ မဏ္ဍာသီဌာန၌ အမှတ်ပေး တရားဟောသည်။ နေ့ ၃–နာရီ ဝိသုဒ္ဓါရာမသို့ ဉပုသ်ပြုသွားကြ သည်။ ထိုကျောင်းတိုက်၌ ဒကာ ဒကာမတို့အား နတ်ပြည်မှ မှာတမ်းစကား (၃)ခွန်းအကြောင်း ဟောခဲ့သည်။ မဏ္ဍာသီဌာန၌ ပဋိစ္စသမုပ္ပါဒ်တရား ဟောသည်။ (၂၃–၂–၅၉) နောက်နေ့ နံနက် ၈–နာရီခွဲအချိန် ကိုလံဘိုမြို့ရှိ အနုဋ္ဌာဝိဇ္ဇာဘာယခေါ် အမျိုးသမီးကျောင်း၌ ဓမ္မာကာမော ဘဝံ ဟောတိ စသော ဂါထာကို အရင်းခံ၍ တစ်နာရီခန့် တရားဟောသည်။ ညနေ ၅–နာရီခွဲ အချိန်၌ မဏ္ဍာသီဌာနတွင် ပဋိစ္စသမုပ္ပါဒ်နှင့် သတိပဋ္ဌာန်ကို ဆက်ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆုတ် ၂–ရက် (၂၄–၂–၅၉) နေ့ ၂–နာရီအချိန် တလဂလ ကမ္မဋ္ဌာန်းဌာနသို့ သွား၍ တစ်နာရီခန့် မင်္ဂလသုတ်ပါး တရားဟောသည်။ ညနေ ၅–နာရီအချိန် မဏ္ဍာသီဌာန၌ သတိပဋ္ဌာန်ကို ဆက်ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆုတ် ၃–ရက် (၂၅–၂–၅၉) နေ့ ၂–နာရီ ဗလံဂေါဒသို့ တရားဟောရန် ကားဖြင့် ပင့်သည်။ ၆–နာရီကျော်မှာ ဗလံဂေါဒသို့ ရောက်သည်။ ၎င်းဌာနမှာ အဂ္ဂမဟာ ပဏ္ဍိတ အရှင်အာနန္ဒမေတ္တေယျ၏

ကျောင်းတိုက်ဖြစ်သည်။ ထိုဌာနၶ မင်္ဂလာရှစ်ပါး တရားကို ဟောသည်။ ၎င်းမှ ည ၉–နာရီခွဲ ပြန်ထွက်လာသည်။ ည ၁–နာရီခွဲမှာ ကိုလံဘိုမြို့ မဟ္ကာသီဌာနသို့ ပြန်ရောက်သည်။ ထိုညဥ့်က အိပ်ချိန်နည်းသွားသည်။ ထိုသို့ အဆင်းရဲခံ၍ သာသနာပြုရသည့်အတွက် ရှေးက သာသနာပြု မထေရ်တို့၏ ဉာဏ်ကို အာရုံပြုလျက် မဟာစည်ဆရာတော်မှာ ဝမ်းမြောက်သည် ဟူ၏။

၁၃၂၀–ပြည့်၊ တပို့တွဲလဆုတ် ၄–ရက် (၂၆–၂–၅၉) ညနေ ၆–နာရီအချိန် ဂျာမန် ဓမ္မဒူတဌာနၶ ဝိပဿနာ သမ္မာဒိဋ္ဌိ အကြောင်းဟောသည်။ ပရိသတ် ၃၀၀–ကျော် ရှိသည်။ အရိယရတန ဒါယကာကြီးက ဘာသာပြန်သည်။ ၂–နာရီခန့်ကြာသည်။ (၂၇–၂–၅၉) မှ (၅–၃–၅၉) အထိ ၇–ရက်အတွင်းမှာ မဟ္ကာသီဌာနၶပင် သတိပဋ္ဌာန် တရားကို ဆက်ဟောသည်။

၁၃၂၀–ပြည့်၊ တပို့တွဲလဆုတ် ၁၁–ရက် (၅–၃–၅၉) ည ၇–နာရီခွဲအချိန်၌ မဟ္ကာသီဌာနဆိုင်ရာ လင်္ကာ ဝိပဿနာ ဘာဝနာ အသင်းသူ အသင်းသားတို့အား ပဋိပတ် သာသနာပြု လုပ်ငန်းနှင့် စပ်သော ဩဝါဒကထာ တရားကို ဟောကြားသည်။

ဤမှတ်တမ်း၌ အထူး ဖော်ပြသင့်သည်မှာ ကိုလံဘိုမြို့၊ မာယာလမ်း၊ ယမုနာ ခြံနေ ဝတ်လုံတော် ဒါယိကာမကြီး နိစ်ကာသည် နောက်ပါ မြန်မာဒကာ၊ ဒကာမ များနှင့် တကွ မဟာစည်ဆရာတော် အမှူးရှိသော သာသနာပြုအဖွဲ့ ဆရာတော် များအား သီဟိုဠ်သို့ ရောက်သည့်နေ့မှ စ၍ ဆွေမျိုးအရင်းကဲ့သို့ ပြုစုစောင့်ရှောက် ပေး၏။ ဘုရားဖူးရန်ဖြစ်စေ၊ တရားဟောရန်ဖြစ်စေ၊ ဝေးလံသော ဌာနများသို့ ကြွလျှင်လည်း မိမိ၏ ကိုယ်ပိုင်ကားဖြင့် နောက်က လိုက်ပါလျက် နေရာထိုင်ခင်း နှင့် ဆွမ်း အဖျော် စသည်အတွက် အစစအရာရာ ပြည့်စုံအောင် စီမံရွက်ဆောင် ပေးသည်။ တကယ့် သာသနာပြု ဒါယိကာမကြီးပါပေတည်း။

၁၃၂၀–ပြည့်၊ တပို့တွဲလဆုတ် ၁၂–ရက် (၆–၃–၅၉) သောကြာနေ့ နံနက် ၈–နာရီ ၁၅–မိနစ် အချိန်မှာ မြန်မာနိုင်ငံ ပြန်လိုက်ကြမည့် တပည့် ပရိသတ်များနှင့်တကွ မဟာစည်ဆရာတော်ကို လံကာ ဝိပဿနာ ဘာဝနာ အသင်းသူ အသင်းသား များစွာတို့က သင်္ဘောဆိပ်သို့ သိုက်မြိုက်စွာ ပို့ဆောင်ကြသည်။ များစွာသော ဒကာ ဒကာမတို့မှ ဆရာတော် ဟောကြားသော တရားတော်ကို သတိရသောအားဖြင့် လည်းကောင်း၊ တရားမနာရမည်ကို တွေးမိ၍ လည်းကောင်း ဝမ်းနည်းသည့် လက္ခဏာရှိသော မျက်နှာတို့ဖြင့် ကန်တော့နှုတ်ဆက်ကြသည်။ နံနက် ၉–နာရီ အချိန်မှာ ဘိဘိလိုင်း သင်္ဘောကြီးပေါ်သို့ ရောက်သည်။ ထိုနေ့ အတွက် နေ့ဆွမ်းကို သင်္ဘောပေါ်၌ ကပ်သည်။ ညနေ ၆–နာရီခွဲအချိန်မှာ သင်္ဘောထွက်သည်။ ထိုအချိန်မှာ သီဟိုဠ်ကျွန်းသူကျွန်းသား အားလုံးတို့အား ရည်စူး၍ မဟာစည်ဆရာတော်က အထူးမေတ္တာပို့သည်။ ပဋိပတ္တိ သာသနာ ပြန့်ပွားရေးအတွက်လည်း အထူးဆုတောင်း မေတ္တာပို့သည်ဟူ၏။

၁၃၂၀–ပြည့်၊ တပို့တွဲလဆုတ် ၁၃–ရက် (၇–၃–၅၉)နေ့ နံနက် ၈–နာရီ အချိန်မှာ သီဟိုဠ်ကျွန်းမှ တောင်များကို သင်္ဘောပေါ်မှ ရေးရေးသာ မြင်ရတော့ သည်။ ထိုအချိန်မှာလည်း သီဟိုဠ်နှင့် ပဋိပတ္တိ သာသနာအတွက် အထူး မေတ္တာပို့ သည် ဟူ၏။ နံနက် ၉–နာရီမှ စ၍ ကမ်းကို မမြင်ရ၊ ပတ်ဝန်းကျင်၌ ရေပြင် စိမ်းလဲ့လဲ့ကိုသာ မြင်ရတော့သည်။ ထိုအခါ မဟာစည် ဆရာတော်သည် အဋ္ဌသာလိနီ အဋ္ဌကထာ နိဒါန်းပြဆိုထားသော မဟာဂတိဂမိယတိဿ မထေရ်၏ ဆင်ခြင်တော်မူပုံကို သတိရလာလေသတတ်။

မဟာဂတိဂမိယတိဿမထေရ်သည် မဟာဗောဓိကို ဖူးမြော်ရန် သီဟိုဠ်မှ အိန္ဒိယသို့ သင်္ဘောဖြင့် ပင်လယ်ကိုဖြတ်၍ ကူးစဉ် မဟာသမုဒ္ဒရာကို မျှော်၍ ကြည့်မိရာ အိန္ဒိယဘက်က ကမ်းကိုလည်း မမြင်၊ သီဟိုဠ်ဘက်က ကမ်းကိုလည်း

မမြင်၊ လှိုင်းအဟုန်ဖြင့် ဖြာ၍ဖြာ၍ တက်လာသောရေမှုန် ရေယဉ် ရေပန်းတို့ဖြင့် ပြွမ်းလျက် ဖြန့်ခင်းထားသော ငွေပြားမြတ်လေး ပန်းအခင်းတို့နှင့် တူသော သမုဒ္ဒရာကိုသာ ပတ်ဝန်းကျင်၌ တွေ့မြင်ရသတဲ့။ ထိုအခါ မဟာသမုဒ္ဒရာ၏ လှိုင်းအဟုန်ကဘဲ အားကြီးပြီး ကျယ်ဝန်းလေသလော။ သို့မဟုတ် ၂၄-ပါး အပြားရှိသော သမန္တပဋ္ဌာန်ကျမ်း၌ ပြထားသော နည်းအမြွက်ကဘဲ အားကြီးပြီး ကျယ်ဝန်းလေသလောဟု ထိုမထေရ်က ကြံစည်မိပါသတဲ့။ ထိုသို့ကြံစည်မိသော အခါ မထေရ်မြတ်၏ ဉာဏ်ထဲ၌ အမှန်မှာတော့ မဟာသမုဒ္ဒရာမှာ အပိုင်းအခြား အကန့်အသတ် ရှိသေး၏။ အောက်ဖက်မှာ မြေကြီးဖြင့် အထက်ဖက်မှာ ကောင်းကင်ဖြင့် ဘေးဘက်မှာ ကျွန်းမြေ၏ ကမ်းဖြင့် အပိုင်းအခြား အကန့် အသတ်ရှိသေး၏။ သမန္တ ပဋ္ဌာန်းကျမ်းကြီးမှာတော့ အဆုံးအပိုင်းအခြား အကန့်အသတ် မထင်ပါတကားဟု စဉ်းစားမိပါသတဲ့။ ဤသို့ စဉ်းစားနေစဉ် မှာပင် သိမ်မွေ့နူးညံ့သော တရားကို ဆင်ခြင်လျက် ပီတိပါမောဇ္ဇတွေ ဖြစ်ပြီးတော့ ထိုပီတိကို ခွာကာ ဝိပဿနာရှုသဖြင့် ရဟန္တာအဖြစ်သို့ ရောက်တော်မူပါ သတဲ့။ ဤသည်ကား မဟာဂတိဂမိယတိဿမထေရ်၏ အတ္ထုပ္ပတ္တိ အကျဉ်းချုပ် ဖြစ်ပါ သည်။

၁၃၂၀-ပြည့်၊ တပို့တွဲ လကွယ်နေ့ (၈-၃-၅၉) ဤနေ့သည်ကား ရဟန်းတော်တို့အား ဥပုသ်ပြုရမည့်နေ့ဖြစ်သောကြောင့် မဟာစည်ဆရာတော် သည် မိမိနှင့်အတူ ပါလာသော ပဲခူး သာသနာ့ရိပ်သာမှ နာယကဆရာတော် ဖြစ်သည့် တပည့် ဦးပညဝါနှင့် သင်္ဘောကြီး၏ ဦးဘက်တွင် ညနေ ၆-နာရီ အချိန်၌ ရေသိမ်ကို ရည်ရွယ်၍ အချင်းချင်း ပါရိသုဒ္ဓိကိုပြောလျက် ပါရိသုဒ္ဓိဥပုသ် ပြုတော်မူသည်။ (၉-၃-၅၉)နောက်တစ်နေ့ ညနေ ၅-နာရီတွင် ကပ္ပလီကျွန်းစုကို တွေ့မြင်ရ၏။

၁၃၂၀-ပြည့်၊ တပေါင်းလဆန်း ၂-ရက် (၁၀-၃-၅၉) အင်္ဂါနေ့မှာ ပင်လယ်ရေပြာကို တွေ့လာခဲ့ရာမှ ၆-နာရီခန့်တွင် ပင်လယ်ရေစိမ်းကို တွေ့ရသည်။ ၈-နာရီမှာ ရေနောက်ကို တွေ့ရသည်။ ရေနောက်ကို တွေ့ရသဖြင့် မြန်မာပြည် ကမ်းခြေနှင့် နီးလာကြောင်း သိရ၏။ နံနက် ၁၀-နာရီမှာ မြန်မာပြည် ကမ်းခြေကို မြင်ရသည်။ နေ့ ၁-နာရီမှာ ရန်ကုန်မြစ်သို့ ဝင်သည်။ ၃-နာရီခွဲမှာ ရန်ကုန်ဆိပ်ကမ်းသို့ ရောက်သည်။ ကမ်းပေါ်မှ ကြိုဆိုနေကြသော တပည့်ရဟန်းတော်များ၊ ဒါယကာ ဒါယိကာမများကို သင်္ဘောပေါ်မှ တွေ့မြင်ရသည်။ ကတ်စတန်မှ အခွင့်ပြုသူ ၃-ဦးခန့် သင်္ဘောပေါ်သို့ တက်ရောက် ကန်တော့လျက် ကြိုဆိုကြသည်။ သာသနာ့ရိပ်သာသို့ ၅-နာရီခွဲမှာ ရောက်သည်။

ကျောင်းရောက်၍ ဘုရားကို ကန်တော့ပြီးသောအခါ သီဟိုဠ်၌ သာသနာပြုရန် ချန်ထား ခဲ့သော ဦးသုဇာတ၊ ဦးအာလောက၊ ဦးပဏ္ဍိတတို့အား လည်းကောင်း၊ ဒါယိကာမကြီး နိစံကာနှင့်တကွ လံကာ ဝိပဿနာ ဘာဝနာ အသင်းသူ အသင်းသားတို့အား လည်းကောင်း အထူး မေတ္တာပို့ခြင်းဖြင့် မဟာစည်ဆရာတော်ကိုယ်တိုင် ကြွရောက်၍ ဆောင်ရွက်ခဲ့သော သီဟိုဠ် သာသနာပြု ကိစ္စတစ်ရပ်သည် ဤ၌တွင် အပြီးသတ်ပါတော့သည်။

၁၃၂၀-ပြည့်၊ နှောင်းတန်ခူး လဆန်း ၈-ရက် တနင်္ဂနွေ နေ့တွင် ကောတာဝ ကမ္မဋ္ဌာန်းဌာနကို ဖွင့်၍ တစ်နှစ်ကျော်မျှ အရှင်အာလောကနှင့် အရှင်ပဏ္ဍိတ ဘိဝံသတို့ သီဟိုဠ်ကျွန်း၌ သီတင်းသုံးကြလျက် တရားဟော တရားပြ ကိစ္စများကို ကြိုးပမ်းဆောင်ရွက်တော်မူကြသည်။

❀ ❀ ❀

## အင်ဒိုနီးရှား ပြည်၌ သာသနာပြုခြင်း

၁၃၁၅–ခု၊ နတ်တော်လဆန်း ၁၁–ရက် (၁၇–၁၂–၅၃)က အင်ဒိုနီးရှားပြည်၊ ဂျာဝါးကျွန်း၊ ဂျကာတာမြို့မှ မစ္စတာဘွန်အန် အမည်ရှိသော ကျောင်းဆရာ တစ်ဦးသည် မြန်မာနိုင်ငံ ရန်ကုန်မြို့ သာသနာ့ရိပ်သာသို့ လာရောက်ပြီးလျှင် မဟာစည် ဆရာတော်၏ ထံ၌ သြဝါဒကို ခံယူ၍ ဝိပဿနာ ဘာဝနာတရားကို ကျင့်သုံးအားထုတ်ခဲ့သည်။

၎င်းဘွန်အန်သည် မဟာစည်ဆရာတော်နှင့် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဉာဏုတ္တရတို့၏ ညွှန်ကြားပြသချက်အတိုင်း ရိုသေစွာ လိုက်နာ၍ အားထုတ်သဖြင့် ဝိပဿနာ ဉာဏ်စဉ်တရားကို ကိုယ်တွေ့နှင့် တိုက်ဆိုင်၍ နားလည်ဆုံးဖြတ်နိုင်သော အခြေသို့ ရောက်ခဲ့ပေသည်။ သို့ဖြစ်၍ ၁၃၁၅–ခု၊ တပေါင်းလဆန်း ၃–ရက်နေ့မှာ မဟာစည်ဆရာတော်က ဘွန်အန်အား ဝိပဿနာ ဉာဏ်စဉ်တရားကို အပြည့်အစုံ ရှင်းလင်းပြောပြခဲ့ပေသည်။

### သာသနာပြုမည့်ပုဂ္ဂိုလ် ရဟန်းခံခြင်း

မစ္စတာဘွန်အန်မှာ ဗုဒ္ဓသာသန မွေကို ကိုယ်တိုင်တွေ့သိရသဖြင့် ရဟန်းအဖြစ်ကို ခံယူရန် ထက်သန်သောသဒ္ဓါဆန္ဒ ဖြစ်ပေါ်လာပေသည်။ ထို့ကြောင့် မစ္စတာဘွန်အန်အား သတိုးသီရိသုဓမ္မ သူဌေးကြီး ဆာဦးသွင်၊ ဒေါ်ဒေါ်သိန်းတို့က ရဟန်းဒါယကာအဖြစ် ခံယူ၍ မဟာစည်ဆရာတော် အမှူးရှိသော သံဃာတော်တို့က ၁၃၁၅–ခု၊ တပေါင်းလဆုတ် ၁၅–ရက် (၅–၄–၅၄) စနေနေ့မှာ သာသနာ့ရိပ်သာ သိမ်တော်၌ ဥပသမ္ပဒကံဆောင်၍ ရဟန်းပြုပေးခဲ့ပေသည်။ ထိုကံဆောင်

ရာ၌ ဥပဇ္ဈာယ်ဆရာမှာ မဟာစည်ဆရာတော်ဖြစ်သည်။ ကမ္မဝါ ဆရာများမှာ (၁) အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဉာဏုတ္တရ၊ (၂) အဂ္ဂမဟာ ပဏ္ဍိတ သိဟိုဠ်ဆရာတော် အရှင်အာနန္ဒမေတ္တေယျ၊ (၃)တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသ၊ (၄) သာသနာ့ရိပ်သာ ဥပကမ္မဋ္ဌာနာစရိယ အရှင်သုဓာတ၊ (၅) သာသနာ့ရိပ်သာ ဥပကမ္မဋ္ဌာနာစရိယ အရှင်ဝဏ္ဏိတ စသည်တို့ဖြစ်သည်။ ထိုအင်ဒိုနီးရှား ရဟန်းသစ်အား မဟာစည်ဆရာတော်က သာသနာတော်ကို ချီးမြှောက်ပြုစုနိုင်စေရန် ရည်သန်၍ ဇိနရက္ခိတဟု ဘွဲ့အမည်ပေးထားသည်။ သေားရန်ဟူသမျှကို အောင်တော်မူသည့်ဘုရားရှင်က စောင့်ရှောက်အပ်သောသူဟု ဆိုလိုသည်။ ထိုအရှင်ဇိနရက္ခိတသည် မဟာစည်ဆရာတော်၏ ထံ၌တစ်နှစ်ကျော်ကျော် နေထိုင် ကျင့်သုံးလျက် သာသနဓမ္မကို ဆည်းပူးလေ့လာပြီးနောက် မိမိ၏ တိုင်းရင်း၌ာန အင်ဒိုနီးရှားသို့ ပြန်ကြွသွားလေသည်။

## အင်ဒိုနီးရှားအကြောင်း အကျဉ်းချုပ်

အင်ဒိုနီးရှားဟူသော အမည်မှာ ဂရိတ်ဘာသာစကား နှစ်လုံးပေါင်းစပ်၍ဖြစ်ပေါ်လာသော အမည်ဖြစ်သည်။ အင်ဒို (INDO) မှာ အရှေ့အိန္ဒိယနှင့် စပ်ဆိုင်သည်ဟူ၍လည်းကောင်း၊ နီးဆိုစ်(NESOS)မှာ ကျွန်းဟူ၍လည်းကောင်း အဓိပ္ပါယ်ရှိသည်။ ထိုကြောင့် အင်ဒိုနီးရှား (INDONESIA)ဟူသော အမည်မှာ အရှေ့အိန္ဒိယကျွန်းစုနိုင်ငံဟု ဆိုလိုသည်။

အင်ဒိုနီးရှားနိုင်ငံသည် အာရှတိုက်နှင့် ဩစတြေလျတိုက်တို့၏ အကြားအီကွေတာခေါ် ဗဟို နေသွား လမ်းကြောင်းပေါ်မှာ တည်ရှိသည်။ ကျွန်းပေါင်းသုံးထောင်ကျော် ပါဝင်သည်။ ၎င်းတို့တွင် ထင်ရှားသော ကျွန်းများမှာ စုမာတြာကျွန်း၊ ဂျာဝါကျွန်း၊ ဗာလီကျွန်း၊ ဝက်စ်အီရီယန်ခေါ် နယူးဂီနီကျွန်း အနောက်ပိုင်း၊

ကလိမန္တံခေါ် ဘိုညိုကျွန်းတောင်ပိုင်း၊ စူလဝေစီ ခေါ် စေလေဘတ်စ်ကျွန်းတို့ ဖြစ်သည်။ မြေဧရိယာ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၇၃၅၀၀၀–ရှိသည်။ လူဦးရေမှာ သန်း ၈၀–ခန့်ရှိသည်။

ထိုကျွန်းစုထဲမှ ဂျာဝါးကျွန်းမှာ လူဦးရေ သန်း ၅၀–ခန့်ရှိ၍ လူနေ အများဆုံး ကျွန်းဖြစ်သည်။ အင်ဒိုနီးရှားအစိုးရ၏ တည်ရာဖြစ်သော ဂျကာတာမြို့မှာလည်း ထိုဂျာဝါးကျွန်းမှာပင် တည်ရှိသည်။ စင်္ကာပူမှ တောင်ဘက် ၅၂၅–မိုင်၊ ရန်ကုန်မှ မိုင် ၁၅၆၀–မိုင် ဝေးသည်။

## ရာသီဥတု

ပကတိမြေပြင် အရပ်ဒေသများ၌ ပူအိုက်ခြင်းရှိသည်။ သို့သော် မကြာမကြာ မိုးရွာလေ့ ရှိသောကြောင့် မြန်မာပြည် နွေရာသီ လောက်ကား မပူပေ။ ရန်ကုန်၌ ဝါဆိုဝါခေါင် နေပွင့်သောအခါများမှာ အပူအအိုက်မျိုးပင် ဖြစ်သည်။ ပေနှစ်ထောင်ကျော် သုံးထောင်မြင့်သော တောင်ပေါ်အရပ်ဒေသများမှာ ရှမ်းပြည်နယ်က နွေဥတုကဲ့သို့ပင် အေးမြ သာယာလျက်ရှိသည်။

## ရုပ်ရည်နှင့် အလုပ်အကိုင်

ဂျာဝါးကျွန်း၊ ဘာလီကျွန်းတို့၌ လူများမှာ ရုပ်ရည်ပုံပန်း အားဖြင့် မြန်မာတို့နှင့် မထူးခြားလှပေ။ အလုပ်အကိုင်မှာလည်း အများအားဖြင့် လယ်သမားများ ဖြစ်ကြသည်။ ထိုကျွန်းများ၌ မကြာမကြာ မိုးရွာလေ့ရှိသောကြောင့်လည်းကောင်း၊ မိုးနည်းသော အရပ်များ၌လည်း တူးမြောင်းများဖြင့် အမြဲတမ်း ရေလွှတ်ပေးနိုင်သောကြောင့် လည်းကောင်း၊ လယ်များမှာ ရာသီမရွေး မပြတ် စိုက်ပျိုးလုပ်ကိုင်နေကြသည်။ လယ်ကွင်းတစ်ခုတည်းမှာပင် တစ်နေရာ၌ စိုက်ပျိုးနေသည်ကို တွေ့

ရ၍ အခြားတစ်နေရာ၌ အသီးအနှံ ရိတ်သိမ်းနေသည်ကိုလည်း တွေ့ရတတ်သည်။ မြေဩဇာကလည်း ကောင်းပုံပေါ်သည်။ တစ်နှစ်အတွင်းမှာ နှစ်ကြိမ်လောက်ထပ်၍ စိုက်ပျိုးနေသော်လည်း စပါးပင်များ သန်စွမ်း၍ အသီးအနှံများမှာလည်း သန်စွမ်းလျက် ရှိသည်။ သို့သော် လယ်သမားများမှာ ချမ်းသာကြွယ်ဝဟန် လက္ခဏာကား မရှိပေ။ အကြောင်းမှာ တစ်မိုင်စတုရန်းအတွင်းမှာပင် လူဦးရေ ၈၀၀-မှ ၁၀၀၀-အထိ ရှိနေသဖြင့် လုပ်ကိုင်ရန် မြေကွက်မလုံလောက်သောကြောင့်ဟု ဆိုကြသည်။

## ဗုဒ္ဓဘာသာနိုင်ငံ ဖြစ်ဘူးခြင်း

လွန်ခဲ့သော နှစ်ပေါင်း (၂၀၀၀)လောက် ကာလဆီက အိန္ဒိယမှ ကုန်သည်များသည် ရှေးဦးစွာ စုမာတြာကျွန်းသို့ ရောက်လာကြသည်။ ထိုနောက် ဂျာဝါးကျွန်းနှင့် အခြား အင်ဒိုနီးရှားကျွန်းများသို့ ရောက်လာကြသည်။ ၎င်းတို့က ဟိန္ဒူယဉ်ကျေးမှုနှင့် ဟိန္ဒူဘာသာ၊ ဗုဒ္ဓဘာသာတရားများကို အင်ဒိုနီးရှားသို့ သွတ်သွင်းကြသည်ဟု ရာဇဝင်ဆရာတို့က ဆိုကြသည်။ နောက်ကာလများ၌ ဟိန္ဒူဘာသာဝင် ဘုရင်များ အုပ်စိုးသည့် ဟိန္ဒူနိုင်ငံ၊ ဗုဒ္ဓဘာသာနိုင်ငံများ ဖြစ်လာကြသည်။

ထိုဘုရင်များတွင် ၇-ရာစုနှစ် စုမာတြာတောင်ပိုင်း ပလင်ဘန်းမြို့၌ ထီးနန်းစိုက်သော သီရိဝိဇယမင်း၏ လက်ထက်မှာ ဗုဒ္ဓဘာသာ အထွန်းကားဆုံး ဖြစ်သည်။ ထိုမင်း၏ သီရိဝိဇယ ယူနိဘာစတီ ကျောင်းတော်ကြီးမှာ ဂုဏ်သတင်း ပျံ့မွှေး၍ အခြားအာရှနိုင်ငံများမှ စာသင်သား များစွာတို့သည် သက္ကတ၊ ဟိန္ဒီ၊ ပါဠိကျမ်းစာများကို သင်ကြားရန် ထိုကျောင်းတော်ကြီးသို့ ဝင်လာမစဲ တသဲသဲ ဖြစ်ခဲ့ဘူးလေသည်။ ထိုမင်း၏ အာဏာစက်မှာလည်း အင်ဒိုနီးရှားကျွန်းစုအားလုံး

ပျံ့နှံ့သည့်ပြင် ၎င်း၏ နယ်နိမိတ်ကိုပင် ကျော်လွန်ခဲ့ပေသည်။

အခြားထင်ရှားသော သာဓကတစ်ခု ရှစ်ရာစုနှစ်က တည်ဆောက်ထားခဲ့သော ဗောရောဗုဒူး စေတီတော်ကြီးပင် ဖြစ်သည်။ ထိုမျှ ကြီးကျယ်ခမ်းနားသော စေတီတော်ကြီးကို ထောက်ဆသောအားဖြင့် ထိုစဉ်ကာလက ဂျာဝါးကျွန်း၌ ဘုရင်နှင့် ပြည်သူ ပြည်သားများမှာ ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြောင်း ထင်ရှား ပေသည်။

ထိုပြင် အိန္ဒိယပြည် နာလန္ဒကျောင်းတော်ကြီးကို တူးဖော်ရာမှ ရရှိသော ကြေးပရပိုက်၌ သုဝဏ္ဏဒီပခေါ် စုမတြာကျွန်း ဘုရင် သီရိဗလပုတ္တဒေဝက ရာဇဂြိုဟ် ပြည်နယ် ဂယာစီရင်စုမှ ရွာငါးရွာကို မိမိပိုင်သော စုမာတြမှ ရွာငါးရွာနှင့် လဲလှယ်၍ နာလန္ဒကျောင်းတော်ကြီးအား လှူဒါန်းကြောင်း ရေးသားထားသည်ကို တွေ့ကြရသည်။ ထို သီရိဗလပုတ္တဒေဝဘုရင်မှာ ကိုးရာစုနှစ်က ဖြစ်သည်။ ထိုကြောင့် ထိုစဉ်အခါကလည်း အင်ဒိုနီးရှားပြည် စုမာတြကျွန်း၌ ဘုရင်နှင့် ပြည်သူပြည်သားများက ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြောင်း ထင်ရှားပေသည်။

ထိုကြေးပုရပိုက်၌ သုဝဏ္ဏဒီပ ဟူသော အမည်ကို အမှီပြု၍ သီရိဓမ္မာသောကမင်းကြီးလက်ထက်က သာသနာပြု စေလွှတ်ရာ ၉–ဌာနတွင် အပါအဝင် ဖြစ်သော သုဝဏ္ဏဘူမိဆိုသည်မှာ စုမတြာကျွန်းပင် ဖြစ်သည် ဟူ၍ လည်းကောင်း၊ မြန်မာပြည်က သထုံမြို့ကို သုဝဏ္ဏဘူမိ ဟု ခေါ်သည်မှာလည်း ထို စုမာတြမှ ပင် တဆင့် ပွားလာသော အမည်ဖြစ်သည် ဟူ၍လည်းကောင်း အချို့သော ပညာရှင်တို့က ယူဆဆုံးဖြတ်ကြသည်။ ထို ဆုံးဖြတ်ချက်အရဆိုလျှင် စုမာတြ ကျွန်း၌ ခရစ်သက္ကရာဇ် မပေါ်မီ အနှစ် (၃၀၀) လောက်ကပင် ဗုဒ္ဓသာသနာ ရောက်ရှိလာသည်ဟု ယူဆဖွယ် ရှိပေသည်။

## ဟိန္ဒူနိုင်ငံ ဖြစ်ခြင်း

၁၃–ရာစုနှစ်မှာ ဂျာဝါးကျွန်းမှ ဟာဂျမ်ဝုရုတ် မည်သော ဟိန္ဒူဘုရင်သည် သီရိဝိဇယ နိုင်ငံတော်ကို အောင်နိုင်၍ ကျွန်းစုအားလုံးကို အုပ်စိုးခဲ့သည်။ ထိုဘုရင်၏ နိုင်ငံတော်ကို မိုဂျိုပဟာစ်ဟု ခေါ်တွင်သည်။ ထိုစဉ်ကာလက ဟိန္ဒူဘာသာသည် ကျွန်းစုအားလုံးသို့ ပျံ့နှံ့လွှမ်းမိုးခဲ့ဟန်ရှိပေသည်။

## မူစလင်နိုင်ငံ ဖြစ်သွားခြင်း

ထို ၁၃–ရာစုနှစ်မှာပင် အာရဘီယနိုင်ငံ၊ ပါရှားနိုင်ငံနှင့် အိန္ဒိယ အနောက်ဘက်ကမ်းခြေတို့မှ မူစလင်ဘာသာဝင် ကုန်သည်များသည် အင်ဒိုနီးရှားသို့ ရောက်လာကြသည်။ ရှေးဦးစွာ စုမာတြာသို့ ရောက်လာကြပြီးလျှင် နောက်ကာလများ၌ ဂျဝါးစသော အခြားကျွန်းများသို့လည်း ရောက်လာကြသည်။ ၎င်းတို့က တိုင်းရင်းသားများကို မူစလင်ဘာသာကို သွင်းပေးကြသည်။ နောက်ကာလ၌ မူစလင်နိုင်ငံများ တည်ထောင်၍ တဖြည်းဖြည်း တန်းခိုးအာဏာပြန့်ကျယ်လာသည်။ မိုဂျိုပဟာစ် နိုင်ငံတော်မှ များစွာသော ဟိန္ဒူဘာသာဝင် ပဒေသရာဇ်မင်းတို့ကိုလည်း မူစလင်ဘာသာသို့ ကူးပြောင်းစေသည်။ နောက်ဆုံး၌ ကြွင်းကျန်နေသော မိုဂျိုပဟာစ်ခေါ် ဂျာဝါးဟိန္ဒူနိုင်ငံတော်ကြီးကို ၁၄၇၈–ခုနှစ်မှာ အပြီးတိုင် သိမ်းပိုက်အောင်မြင်လေသည်။ ထိုအခါ မိုဂျိုပဟာစ် နိုင်ငံတော်ကြီး၏ ဘုရင်သည် မူစလင်တို့အား အရှုံးမပေး အညံ့မခံလိုသောကြောင့် သူ့ကိုယ်သူ သတ်၍ သေလေသည်။ ၎င်းသည် ဂျာဝါးဟိန္ဒူ နိုင်ငံတော်ကြီး၏ နောက်ဆုံးဘုရင် ဖြစ်သည်။

ထိုဘုရင်၏ သားတော်သည် မူစလင်ဘာသာကို လက်မခံလိုကြသော နန်းတွင်းသူ နန်းတွင်းသားများ၊ ပညာရှိ ပုဏ္ဏားများ၊ တိုင်းသူပြည်သားများနှင့်

တကွ ဗာလီကျွန်းသို့ ထွက်ပြေးလေသည်။ ထိုကျွန်း၌ ယခုထင်တိုင် ဟိန္ဒူဘာသာ အလေ့အကျင့်များ ရှေးမူမပျက်ဘဲ တည်တံ့လျက် ရှိသည်။ အခြားကျွန်းစုများ၌မူကား ယခုအခါတွင် မူစလင်ဘာသာဝင်တို့သာလျှင် များလျက် ရှိတော့သည်။ အခြား ဘာသာဝင်များမှာ အနည်းငယ်စီသာ ရှိသည်။

## ဘာသာနှင့် လူဦးရေ

အင်ဒိုနီးရှား၌ လူဦးရေ သန်း ၈၀–ရှိသည့်အနက် ခရစ်ယာန်ဘာသာဝင် ၃–သန်းခန့် ရှိသည်။ ဟိန္ဒူဘာသာဝင် ၂–သန်းခန့် ရှိသည်။ ၎င်း ဟိန္ဒူဘာသာဝင်တို့မှာ အများအားဖြင့် ဗာလီကျွန်းနှင့် လံဘုတ်ကျွန်း အနောက်ပိုင်းတို့မှာ ရှိကြသည်။ မဟာယာနအဆက်အနွယ် ဗုဒ္ဓဘာသာဝင်များည်း ရှိသည်။ အရေအတွက်ကိုကား အတိအကျ ဖော်ပြထားသည်ကို မတွေ့ရပေ။ ရှစ်သန်းခန့် ရှိသည်ဟူ၍သာ ကြားသိရသည်။ ကွန်ဖြူးရှပ်ဘာသာဝင် တရုတ်လူမျိုးများလည်း အနည်းငယ်ရှိသည်။ ထို့ပြင် နတ်ကိုးကွယ်သော လူများလည်း ဘိုညိုကျွန်း၊ နယူးဂီနီကျွန်း စသည်တို့မှာ ရှိသေးသည်ဟု ဆိုသည်။ ထိုမှတပါး အခြားလူများစုကြီးမှာ မူစလင်ဘာသာဝင်ချည်းသာ ဖြစ်သည်။

## အရှင်ဓိနရက္ခိတ သာသနာပြုပုံ

အရှင်ဓိနရက္ခိတမှာ မိမိ၏ဇာတိဌာနဖြစ်သော အင်ဒိုနီးရှားသို့ ရောက်သောအခါ သာသနာပြုဖို့ကို မဆိုထားဘိ။ တစ်နေ့တစ်ရက်မျှ တည်းခိုနေထိုင်ရန်ပင် မလွယ်ကူဘဲ ခက်ခဲလျက်ရှိလေသည်။ အကြောင်းမှာ ရှေး၌ ဖော်ပြခဲ့သည့်အတိုင်း အင်ဒိုနီးရှားပြည်မှာ မူစလင်နိုင်ငံ ဖြစ်သည့်ပြင် အနည်းငယ်မျှသာ ရှိသော ဗုဒ္ဓဘာသာဝင် အဆက်အနွယ် ဖြစ်သူတို့မှာလည်း ဗုဒ္ဓဘာသာ တရား

အကြောင်းကို မသိနားမလည်ကြသောကြောင့် ဖြစ်ပေသည်။ ထို့ကြောင့် အရှင်ဇိနရက္ခိတသည် မာလာယု၊ စင်္ကာပူတို့၌ သီဟိုဠ်ဘုန်းကြီးကျောင်းများ၌ နေထိုင်လျက် ရံခါရံခါ အင်ဒိုနီးရှားသို့ သွား၍ စပ်ဆိုင်ရာ ပုဂ္ဂိုလ်များအား ဗုဒ္ဓသာသန ဓမ္မကို တစတစနှင့် ဟောပြောရလေသည်။ ဤသို့ မဆုတ်မနစ်သော ဇွဲလုံ့လဖြင့် သာသနာပြုလုပ်ငန်းကို ကြိုးပမ်းအားထုတ်ခဲ့သောကြောင့် အင်ဒိုနီးရှား၌ ၅–နှစ်အတွင်းမှာ ဝိဟာရခေါ်သော သာသနာ့ အဆောက်အဦ ကျောင်းပေါင်း ၂၀–ကျော်မျှ ရရှိလာသည့်ပြင် သရဏဂုံ ၃–ပါးနှင့် ၅–ပါးသီလကို ခံယူ ကျင့်သုံးသူ ဥပါသကာ ယောကျာ်း, မိန်းမပေါင်း ခြောက်ရာ (၆၀၀)ကျော် ရရှိခဲ့ပေသည်။ ထိုပုဂ္ဂိုလ်များထဲမှာ အဋ္ဌင်္ဂဥပေါသထ ရှစ်ပါးသီလကို အမြဲတမ်း ဆောက်တည် ကျင့်သုံးသူများလည်း ရှိသည့်ပြင် သမထ ဝိပဿနာအလုပ်ကို အားထုတ်သူများသည် ရှိပေသည်။ ထို့ပြင် သရဏဂုံသီလကို မခံယူသေးသော်လည်း ဗုဒ္ဓသာသနာကို ကြည်ညိုလေးစားလျက် ညွတ်ကိုင်းနေသူတို့လည်း တော်တော်များများ ရှိနေလေပြီ။ ဗုဒ္ဓသာသနာတော်ကို အားပေးရန် တည်ထောင် ဖွဲ့စည်းထားသော အသင်းအဖွဲ့များလည်း အသင့်ရှိနေသည့်ပြင် ဗုဒ္ဓသာသနာတော်သို့ ရှင်ရဟန်း အဖြစ်ဖြင့် ဝင်ရောက်လျက် သာသနာ့ဝန်ကို အမြဲ ထမ်းဆောင်လိုသော ပုဂ္ဂိုလ်များလည်း ထွက်ပေါ်လာခဲ့လေသည်။

### သာသနာပြုကြရန် ပင့်လျှောက်ခြင်း

သို့ဖြစ်၍ ထိုရှင်လောင်း၊ ရဟန်းလောင်းများအား ရှင်ရဟန်းပြုပေးရန်နှင့် ဗုဒ္ဓသာသနာတော်၏ အခြေအမြစ်ဖြစ်သော သိမ်ကိုလည်း သမုတ်ရန်အတွက် ထေရဝါဒဗုဒ္ဓဘာသာ နိုင်ငံများဖြစ်သော သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လာအိုနှင့် မြန်မာနိုင်ငံတို့မှ သာသနာပြု မထေရ်များကို ပင့်ဆောင်ရန်

အရှင်ဇိနရက္ခိတ အမှူးရှိသော အင်ဒိုနီးရှား ဗုဒ္ဓသာသနာ အသင်းအဖွဲ့များက စိမ်အားထုတ်လေသည်။

ထိုသို့ အားထုတ်ကြရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်မှ သာသနာပြု ကြွရန်အတွက် အင်ဒိုနီးရှားပြည်ရှိ မြန်မာသံရုံးမှတဆင့် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့သို့ မေတ္တာရပ်ခံကာ ပင့်ဖိတ်စာ ပို့လိုက်လေသည်။ ဗုဒ္ဓသာသနာအဖွဲ့က ထိုကိစ္စနှင့် စပ်လျဉ်း၍ စဉ်းစားကြရာတွင် အင်ဒိုနီးရှားသို့ ကြွရန်မှာ အရှင်ဇိနရက္ခိတ ၏ ဆရာဖြစ်သော မဟာစည်ဆရာတော်ပင် အသင့်တော်ဆုံးဖြစ်သည်ဟု သဘော တူညီကြသဖြင့် အင်ဒိုနီးရှားသို့ သာသနာပြု ကြွပါရန် မဟာစည် ဆရာတော်အား လျှောက်ထား တောင်းပန်သည်။ မဟာစည်ဆရာတော်ကလည်း မိမိမှာ ဘာသာခြား စကားဖြင့် တရားဟောရန် မစွမ်းနိုင်သော်လည်း အင်ဒိုနီးရှားနိုင်ငံရှိ ဗုဒ္ဓဘာသာဝင် များက အရှင်ဇိနရက္ခိတ၏ ဆရာအဖြစ်ဖြင့် ကြားသိထားပြီး ဖြစ်နေသည့်အတွက် မိမိကိုယ်တိုင် သွားရောက် အားပေးရလျှင် သာသနာပြု ကိစ္စအတွက် သာ၍ ကျေးဇူးများဖွယ် ရှိသည်ဟု မြော်မြင်လျက် ထိုလျှောက်ထားချက်ကို လက်ခံလိုက် လေသည်။

**ဗုဒ္ဓသာသနာအဖွဲ့မှ ဆောင်ရွက်ခြင်း**

မြန်မာနိုင်ငံမှ အင်ဒိုနီးရှားသို့ အသွားအပြန် လေယာဉ်ပျံ လက်မှတ်မှစ၍ လိုအပ်သမျှကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က သာသနာပြု ကိစ္စတရပ်အဖြစ်ဖြင့် ထောက်ပံ့လှူဒါန်းသည်။ စင်္ကာပူ၊ အင်ဒိုနီးရှား နိုင်ငံများသို့ ရောက်သောအခါ လိုအပ်သမျှ ပြည့်စုံအောင် ထောက်ပံ့လှူဒါန်း ဆောင်ရွက်ရန်အတွက်လည်း ထိုနိုင်ငံများရှိ သံရုံးအရာရှိများအား ဗုဒ္ဓသာသနာအဖွဲ့ကပင် တာဝန်ယူ၍ မေတ္တာရပ်ခံကာ အပြည့်အစုံ ဆောင်ရွက်ပေးသည်။

## သာသနာပြု ကြွတော်မူခြင်း

၁၃၂၁–ခု၊ ကဆုန်လဆန်း (၈)ရက် (၁၄–၅–၅၉) ကြာသပတေးနေ့ ည (၇)နာရီ အချိန်မှာ အင်ဒိုနီးရှားသို့ ကြွရန် မဟာစည်ဆရာတော်ကို သာသနာ့ ရိပ်သာမှ လေယာဉ်ဆိပ်သို့ ကမ္ဘာအေးမှ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဉာဏုတ္တရ အမှူးရှိသော သီးတင်းသုံးဘော် ရဟန်းတော်များနှင့် ဗုဒ္ဓသာသနာ အဖွဲ့မှ သက်ဆိုင်ရာ ရုံးသားများ၊ သာသနာ့ရိပ်သာမှ တပည့် ရဟန်းတော်များနှင့် ဒါယကာ ဒါယိကာမများက စည်ကား သိုက်မြိုက်စွာ လိုက်ပို့ကြသည်။

ဘီအိုအေစီ လေယာဉ်ပျံပေါ်သို့ ရောက်သွားသောအခါ မဟာစည်ဆရာတော် သည် မိမိ၏ လက်ယာဘက်ခုံ၌ ဦးစိန်ဝှက်ကို တွေ့ရသည်။ ဦးစိန်ဝှက်မှာ ရန်ကုန်မြို့၊ မဟာဗန္ဓုလလမ်း၊ ဂျီဝှက်အင်ကုမ္ပဏီမှ မန်နေဂျာ ဖြစ်သည်။ ၎င်း ဦးစိန်ဝှက်က ဆောင်ရွက်ဖွယ်ရှိသမျှကို စင်္ကာပူလေဆိပ်သို့ ရောက်သည်တိုင်အောင် ကူညီဆောင်ရွက်သွားသည့်ပြင် စင်္ကာပူလေဆိပ်သို့ ရောက်သောအခါလည်း ကြိုဆိုသူ အသင့် မရောက်နိုင်ပါက အကူအညီပေးရန် တာဝန်ယူထားပေသည်။ မဟာစည်ဆရာတော်က ဦးစိန်ဝှက်အား များစွာပင် ကျေးဇူးတင်တော်မူပေသည်။

ည (၈)နာရီ (၂၅)မိနစ်မှာ ရန်ကုန် လေဆိပ်မှ ထွက်ခွာသည်။ လေယာဉ် မှာ လမ်းတလျှောက်လုံး ငြိမ်သက်သည်။ ည(၁၂)နာရီ (၅)မိနစ်မှာ စင်္ကာပူ လေဆိပ်သို့ ရောက်သည်။ စင်္ကာပူစံချိန်မှာ (၁)နာရီ (၅)မိနစ် ဖြစ်သည်။ မြန်မာ သံရုံးမှ အရာရှိ ဦးထွန်းလွင်က လေယာဉ်ပျံရုံ၌ အသင့်စောင့်ကြိုနေသည်ကို တွေ့ရသည်။ ဘီအိုအေစီ လေယာဉ်မှာ ထိုအပတ်က ဂျကာတာသို့ ဆက်သွားရန် အစီအစဉ် မရှိသဖြင့် မလေးယန်း အဲယားဝေး လေယာဉ်နှင့် ဆက်လက်သွားရန် လည်းကောင်း၊ ထိုညအတွက် အိုရှင်းပါ့က်ဟော်တယ်၌ တည်းခိုရန် လည်းကောင်း ဘီအိုအေစီ လေယာဉ်ဌာနက စီစဉ်ပေးသည်။ သို့သော် ဦးစိန်ဝှက်ကို လာကြိုသော

တရုတ်သူဌေးကြီး ဦးဂေါ်တုံက ပင့်ဆောင်သွားသဖြင့် ဦးဂေါ်တုံ၏ အိမ်သို့ (၂)နာရီခွဲမှာ ရောက်သွားသည်။ တည်းခိုရသော အိမ်မှာ ဧည့်သည်များအတွက် ထားသော သီးခြားအိမ်ကြီး ဖြစ်သည်။ ထိုညက ဆရာတော် တစ်ပါးတည်းသာ ရှိသည်။ အလွန် သန့်ရှင်းကျယ်ဝန်းလှပေသည်။

နံနက် (၅)နာရီ အချိန်မှာ သူဌေးကတော် ဒေါ်ညွန့်ညွန့်က ကိုယ်တိုင်ပင် ကြောင့်ကြစိုက်၍ ဆွမ်းကပ်သည်။ ၎င်း ဒေါ်ညွန့်ညွန့်မှာ ညကလည်း (၂)နာရီခွဲ တိုင်အောင် စောင့်ကြိုနေသည်ကို တွေ့ရသည်။ နံနက်မှာလည်း စောစောထ၍ ဆွမ်းကပ်ရန် ကြောင့်ကြစိုက်သေးသည်။ သဒ္ဓါတရား ထက်သန်ပါပေသည်ဟု ဆရာတော်က စိတ်ဖြင့် ချီးကျူးမိ၏။

နံနက် (၇)နာရီခွဲမှာ သံရုံးအရာရှိ ဦးထွန်းလွင်က လေဆိပ်သို့ လိုက်ပို့ရန် ရောက်လာသည်။ (၈)နာရီ (၁၀)မိနစ်မှာ ကားဖြင့် လေဆိပ်သို့ သွားကြသည်။ (၁၀)နာရီမှာ စင်္ကာပူမှ လေယာဉ်ထွက်သည်။ ဦးထွန်းလွင်မှာ အစစအရာရာ ဆောင်ရွက်ပေးသည့်ပြင် လေယာဉ် ထွက်သည့်တိုင်အောင် လေယာဉ်ပျံကွင်းထဲ၌ စောင့်ကြည့်လျက် ရှိရစ်သည်။ လေယာဉ်ပေါ်၌ အစားအစာများကို လိုသလောက် ပေးသည်။ နေ့ (၁)နာရီ အချိန်မှာ ချမ်းသာစွာနှင့် အင်ဒိုနီးရှားပြည်၊ ဂျဝါးကျွန်း၊ ဂျကာတာ လေဆိပ်သို့ ဆိုက်ရောက်သည်။

လေဆိပ်၌ သီဟိုဠ်နိုင်ငံ၊ ယိုးဒယားနိုင်ငံ သံမှူးများနှင့်တကွ မြန်မာသံမှူး ဦးတင်လတ်၊ အတွင်းဝန် ဦးဖေသန်းတို့က အသင့် ကြိုဆိုနေကြသည်။ အရှင်ဇိနရက္ခိတနှင့် အင်ဒိုနီးရှား ဒါယကာ–ဒါယိကာမများလည်း ကြိုဆိုနေကြသည်။ ဂျပန်ပြည်မှ အပြန်တွင် ရောက်နေနှင့်ကြသော သီဟိုဠ်ဆရာတော် အရှင် အရိယဝံသနှင့် အရှင်သရဏပါလတို့လည်း ကြိုဆိုနေကြသည်။ လေဆိပ်မှ ကားဖြင့် ထွက်ခွာလာရာ အရှင်ဇိနရက္ခိတတို့၏ တည်းခိုရာ ဌာနသို့ ရောက်သည်။

ထိုဌာနၷ၌ သီဟိုဠ်မှ ကြွလာကြသော အရှင်နာရဒ၊ အရှင်သဒ္ဓိဿရ၊ အရှင်မဟာနာမ၊ အရှင်ပိယဒဿီနှင့် ယိုးဒယား ရဟန်းတစ်ပါးတို့လည်း ရောက်နေကြသည်ကို တွေ့ရသည်။ ထိုဌာနမှာ သံဃာအားလုံး နေလောက်အောင် မကျယ်လှသဖြင့် အခြားဌာနများ၌လည်း ခွဲ၍ နေကြရသည်။ မဟာစည်ဆရာတော်နှင့် အရှင်ပိယဒဿီတို့မှာ တမန်ကဘွန်သိရိ (Taman-Kebon Sirih)လမ်း၊ သုန်ဟွာကျို၏ အိမ်၌ သီတင်းသုံးကြသည်။ ၎င်းအိမ်မှာ သားသူငယ်နှစ်ယောက်နှင့် သုန်ဟွာကျိုခေါ် အိမ်ရှင်ဒါယကာတစ်ယောက် ပေါင်း ၃-ယောက်သာရှိသည်။

ထိုအိမ်သို့ ညနေ (၄)နာရီမှာ ရောက်သည်။ ရောက်ပြီးနောက် မကြာမီပင် မိုးအကြီးအကျယ် ရွာသည်။ ဂျကာတာမြို့ရှိ အချို့လမ်းများမှာ ၂-ပေ ၃-ပေခန့် ရေပြည့်နေသဖြင့် ထိုနေ့ညနေနှင့် ညပိုင်းများမှာ မော်တော်ကားများ မသွားနိုင်ဘဲရှိသည်။ ဗုဒ္ဓသာသနာအဖွဲ့မှ မေတ္တာရပ်ခံထားသည့်အတိုင်း သံရုံးမှ အတွင်းဝန် ဒါယကာဦးဖေသန်းမှာ မဟာစည်ဆရာတော် အလိုရှိသော ရေဗူးနှင့် ခြင်ထောင်ကို လာရောက်၍ လှူရန်ရှိသော်လည်း ကားမသွားနိုင်သဖြင့် ထိုညက မလာနိုင်တော့ဘဲ နောက်တနေ့ နံနက်ကျမှ လာရောက်၍ လှူရသည်။ ။ "ဂျကာတာမြို့သို့ ရောက်နေသည်မှာ ၂-နှစ်ရှိပြီ၊ ဒါလောက် အကြီးအကျယ် မိုးရွာသည်ကို တခါမျှ မတွေ့ရဘူးပါ"ဟု ဦးဖေသန်းက ပြောသည်။ "သာသနာပြု ဆရာတော်များ ကြွရောက်လာသည့်အတွက် သန့်ရှင်းအောင် မိုးက ဆေးကြောပေးသည်" ဟူ၍လည်း မင်္ဂလာစကား ပြောဆိုကြသည်။

(၁၆-၅-၅၉) ကဆုန်လဆန်း ၁၀-ရက် နေ့မှာ မြန်မာ၊ သီဟိုဠ်၊ ယိုးဒယား သံရုံးအရာရှိများက စုပေါင်း၍ သံဃာတော်များအား ဆွမ်းကပ်ကြသည်။ ထိုသို့ စုပေါင်း၍ ကပ်ရသည်မှာလည်း တနေ့စီ ဆွမ်းကပ်ရန် ရက်မရနိုင်သောကြောင့်

ဖြစ်သည်။ ထိုနေ့ညနေပိုင်းမှာ ယိုးဒယားမှ နောက်ပါရဟန်းတော် ၂-ပါး ကပ္ပိယကာရက သာသနာရေး အရာရှိတစ်ဦးနှင့် တကွ ဖရဝိသာလသမဏာဂုဏာ မထေရ် လေယာဉ်ဖြင့် ဆိုက်ရောက်လာသည်။ ညပိုင်းမှာ ကမ္ဘောဒီးယားမှ ကပ္ပိယ ဒါယကာ ၂-ဦး၊ နောက်ပါ ရဟန်းတော် ဘိက္ခုစန္ဒဝံသနှင့်တကွ သံဃရာဇာ ဆရာတော်ကြီးကိုယ်တိုင် ကြွရောက်လာသည်။

## ဂျာဝါး၌ အံ့ဖွယ်

ထိုအခါမှာ (၁)ကမ္ဘောဒီးယား သံဃရာဇာဆရာတော်၊ (၂)၎င်းနောက်ပါ အရှင်စန္ဒဝံသ၊ (၃)ယိုးဒယားမှ ဖရဝိသာလသမဏာဂုဏာ ဆရာတော်၊ (၄-၅)၎င်း၏ နောက်ပါ ရဟန်းတော် ၂-ပါး၊ (၆)သီဟိုဠ်မှ အရှင်နာရဒမထေရ်၊ (၇)အရှင် သဒ္ဓိဿရ၊ (၈)အရှင်မဟာနာမ၊ (၉)အရှင်ပိယဒဿီ၊ (၁၀)အရှင်နာရဒ၏ နောက်ပါ ယိုးဒယား ရဟန်းတော်တပါး၊ (၁၁)အရှင်အရိယဝံသ၊ (၁၂) အရှင် သရဏပါလ၊ (၁၃)မြန်မာပြည်မှ မဟာစည်ဆရာတော် အရှင်သောဘနမထေရ်၊ (၁၄)အင်ဒိုနီးရှားနိုင်ငံမှ အရှင်ဇိနရက္ခိတ အားလုံးပေါင်း ၁၄-ပါးသော ထေရဝါဒ ရဟန်းတော်များ အင်ဒိုနီးရှားပြည်၊ ဂျာဝါးကျွန်း၌ စုဝေးမိကြသည်။ လွန်ခဲ့သော နှစ်ပေါင်း တစ်ထောင်(၁၀၀၀)အတွင်းမှာ ဤတိုင်းပြည် ဤဌာန၌ ထိုမျှလောက် များစွာသော ထေရဝါဒ ရဟန်းတော်တို့ စုဝေးမိမည် မဟုတ်သောကြောင့် အံ့ဖွယ် တပါး အဖြစ်ဖြင့် မှတ်တမ်းတင်ရပေတော့သည်။

ဤအင်ဒိုနီးရှား သာသနာပြု မှတ်တမ်းမှာ သီးခြား စာအုပ်ရှိပြီးဖြစ်၍ ဤမျှသာ ဖော်ပြလိုက်ရပါသည်။ အကျယ်ကိုမူ ထိုစာအုပ်တွင် ကြည့်ရှုနိုင် ပါကြောင်း။



## နိုင်ငံခြားသားတို့၏ အမေးကို မဟာစည်ဆရာတော် ဖြေဆိုတော်မူပုံ



၁၃၁၉–ခု၊ ပြာသိုလဆုတ် ၃–ရက်၊ အင်္ဂါနေ့ နေ့လယ် တစ်နာရီအချိန်တွင် ဂျာမန်အမျိုးသား ပညာရှိတစ်ဦးသည် ဂျပန်ပြည် တက္ကသိုလ် တစ်ခု၌ ပါမောက္ခ အဖြစ်ဖြင့် ၅–နှစ်တိုင်တိုင် ဆောင်ရွက်ပြီးနောက် ဂျပန်ပြည်မှ မိမိနိုင်ငံ ဂျာမနီသို့ အပြန် ခရီး ကြုံကြိုက်နိုက် မြန်မာနိုင်ငံသို့ ခေတ္တ ဝင်ရောက်လာ၏။ သူသည် တောင်ပိုင်းဗုဒ္ဓဘာသာနှင့် စပ်ဆိုင်သမျှကို သုတေသနပြုယင်း မဟာစည် ဆရာတော်ဘုရားထံ ရောက်ရှိလာရာ သူသိလိုသော ဘာသာရေး အချက်အလက် များကို မေးလျှောက်လေသည်။ မေးပုံ ဖြေပုံများကို အောက်တွင် ဖော်ပြလိုက်ပါ သည်။

၁–မေး။ ။ ဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်ပါလျှင် ဆင်းရဲဒုက္ခကို ဖြေရှင်းပေးနိုင်ပါသလား၊ ဒုက္ခဆိုတာ ဘာကိုခေါ်ပါသလဲ၊ ဗုဒ္ဓဘာသာရဲ့ ဆိုလိုရင်း ဒုက္ခအစစ်အမှန်ကား ဘယ်အရာပါနည်း။ (ဆရာတော်က ဘယ်သင်းကို ရည်ရွယ် ၍ ဆင်းရဲလို့ ဆိုပါသလဲဟု ပြန်မေးရာ အဖြေမရပါ။)

၂–မေး။ ။ ယခုခေတ် ရုပ်တရားတွေရဲ့ ဆင်းရဲဒုက္ခအတွက် ဗုဒ္ဓဘာသာ က ဘယ်လို အကူအညီပေးပြီး ဖြေရှင်းပါသလဲ။

ဖြေ။ ။ တုံး–တိုင်–မြေကြီး–ခဲစသော ဗဟိဒ္ဓ ရုပ်ဝတ္ထုသက်သက်၌ ခံစားမှုမရှိ၊ သို့ဖြစ်၍ ထိုအတွက် ဖြေရှင်းဖို့ မလို၊ သတ္တဝါတို့၏ ဘဝသစ် ဖြစ်ရခြင်း စသည်တို့ဟာ ဆင်းရဲဒုက္ခ အစစ်အမှန်ပါဘဲ၊ ထိုအတွက်သာ ဗုဒ္ဓဘာသာက ဖြေရှင်းပေးနိုင်သည်။

၃–မေး။ ။ ဗုဒ္ဓဘာသာက ထိုဒုက္ခအတွက် ဘယ်လို ဖြေရှင်းပေးပါသလဲ၊ ကွန်မြူနစ်ဝါဒက ထိုဒုက္ခများကို ဖြေရှင်းပေးပါသည်။

ဖြေ။ ။ ကွန်မြူနစ်ဝါဒက ဖြေရှင်းတော့ ပေးပါ၏။ ထိုဒုက္ခကို လုံးဝ လွန်မြောက်သွားပါသလား၊ ပြန်မေးရာ ဘာမျှ မဖြေပါ။

၄–မေး။ ။ ထေရဝါဒ ဗုဒ္ဓဘာသာဟာ ရှေးရှေးပါဠိတော်များကို အမှီပြု နေသလို ယခုခေတ် ဗုဒ္ဓဘာသာက ဘာကို မှီပါသလဲ၊ ရှေးနှင့် ယခု ဘယ်လို ခြားနားပါသလဲ။

ဖြေ။ ။ ရှေးနှင့်ယခု မခြားနားပါ။ ဥပမာ ရှေးကလဲ အကြောင်းနှင့် အကျိုး နှစ်ပါးသာ၊ ယခုလဲ ထိုနှစ်ပါးသာ၊ ထိုအကြောင်းအကျိုး နှစ်ပါးမှ ပြောင်းလဲမှု မရှိ၊ ဘာမျှ မခြားနား၊ ရှေးခေတ် ဗုဒ္ဓဘာသာဟူ၍လည်းကောင်း၊ ယခုခေတ် ဗုဒ္ဓဘာသာ ဟူ၍လည်းကောင်း ထေရဝါဒ၌ ပြောင်းလွဲခြင်း မရှိပါ။

၅–မေး။ ။ လက်တွေ့တရားက ဒုက္ခခံစားနေတာကို ဘယ်လိုတွေ့နိုင် ပါသလဲ၊ ဒီဒုက္ခတွေ ပျောက်သွားနိုင်ပါသလား။

ဖြေ။ ။ တွေ့နိုင်ပါသည်၊ ထိုဒုက္ခမျိုး ပျောက်တာလဲရှိ၊ မပျောက်တာလဲ ရှိသည်။ လောကမှာ ဖျားတယ်, နာတယ်ဆိုတာ ရှိသည်။ ထိုဖျားနာမှုတို့ဟာ ဘာသာရေးတရားကျင့်လို့ ပျောက်တာလဲရှိ, မပျောက်တာလဲရှိသည်။ ဗုဒ္ဓဘာသာ ရော ကွန်မြူနစ်ဝါဒကပါ ပျောက်အောင် လုပ်နိုင်တာလဲ ရှိပါတယ်။ သို့ပေမယ့် အကြောင်းဆုံလို့ ဖြစ်လာတာကို မဖြစ်အောင် ဘယ်သင်းမှ မတတ်နိုင်ပါဘူး။ ဥပမာ အကြောင်းမသင့်လို့ ဖျားနာလာတာကို မဖျားအောင် မတတ်နိုင်ပါဘူး။ ဖျားနာမှု သက်သာပျောက်ကင်းသွားအောင်တော့ တတ်နိုင်ကြပါတယ်။ ။ နောက်တစ်ခုကတော့ လူဖြစ်လာယင် တနေ့ကျတော့ ဆံဖြူမှု, သွားကျိုးမှု စသော မရှောင်လွှဲနိုင်တဲ့ အရာတွေ အများကြီး ဖြစ်လာနိုင်တယ်၊ ထိုအရာတို့ကို ဆံမဖြူ

အောင် သွားမကျိုးအောင် စသည်ဖြင့် ဘယ်သူမှ မတားဆီးနိုင်ပါဘူး။

၆–မေး။ ။ လောက၌ ဘာသာရေးအရ ပြုပြင်နိုင်တဲ့ ကိစ္စတွေ ပါဝင်နေရာ လူများ သက်သာချောင်ချိသွားအောင် အကူအညီ ပေးနေကြတာဟာ ဘာသာရေး အရပင် မဟုတ်ပါလား။

ဖြေ။ ။ ဗုဒ္ဓဘာသာက လောကရေးရာကို ပြုပြင်ဖို့ ပဓာန မဟုတ်ပါ၊ ထိုသို့ပဓာနမဟုတ်ခြင်းမှာလဲ ယခုလက်ရှိဘဝက ဖြစ်ပြီးဖြစ်နေလို့ ဖြစ်ပြီးသား ဟာကို မဖြစ်စေရအောင် မတတ်နိုင်လို့ပင် ဖြစ်ပါတယ်၊ နောက်နောင်ဘဝသစ်တွေ မဖြစ်စေရအောင် ကြိုးစားဖို့ဘဲ ရှိပါတယ်၊ ဒီအချက်ဟာ ဗုဒ္ဓဘာသာမှာ အရေး အကြီးဆုံးပါဘဲ။

၇–မေး။ ။ ဂျပန်တွင် တွေ့ခဲ့ရတဲ့ ဂျပန်ဘုန်းကြီးများဟာ ကိုယ်တိုင် သူများကောင်းစားရေးအတွက် ကြောင့်ကြ စိုက်ကြပါတယ်၊ ဥပမာ သိဒ္ဓတ္ထမင်းသား အများကောင်းစားရေးအတွက် တောထွက် တရားကျင့်သလိုပါဘဲ။

ဖြေ။ ။ သိဒ္ဓတ္ထမင်းသား တောထွက်ကျင့်ခြင်းဟာ လူတွေ မျက်မှောက် ဘဝ၌ ဆင်းရဲနေကြတာကို ကယ်တင်ဖို့မဟုတ်၊ ဘဝဆင်းရဲမှ လွတ်မြောက်ဖို့ တောထွက်ခြင်းပါဘဲ၊ ရှင်းပြပါမယ်။ လူတွေကို အခြားလူ တစ်ယောက်က ချမ်းသာအောင် မလုပ်နိုင်၊ ပစ္စည်းမဲ့နေသူ တစ်ယောက်အား ချမ်းသာမှု အနည်းငယ်ကိုသာ ရစေနိုင်တယ်။ တသက်လုံး တဘဝလုံး ချမ်းသာစေနိုင်တဲ့ နည်းလမ်းကောင်းတွေ ပေးသလို ဗုဒ္ဓက ပစ္စည်းမဲ့ လူတန်းစားတွေကို ပစ္စည်းပေး ခြင်းဖြင့် ကယ်တင်သည်မဟုတ်။ ဒီနည်းဖြင့် မဖြစ်နိုင်၊ စင်စစ်မှာ ဘဝတိုင်း ဖြစ်ရတဲ့ ဒုက္ခအမျိုးမျိုးမှ လွတ်ကင်းအောင် ကယ်တင်ဖို့အတွက်သာ ဗုဒ္ဓကိုယ်တိုင် ပွင့်ထွန်းပေါ်ပေါက်လာခြင်း ဖြစ်ပါတယ်။ ဗုဒ္ဓက ချမ်းသာစေနိုင်တဲ့ နည်းကို လိုက်နာကျင့်သုံးနိုင်ရန် ညွှန်ကြားတော်မူပါတယ်။ အဲဒီနည်းအတိုင်း လိုက်နာ

ကျင့်သုံးမှ ဒုက္ခအမျိုးမျိုးက လွတ်မြောက်နိုင်တယ်။ လွတ်မြောက်လိုကလဲ နည်းသိမှ ဖြစ်နိုင်တယ်၊ နည်းသိပြန်သော်လဲ တကယ်ကျင့်မှသာ ဖြစ်နိုင်တယ်၊ ဒီလိုမဟုတ်က အကျိုးမရှိ။ ဥပမာ တတ်ကျွမ်းတဲ့ ဆရာဝန့်စကားကို နားမထောင်တဲ့ လူနာလိုဘဲ၊ ရောဂါကုစားရေး၌ ယင်းရောဂါ၏ မူလအကြောင်းကို သိရှိ၍ ဆေးနည်းဖြင့် ပယ်ရှားပေးနိုင်မှသာ ရောဂါကင်းပျောက်စေနိုင်သကဲ့သို့ ဗုဒ္ဓဘာသာက ဆင်းရဲဖို့ အကြောင်းရင်းကို မပယ်တဲ့သူကို ဒုက္ခမှ လွတ်မြောက်အောင် မတတ်နိုင်။ (သူက ရုပ်ဘက်က မေးတာပါ၊ နာမ်ဘက်က မဟုတ်ပါ ဟူ၍ ဂျာမန်က ပြန်လျှောက်၏။)

၈–မေး။ ။ အခြေခံမူလအားဖြင့် အသောကမင်း လက်ထက်က လူထုအား ဘုရင့်ကိုယ်တိုင် ချမ်းသာသုခဖြစ်အောင် ကူညီခဲ့တာဟာ ဘာသာရေးနှင့် သက်ဆိုင်နေသည် မဟုတ်ပါလား။

ဖြေ။ ။ ဒါမျိုးက လောကဆင်းရဲမှု ငြိမ်းရုံသာဖြစ်ပါတယ်၊ ဒါကလဲ လူမျိုးအလိုက် တကယ်လုပ်ရမည့် ကိစ္စတွေပါ၊ တောစွန် တောင်ဖျားထဲက (မယဉ်ကျေးသေးတဲ့) လူများပင် လုပ်ရမည့် ကိစ္စတွေပါ။ (မိသားစု၊ ရွာသားစု၊ မြို့သားစု၊ ပြည်သူပြည်သားစုတို့၏ ဝတ်တရားအရ လုပ်ရမည့် တာဝန်တွေပါ ဟူလို။)

၉–မေး။ ။ ဘုရင်တွေက သာသနာပြုတယ်လို့ မဆိုနိုင်ဘူးလား။

ဖြေ။ ။ ဒါကတော့ ဟုတ်ပါတယ်၊ သို့သော် ဘာသာတရားမဟုတ်လဲ လုပ်ရမည့် အလုပ်တွေပါဘဲ။

၁၀–မေး။ ။ ဥရောပတိုက် အင်္ဂလန်တွင် ချားလ်ဘုရင် ခရစ်ယာန်အဖြစ် အုပ်စိုးစဉ် ခရစ်ယာန်ဘာသာပြန့်ပွားအောင်လုပ်သလို ဗုဒ္ဓဘာသာမှာ ထိုအတိုင်း လုပ်သင့်ပါတယ်၊ မူလက မွန်ဂိုလီယန်မှာ ဗုဒ္ဓဘာသာ ဖြစ်သော်လဲ နောက်ပိုင်း

ကာလတိုင် ဗုဒ္ဓဘာသာက အကူအညီ မပေးတော့သည့်အတွက် ယခု ကွန်မြူနစ်များ လွှမ်းမိုးသွားသည် မဟုတ်ပါလား၊ ကွန်မြူနစ်များက အကူအညီ ပေးနေလို့ မဟုတ်ပါလား။

ဖြေ။ ။ သူတို့ကူညီတယ်ဆိုတာက လူလောက လူတွေ မျက်မှောက်ချမ်းသာရေးလောက်သာပါ၊ ဒီဟာတွေကလဲ အကုန်လုံး မဖြစ်နိုင်သေးဘူးလို့ ထင်ပါတယ်၊ မဖြစ်လဲ မဖြစ်နိုင်ဘူးလို့ ထင်ပါတယ်။(ရှေ့ပိုင်းတွင် ဖြေပြီးပြီ။)

၁၁–မေး။ ။ ဆရာတော်ဖြေကြားချက်တွေကို နားလည်ပါတယ်၊ ဒါပေမယ့် ဗုဒ္ဓဘာသာ နှစ်မျိုး ကွဲပြားနေတာကို သူလက်မခံနိုင်ပါ။ မဟာယာနဂျာန်ဂိုဏ်းက ကွဲပြားခြင်းမရှိလို့ ဆိုထားပါတယ်။ ပြီးတော့ မဟာယာနမှာ နိဗ္ဗာန်နှစ်မျိုးရှိပါတယ်။ (၁) ရုတ်တရက် အရောင်အလင်း ကဲ့သို့တရားရခြင်း။ (၂) တဖြည်းဖြည်း အလေ့အကျင့်ဖြင့် တရားရခြင်းပါဘဲ။ (အမိတာဘာက တိုက်ရိုက်ပေးနိဗ္ဗာန်နှင့် ကိုယ့်ဟာကိုယ် လုပ်ယူရသောနိဗ္ဗာန်လို့ ဆိုပါတယ်။)

ဖြေ။ ။ ထေရဝါဒမှာ သီလ သမာဓိ ပညာတွေ ပြည့်စုံသွားယင် နိဗ္ဗာန်သို့ ရောက်၍၊ မပြည့်စုံယင် မရောက်နိုင်သေး၊ ဒီလိုသာ ခြားနားပါတယ်။

၁၂–မေး။ ။ ထေရဝါဒ၌ ဘုရားဖြစ်ရန် ကျင့်သူ မရှိပါ။

ဖြေ။ ။ ဘုရားဖြစ်ရန် ကျင့်သူများစွာ ရှိပါသည်။ ကျင့်နည်းလဲ ရှိပါသည်။ အခြားပစ္စေကဗုဒ္ဓါနှင့် အရိယာ သာဝကဖြစ်အောင် ကျင့်သူနှင့် ကျင့်နည်းများလည်း ရှိပါသည်။ လောက၌ ရိုးရိုးအောင် ဝိဇ္ဇာနှင့် အထူးအောင် ဝိဇ္ဇာလိုပေါ့။

၁၃–မေး။ ။ မဟာယာန၌ အမိတာဘာဗုဒ္ဓက အစဉ်အတိုင်း ကျင့်ဖို့မလို၊ ဖြတ်လမ်းဖြင့် တိုက်ရိုက် နိဗ္ဗာန်ပေးနိုင်သည်ဟု ဆိုပါသည်။

ဖြေ။ ။ ထေရဝါဒ၌ ဗုဒ္ဓက ဟောညွှန်တော်မူနိုင်သည်။ တိုက်ရိုက် နိဗ္ဗာန်ကို မပေးနိုင်ပါ၊ ဆရာဝန်များလိုပါဘဲ။

၁၄–မေး။ ။ အတွင်းက အကျိုးအကြောင်းကို ဘယ်လိုရပ်သွားအောင် လုပ်နိုင်ပါသလဲ၊ မဟာယာနက အပြင်က ရပ်သွားအောင် လုပ်နိုင်တဲ့ နည်းရှိပါသည်။

ဖြေ။ ။ မျက်မမြင်ပုဂ္ဂိုလ်ဟာ သူဝတ်ဆင်ထားတဲ့ အဝတ်ညစ်ကို သူကိုယ်တိုင် မျက်စိအလင်းမရသေးလို့ မတွေ့ရသေးမီ ထိုအဝတ်ကို တကယ် သန့်စင်တဲ့အဝတ်လို့ မှတ်ထင်ကာ သာယာစွဲလမ်းမှု ဖြစ်နေမှာဘဲ၊ တချိန်တွင် ဆရာကောင်းကိုတွေ့လို့ မျက်စိနှစ်ကွင်း အလင်းရပြီး ထိုအဝတ်ကို မြင်လို့ အဝတ်ညစ်မှန်း အမှန်အတိုင်း သိတဲ့အခါ ထိုအဝတ်ပေါ်တွင် သာယာမှု ကင်းကွာသွားသလို ခန္ဓာကိုယ်မှာ ရုပ် နာမ် နှစ်ပါးသာ ရှိကြောင်းကို ကောင်းကောင်းမသိရသေးလို့ ယင်း ရုပ် နာမ် နှစ်ပါးရဲ့ အနိစ္စ ဒုက္ခ အနတ္တ လက္ခဏာဆိုတဲ့ အပြစ်အနာအဆာတွေကို မသိရသေးခင် အဲဒီ ရုပ် နာမ် အပေါ်မှာ အထင်အမြင်မှားပြီးတော့ သာယာမှု စသော ကိလေသာတွေ ဖြစ်နိုင်တယ်၊ ဖြစ်တိုင်း ရုပ် နာမ်ကို ဖြစ်ခိုက်မှာ ရှုမှတ်နေယင် အမှန်အတိုင်း တကယ် သိလာနိုင်တယ်၊ ဒီအခါမှာ အတွင်းက ရပ်သွားအောင် လုပ်နိုင်ပါတယ်။

၁၅–မေး။ ။ ကိုယ်တိုင် တွေ့ပြီးပါပြီလား။

ဖြေ။ ။ တွေ့ပြီးပါပြီလို့ပြောလဲ ယုံချင်မှ ယုံမည်၊ မတွေ့သေးပါ ဖြေလဲ အကျိုးမရှိ။ သို့ဖြစ်၍ ဒီမေးခွန်းကို မဖြေကြားလိုပါ။

ပြီး၏။



## အမေရိကန် အမျိုးသား (စာရေးဆရာ)တစ်ယောက် သူကိုယ်တိုင် တရားကျင့်သုံး၍– ရေးသားထားပုံ



သူ့မှာ တရားအားထုတ်လိုက်သည့်အတွက် ရာဂ၊ ဒေါသ၊ မောဟ စသော တရားတွေ လက်တွေ့အားဖြင့် လျော့သွား၍ နောင်လဲ အာရုံနှင့်စပ်ပြီး စိတ်၏ ချုပ်တည်းမှုကို ရပါတော့မည်–ဟု ရေးသားထားသည်။

မဟာစည်ဆရာတော်ဘုရားက တရားအားထုတ်မှုဆိုတာ လောဘ၊ ဒေါသ၊ မောဟ စသော တရားတွေကို ငြိမ်းသွားအောင် ပြုလုပ်ခြင်းပါဘဲ–ဟု အမိန့်ရှိလေသည်။

သို့ဖြစ်လျှင် အချို့ရဟန်းတော်များ ဒီတရားမျိုးကို ဘာကြောင့် အားမထုတ်ကြပါသလဲဟု ထပ်မေးပြန်ရာ –

လူအမျိုးမျိုးရှိပုံ–စိတ်ထားအမျိုးမျိုးရှိပုံ–အစားအစာ အမျိုးမျိုးရှိပုံ၊ ထိုတွင် လူမျိုးအလိုက် အကြိုက်အမျိုးမျိုးရှိပုံ စသည်ဖြင့် ရှင်းပြတော်မူသည်။

သံဃာသည် (၁)ဘိက္ခုသံဃာ၊ (၂)အရိယာသံဃာဟု နှစ်မျိုးရှိရာတွင် ဗုဒ္ဓဘုရား၏ ခွင့်ပြုချက်အတိုင်း ရဟန်းအဖြစ်သို့ရောက်သော ဘိက္ခုအပေါင်းသည် ဘိက္ခုသံဃာမည်၏။ ၎င်းသည် အနည်းဆုံး သီလကိုတော့ ထိန်းသိမ်းရပေသည်။

သောတာပန် စသည်အဖြစ်သို့ ရောက်ရှိပြီးသော အရိယာအပေါင်းသည် အရိယာသံဃာမည်၏။ ယခု တရားအားထုတ်မှုဟာ ထိုအရိယာ အဖြစ်သို့ ရောက်ဖို့ပင် ဖြစ်သည်။

တရားအားမထုတ်မီ အကြမ်းစားယုံကြည်မှု ဘယ်လောက် ရှိရပါသလဲဟု မေးပြန်ရာ ရိုးရိုးကုသိုလ်ကံကအကျိုးပေးယင် လူ့ပြည် နတ်ပြည်ရောက်နိုင်တယ်၊

ရှာန်ကုသိုလ်ဘာဝနာက ဖြဟ္မာ့ပြည် ရောက်နိုင်တယ်-ဟူသော အချက်ကို ဗုဒ္ဓဘာသာဝင်မှန်သမျှ အကြွင်းမဲ့အားဖြင့် ယုံကြည်ထားရသည်။ ပြီးတော့ မကောင်းတဲ့ အကုသိုလ်ကံ လုပ်ယင်လဲ ငရဲ တိရစ္ဆာန် ပြိတ္တာ အသုရကာယ် အပါယ်လေးဘုံသို့ ရောက်ရတယ်လို့လဲ ယုံကြည်ရတယ်ဟု မြွက်တော်မူသည်။

ခရစ်ယာန်ဘာသာ၌ ကုသိုလ်ကံ အကုသိုလ်ကံ အကြောင်းအကျိုး ဆပ်စပ်လို့မရပါ။

ဗုဒ္ဓဘာသာမှာတော့ ကိုယ့်အမှုနဲ့ကိုယ်ဘဲ၊ မကောင်းကံပြုယင် မကောင်းပြစ် အကျိုးပေးလိမ့်မယ်၊ ဒီအပြစ်တွေမှ လွတ်အောင် တရားအားထုတ် ရပါသည်။ တရားမပြည့်စုံယင် ယခုဘဝမှာ ကောင်းနေသော်လဲ နောင်ဘဝတွင် လူမိုက် လူဆိုးကြီး ဖြစ်နိုင်တယ်။ ဥပမာ ကလေးသည် တချိန်တွင် မီးကိုပူမှန်း သိနေသော်လည်း အခြားတချိန်တွင် မသိဘဲ မီးကို ကိုင်မိယင် မီးပူခံရလိမ့်မည် အမှန်ဘဲ။ နောင်ဘဝမှာမှ ခံစားရသည်မဟုတ်၊ ယခုဘဝမှာလဲ စိတ်ဖောက်ပြန်သွားယင် ဒီလိုဘဲ ဒုက္ခဖြစ်နိုင်ပါတယ်၊ ဒီအပြစ်တွေမှ လွတ်အောင် တရားအားထုတ်ရတယ်လို့ မှတ်ပါ။

ယောစ ဝဿသတံ ဇီဝေ၊ အပဿံ ဥဒယဗ္ဗယံ-စသော ဓမ္မပဒ ပါဠိတော်အရ ဘယ်လိုပင် ကောင်းအောင်နေနေ အဖြစ်အပျက်ကို မမြင်ပါဘဲ အသက်တစ်ရာရှည် နေရသော်လဲ ယခုဘဝလဲ တန်ဖိုးမရှိပါ၊ နောင်ဘဝတွင်လဲ လူဆိုးလူမိုက်ကြီး ဖြစ်နိုင်ပါသည်။ တရားအားထုတ်၍ ရုပ် နာမ် အဖြစ်အပျက်ကို တစ်ရက်သာမျှ တွေ့မြင်ပါက အဖြစ်အပျက် မမြင်ဘဲ အသက်တစ်ရာရှည် နေရသူထက် တန်ဖိုးအများကြီး များပါတယ်၊ ဆက်၍ ကြိုးစားအားထုတ်လို့ နိဗ္ဗာန်တွေ့သွားယင် ဒုက္ခမျိုးစုံမှ လွတ်ငြိမ်းသွားနိုင်ပါတယ်။ အဲဒီ ၂-ချက်အရ တရားအားထုတ်ရခြင်း၏ ရည်ရွယ်ချက်ဟာ ဒါပါပဲ။ မဂ္ဂင်ရှစ်ပါးကို စဉ်းစားကြည့်ရမယ်၊ တရားအားထုတ်ရာတွင် ဗုဒ္ဓက လမ်းညွှန်ရုံသာ ညွှန်နိုင်ပါတယ်၊ နိဗ္ဗာန်

ရောက်သွားအောင်တော့ မပေးနိုင်ပါဘူး။

ဗုဒ္ဓက လောကုတ္တရာရေးကို ပို၍ ဦးစားပေးတော်မူသည်။ နေရေးထိုင်ရေး စသော လောကရေးတွေကို ဘာသာတရားက ဘာမျှ မတတ်နိုင်၊ ဒါကြောင့် ဗုဒ္ဓဘာသာတရားကတော့ လောကုတ္တရာရေးကိုသာ ဦးစားပေးသည်။ သတိပဋ္ဌာန် ပါဠိတော်တွင် သောက ပရိဒေဝါနံ သမတိက္ကမာယ – စသည်ဖြင့် ဟောထားခဲ့တာဘဲ၊ သို့ပေမယ့် တရားလိုက်နာသူတို့သာ သောက စသည်တို့ကို ပျောက်ကင်းစေနိုင်သည်။ မလိုက်နာသူတို့မှာ မပျောက်ကင်းစေနိုင်။

ယခုကာလ အချို့သူတို့မှာ ပစ္စည်းရှိသူများ ဖြစ်ကြသော်လဲ ပစ္စည်းအတွက် ကြောင့်ကြစိုက်နေရလို့ ဆင်းရဲနေရသည်။ ပစ္စည်းပင် မရှိသော်လဲ ရှိသမျှလေးနဲ့ ရောင့်ရဲတင်းတိမ်နေပါက ချမ်းသာနိုင်တာဘဲ။ ဒီလို ချမ်းသာရေးတွေအတွက် ဗုဒ္ဓက လောဘစသော ကိလေသာတွေကို နည်းပါးအောင် အားထုတ်ရန် ညွှန်ကြားတော်မူခဲ့သည်။ မရောင့်ရဲက ဒုက္ခကြီးရောက်၊ ရောင့်ရဲက ဒုက္ခပျောက်။

သန္တုဋ္ဌိပရမံ ဓနံ – လို့ ဘုရားဟောထားတာ ထင်ရှားရှိပါတယ်။ ရောင့်ရဲခြင်းဟာ အမြတ်ဆုံးသော ဉစ္စာလို့ ဆိုလိုပါတယ်။

ရူပါရုံတစ်ခုခုကို တွေ့ရာ၌ နှစ်သက်သွားယင် လောဘ၊ စိတ်ဆိုးယင် ဒေါသ၊ သာမနအာရုံပေါ်တွင် မြဲသည်ဟု ယူဆယင် မောဟ ဖြစ်နိုင်ပါတယ်။ ဒါတွေ ငြိမ်းသွားအောင် ယခု တရားအားထုတ်ရခြင်း ဖြစ်ပါတယ်။ သို့သော် ယခု အမေရိကန် စာရေးဆရာမှာတော့ စတင်အားထုတ်စဖြစ်လို့ ကောင်းမှန်း မသိသေး၊ နောင် သမာဓိ အားကောင်းလာသည့်အခါ ယခင် မိမိသန္တာန်တွင် အဖြစ်ဘူးသေးသော ထူးဆန်းသည့် တရားအရသာတွေကို ခံစားရပါလိမ့်မည်။

ဤသို့ အမေရိကန် စာရေးဆရာအား မိန့်တော်မူပါသည်။



# သံဃာရတနာနှင့် မဟာစည်ဆရာတော်



ဗုဒ္ဓဘာသာဝင်မှန်လျှင် နေ့စဉ်နှင့်အမျှ–

၁– ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊

၂– ဓမ္မံ သရဏံ ဂစ္ဆာမိ၊

၃– သံဃံ သရဏံ ဂစ္ဆာမိ၊

ဤ ၃ ပုဒ်ကို ရွတ်ဆိုခြင်းဖြင့် သံရဏဂုံတည် ပုဂ္ဂိုလ်ဖြစ်ကြောင်း ဝန်ခံမြဲ ဖြစ်ပေသည်။ ယင်း ၃ ပုဒ်အနက် သံဃံ သရဏံ ဂစ္ဆာမိ – သံဃာတော်မြတ်ကို ဆည်းကပ်ပါ၏ ဆိုသည့် တတိယပုဒ်အရ သံဃ ဟူသော ပါဠိစကား "အပေါင်း အသင်း အဖွဲ့ အစည်းအရုံး"ဟူသော မြန်မာဝေါဟာရကို စဉ်းစားဖို့ လိုပါသည်။ သံဃ ကို သံဃာဟူ၍ ပါဠိသက် မြန်မာဝေါဟာရတွင်လျက် ရှိသည့်အတိုင်း သံဃာ(သဃာ်)ဟု ဆိုလျှင်လည်း မည်သည့်ပုဂ္ဂိုလ်ကို ခေါ်ကြောင်း နားလည်ကြပါသည်။

သံဃာသည် ပရမတ္ထသံဃာ၊ သမ္မုတိသံဃာ ဟု နှစ်မျိုးရှိ၏။

သုပ္ပဋိပန္နတာ စသော ဂုဏ်တော်များနှင့် ပြည့်စုံ၍ အရိယာ ဖြစ်ပြီးသော သံဃာတော်များသည် ပရမတ္ထသံဃာမည်၏။ (ပရမတ္ထ–အစစ်အမှန် မဖေါက် မပြန်နိုင်သော ၊ ရဟန်းတော် သံဃာတော်အဖြစ်မှ ပြောင်းလွဲ၍ လူ့အဖြစ် စသည်သို့ ဘယ်နည်းနှင့်မျှ မရောက်နိုင်သော၊ သံဃ–အရိယာအပေါင်းအဖွဲ့။)

သုပ္ပဋိပန္နတာ အစရှိသော ဂုဏ်တော်များနှင့် အထိုက်အလျောက်သာ ပြည့်စုံနိုင်၍ အရိယာ သံဃာများနှင့် ဝိနည်းသိက္ခာ ကျင့်ဖွယ်ရာ တူသောကြောင့် သံဃာဟု သမုတ်အပ်သော (အစစ်အမှန် မဟုတ်တတ်သော) သံဃာတော်သည်

သမ္မုတိ သံဃာမည်၏။ (သမ္မုတိ–အစစ် အမှန် မဟုတ်, အများ သမုတ်အပ်, အသိအမှတ်ပြုအပ်သော၊ သံဃ–ပုထုဇဉ် ရဟန်းတော်များ၏ အပေါင်းအဖွဲ့။)

### ပရမတ္ထသံဃာ အာရုံပြုရမည့်ကိစ္စ

"သံဃံ သရဏံ ဂစ္ဆာမိ" ဟု သရဏဂုံ ဆောက်တည် ကိုးကွယ်ရာ၌ ရည်စူးရမည့် သံဃာဟူသည် ပုထုဇဉ် သံဃာမဟုတ်၊ အရိယာ သံဃာများသာ ဖြစ်ပေသည်။ ဆဗ္ဗဂ္ဂိယာဏဝလုလင် ဝတ္ထု၌ ဗုဒ္ဓရှင်တော်မြတ် ကိုယ်တော်တိုင် "အရိယာ သံဃာတော်ကို ကိုးကွယ်ဆည်းကပ်လော့"ဟု သရဏဂုံ ပေးတော်မူသည်။ သံဃဂုဏ်တော်များကို ရည်မှန်း၍ သံဃာနုဿတိ ကမ္မဋ္ဌာန်း စီးဖြန်းသည့် အခါလည်း "သုပ္ပဋိပန္နော ဘဂဝတော သာဝက သံဃော။ပ။ယဒိဒံ စတ္တာရိ ပုရိသ ယုဂါနိ အဋ္ဌပုရိသပုဂ္ဂလာ"စသည်ဖြင့် အရိယာ သံဃာတော်ရှစ်မျိုးရှိ၏။ "သုပ္ပဋိပန္နတာ–ကောင်းစွာ ကျင့်ခြင်း"စသော ဂုဏ်ကို အာရုံပြုရသည်။

ရတနသုတ်(ပရိတ်ကြီး)လာ သံဃာ့ ရတနာ ဟူရာ၌ "ယေပုဂ္ဂလာ အဋ္ဌ သတံ ပသဋ္ဌာ စတ္တာရိ ဧတာနိ ယုဂါနိ"စသည်ဖြင့် အရိယာ သံဃာတော်ကိုသာ သံဃာ့ရတနာဟု ဟောတော်မူသည်။ ကျမ်းပြုဆရာတော်များ ကျမ်းမပြုမီ သံဃာကို ရှိခိုးကြရာ၌လည်း "နတွာ သံဃံ နိရင်္ဂဏံ–ကိလေသာ အညစ်အကြေးကင်းဝေးတော်မူသော အရိယာ သံဃာတော်ကို ရှိခိုးပြီး၍"ဟု ပဏာမ ပြုကြရသည်။

### သံဃာနှစ်မျိုးလုံးဆိုသော ကိစ္စ

သံဃိက ဒါန(ကျောင်းလှူ ဆွမ်းလှူစသော အလှူ)ကို ပြုရာ ရည်စူးရမည့် သံဃာ၌ကား ပရမတ္ထ သံဃာတော်လည်းပါဝင်၊ ပုထုဇဉ် သမ္မုတိ သံဃာများ

လည်း ပါဝင်ကြသည်။ ယခုကာလ စေတီပုထိုး ရုပ်ပွား ဆင်းတုတော်များအား ပူဇော်ရာ၌ သက်တော်ထင်ရှား ဘုရားရှင်ကိုပါ ရည်စူး၍ ပူဇော်နိုင်ကြသကဲ့သို့ ထို့အတူ ဆွမ်း၊ ကျောင်း စသော ပစ္စည်း ၄-ပါးကို လှူဒါန်းကြရာ၌လည်း မိမိ ဆွမ်းကပ်သော သံဃာတွင် ပုထုဇဉ်ချည်းသာ ဖြစ်စေကာမူ သံဃိက ဒါနဖြစ်အောင် ရည်မှန်းနိုင်ပါမူကား သူ၏ အာရုံပြုရာ သံဃာများတွင် အရိယာ ဖြစ်ပြီးသော သံဃာများလည်း ပါဝင်နိုင်ပေသည်။

အခါတပါး၌ ဗုဒ္ဓရှင်တော်မြတ်အထံသို့ သူကြွယ်တစ်ယောက်ရောက်လာ၏။ ရှင်တော်မြတ်က "သင်တို့အမျိုး၌ အလှူအတန်းပေးကမ်းရဲ့လား"ဟု မေးတော်မူရာ "အလှူအတန်း ပေးကမ်းပါကြောင်း၊ သို့သော်-တောကျောင်း ဘုန်းတော်ကြီးများ၊ ဓုတင်ဆောင်ဘုန်းတော်ကြီးများနှင့် ရဟန္တာဖြစ်ပြီးပုဂ္ဂိုလ်၊ ရဟန္တာဖြစ်အောင် ကျင့်နေသော ပုဂ္ဂိုလ်များကိုသာ လှူပါသည်"ဟု လျှောက်လေရာ- အိမ်ရာ တည်ထောင် လူ့ဘောင်မှာ နေသူက "ဤဘုန်းကြီးသည် ရဟန္တာဘဲ၊ ဤ ဘုန်းကြီးသည် ရဟန္တာဖြစ်အောင် ကျင့်နေသူဘဲ"ဟု သိနိုင်ဖို့ ခဲယဉ်း၏။ တောကျောင်းနေသူတိုင်း၊ ဓုတင်ဆောင်သူတိုင်း (စိတ်ရင်းမကောင်းလျှင်) မချီး မွမ်းထိုက်၊ စိတ်ရင်းကောင်းလျှင် ရွာနီးကျောင်းနေသူ၊ ဓုတင်မဆောင်သူများလည်း ချီးမွမ်းထိုက်၏။ ဤသို့လျှင် ပုဂ္ဂိုလ် အကောင်းအဆိုး ရွေးချယ်နိုင်ဖို့ ခဲယဉ်း သောကြောင့် "သံဃာကိုသာ ရည်မှန်း၍ လှူဒါန်းလေ"ဟု မိန့်တော်မူသည်။

(ဆက္က အင်္ဂုတ္တိုရ်)

### သာသနာ့ဝန်ဆောင်များ

ပရမတ္ထသံဃာဖြစ်ဖြစ်၊ သမ္မုတိသံဃာဖြစ်ဖြစ်၊ သာသနာ့တာဝန်ကို ရွက်ဆောင်တော်မူခဲ့ကြသော ပုဂ္ဂိုလ်ဖြစ်လျှင် ယခုခေတ်လူများအထိ ကျေးဇူး

များလှပေသည်။ မှန်၏။ အရှင်မဟာကဿပ၊ အရှင်အာနန္ဒာ စသော ပုဂ္ဂိုလ်များသည် ပရမတ္ထသံဃာအဖြစ်ဖြင့် သာသနာ့တာဝန်ကို ဆောင်တော်မူခဲ့ကြ၏။ အဋ္ဌကထာ အကျယ်ကို အကျဉ်းချုံး၍ စီရင်တော်မူသော အရှင်မဟာ ဗုဒ္ဓဃောသ၊ မူလဋီကာဆရာ အရှင်ဓမ္မပါလစသော ဆရာတော်များသည် သမ္မုတိ သံဃာတော် အဖြစ်ဖြင့် သာသနာ့တာဝန်ကို ဆောင်တော်မူခဲ့ကြ၏။ ထို့ကြောင့် ယခုအခါ ထိုသာသနာ့ဝန်ဆောင် ထိပ်ခေါင်တင် သံဃာတော်များ၏ အကြောင်းကို အကျဉ်းမျှ ထုတ်ပြပါတော့မည်။

## အရှင်ယသ အကြောင်း

(လူ့စည်းစိမ် ခံစားပုံ)

ဘုရားအဖြစ်သို့ ရောက်တော်မူမည့် ကဆုန်လပြည့်နေ့ နံနက်စောစောတွင် ဃာနာနို့ဆွမ်း လှူဒါန်းခဲ့သော သုဇာတာသူဌေးကတော်၏ သားဦးရတနာဖြစ်သော "ယသ"သတို့သားသည် မြတ်စွာဘုရား၏ ဓမ္မစကြာ တရားဦးကို ဟောတော်မူချိန်မှာ ဗာရာဏသီမြို့၌ (ဗုဒ္ဓအလောင်းတော်စံနေပုံကဲ့သို့) ဆောင်း နွေ မိုးဟု ဥတု ၃ ပါးအလိုက် စံစားဖို့ရာ ခမ်းနားလှစွာသော ပြာသာဒ် ၃ ဆောင်ဖြင့် တင့်တင့်တယ်တယ် ထယ်ထယ်ဝါဝါ စံနေခိုက်ဖြစ်လေသည်။ ဇနီးသူဌေးကတော်ကလေး၏ အထိန်းအယ မောင်းမမိဿံ အခြွေအရံတို့လည်း ယသော်ရော၏ အခြွေအရံတမျှ များပြားလှတော့၏။ ဖြေဖျော်ယုယ တီးမှုတ်ကြသူများမှစ၍ တံခါးစောင့်အထိ ယောကျ်ားတစ်ယောက်မျှ မရှိစေရ၊ အားလုံးမိန်းမသားတွေချည်း ဖြစ်ကြပေသည်။

**အနာဂါမ်တည်ပုံ။** ။ တညဉ့်၌ကား - ထို ယသ သတို့သားသည် အများ အိပ်ပျော်နေခိုက် နိုးလာလေရာ ညှိထွန်းထားသော မီးရောင်အောက်၌ မတော်

မလျော် အိပ်ပျော်လျက် မလှုပ်မယှက်နေကြသော မောင်းမတစုကို မြင်လေသော် စိတ်ထဲ၌ ကြီးကျယ်ခမ်းနားသော တိုက်ကြီးအလယ်မှာ ဖွယ်ဖွယ်ရာရာ နေရာသည် ဟု မယူဆတော့ဘဲ သုသာန်တစ သချိုင်း၀၌ အတုံးအရုံးဖြစ်နေသော လူသေကောင်တို့အလယ် ရောက်နေရသလို ထင်မြင်လာရကား –

"ဥပဒ္ဒုတံ ၀တ ဘော၊ ဥပသဋ္ဌံ ၀တ ဘော"

အနှိပ်စက်ခံရလေစွ၊ ဘေးရန်များလေစွ ဟု နှုတ်က တတွတ်တွတ် ပြောလျက် "ဘယ်ရောက်ရောက် ဒီနေရာက လွတ်လျှင် ပြီးရော"ဆိုတဲ့ ဆန္ဒဖြင့် တိုက်ပေါ်မှ ဆင်းလာလေရာ အိမ်၀င်းတံခါးနှင့် မြို့တံခါးကိုပါ နတ်များက ဖွင့်ထားနှင့်၍ အဆင်သင့်ထွက်ကာ မိဂဒါ၀ုန်လမ်းသို့ ခြေလှမ်းလျက်ရှိလေသည်။ ဗုဒ္ဓမြတ်စွာလည်း နံနက်စောစော စင်္ကြံ လျှောက်တော်မူစဉ် ယသ သတို့သား လာနေသည်ကို မြင်တော်မူ၍ စင်္ကြံမှ ဆင်းကာ ထိုင်တော် မူလေသည်။

ယသ သတို့သားလည်း ဗုဒ္ဓမြတ်စွာနှင့် မလှမ်းမကမ်း ရောက်လာသည် တိုင်အောင် "အနှိပ်စက်ခံရလေစွ၊ ဘေးရန်များလေစွ"ဟု တတွတ်တွတ် ရွတ်ဆို လျက် နေရာ ဗုဒ္ဓမြတ်စွာက – "ဒီနေရာမှာ အနှိပ်စက်မခံရဘူး၊ ဒီနေရာမှာ ဘေးရန် မရှိဘူး၊ ဒီလာခဲ့၊ ထိုင်ပါ၊ သင့်အားတရားဟောမည်"ဟု ခေါ်တော်မူလေလျှင် အလွန်ပင် ၀မ်းမြောက်၍ ဗုဒ္ဓမြတ်စွာ အထံရောက်လေသော် ဟောတော်မူသော တရားအဆုံး၌ အနာဂါမ်တည်လေသည်။

## ရဟန္တာဖြစ်၍ ရဟန်းပြုပုံ

ယသ သတို့သား ထွက်သွားသည်ကို နံနက်မှသိရ၍ ဖခင်သူဌေးကြီးသည် အရပ် ၄–မျက်နှာသို့ မြင်းစီး တမန်တို့ကို စေလွှတ် ရှာဖွေ၍ ကိုယ်တိုင်လည်း မိဂဒါ၀ုန်ဘက်သို့ အရှာထွက်လေ၏။ ထိုအခါ ယသ စီးသွားသော ရွှေခြေနင်း

(ဖိနပ်)ရာကို မြင်ရ၍ ခြေရာခံပြီး လိုက်သွားလေရာ ဗုဒ္ဓမြတ်စွာ အနီးသို့ ရောက်သော်လည်း (သားနှင့် ချက်ချင်းတွေ့လျှင် တရားနာရာ၌ စိတ်မဝင်စားမည်စိုးသောကြောင့် ချက်ချင်းမတွေ့စေသေးဘဲ တန်ခိုးတော်ဖြင့် ကွယ်ထားရကား) သတို့သားကို မတွေ့ရသည့်အတွက် "ယသ သတို့သားကို မမြင်ပါလား"ဟု မေးလေရာ ရှင်တော်မြတ်လည်း "ဒီနေရာမှာ ထိုင်ပါဦး၊ သတို့သားကို တွေ့ကောင်း တွေ့ရပေလိမ့်မည်"ဟု မိန့်တော်မူ၍ ထိုင်နေသော သူဌေးကြီးအား တရားဟောတော်မူလေလျှင် သောတာပန်တည်၍- ကျွန်ုပ်တို့ ဗုဒ္ဓသာသနာ၌ လူထဲမှ ရတနာသုံးပါးလုံးကို ပထမဆုံး ကိုးကွယ်ရသော ဥပါသကာဖြစ်လေသည်။ ဖခင်တရားနာနေစဉ် ယသ သတို့သားလည်း မိမိသိပြီးသော တရားကို ထပ်၍ စဉ်းစားဆင်ခြင်လေရာ အနာဂါမ်အဆင့်မှ တိုး၍ ရဟန္တာ ဖြစ်လေသည်။ (တပုဿ ဘလ္လိကတို့ ဗုဒ္ဓနှင့် တွေ့ရစဉ်က သံဃရတနာမရှိသေး၍ ရတနာ ၂-ပါးကိုသာ ကိုးကွယ်ကြရသည်။)

ထိုအခါ ဗုဒ္ဓမြတ်စွာသည် ကွယ်ထားသော တန်ခိုးတော်ကို ရုပ်သိမ်းလိုက်သဖြင့် သူဌေးကြီးလည်း သားကိုမြင်လျှင်- "ချစ်သား- သင့်မိခင်သည် အလွန် ဝမ်းနည်းနေတယ်၊ မိခင်အသက်ကို ပေးပါဦး"ဟု တောင်းပန်ပါသော်လည်း (ရဟန္တာဖြစ်နေပြီဖြစ်သောကြောင့်) "လူ့ဘောင်နေလို့ မဖြစ်တော့ကြောင်း" ဗုဒ္ဓမြတ်စွာက မိန့်တော်မူမှ ရဟန္တာဖြစ်သည်ကို အားရဝမ်းမြောက်၍ ဗုဒ္ဓမြတ်စွာနှင့်အတူ ယနေ့ဆွမ်းစားလိုက်ခဲ့ဖို့ရန် ဖိတ်မန်၍ ပြန်သွားလေသည်။

ခမည်းတော်ပြန်သွား၍ မကြာခင် ယသ သတို့သားလည်း ရဟန်းပြု၍ ဗုဒ္ဓမြတ်စွာနှင့်အတူ ခမည်းတော်နေအိမ်သို့ ကြွတော်မူသည်။ ဆွမ်းဘုဉ်းပေးတော်မမူမီပင် အရှင်ယသ၏ မိခင်နှင့် ဇနီးသည်အား ဗုဒ္ဓရှင်တော်မြတ်က တရားဟောတော်မူပြန်ရာ ၂-ယောက်လုံး သောတာပန်တည်ကြလေသည်။ (ထိုအချိန်မှာ

လူထဲ၌ ဗုဒ္ဓမြတ်စွာ၊ ပဥ္စဝဂ္ဂီငါးဦး၊ အရှင်ယသဟု ရဟန္တာ ၇-ပါးသာ ရှိသေးသည်။)

**ပထမဝါ ရဟန္တာ ခြောက်ကျိပ်တစ်**

ယသ သတို့သား ရဟန်းပြုသွားကြောင်း သူငယ်ချင်းဖြစ်ကြသော သူဌေးသား ၄-ယောက်တို့ကြား၍ စဉ်းစားကြသည်မှာ -

"ယသလို အမျိုးကောင်းသား တစ်ယောက်သည် ဆံပင်ကိုရိတ်၊ မုတ်ဆိတ်ကိုပယ်၊ သုံးထည်မျှ သင်္ကန်းကို ဆင်မြန်း၍ ရဟန်းပြုတယ်ဆိုလျှင် ထိုဗုဒ္ဓမြတ်စွာ၏ အဆုံးအမ ဩဝါဒ သာသနာသည် ကေန်မုချ အောက်ကျ နောက်ကျ မဖြစ်တန်ရာ၊ ယသ သတို့သားလို အထက်တန်း အမျိုးသား တစ်ယောက် စိတ်ဝင်စားလောက်ဖွယ် ကြီးကျယ် မြင့်မြတ်တဲ့ အရာများ ရှိပေလိမ့်မည်။"

ဤသို့တွေးတောကြံဆ၍ အရှင်ယသထံသို့ သွားကြလေရာ အရှင်ယသမှ တဆင့် ဗုဒ္ဓမြတ်စွာအထံသို့ရောက်ကြ၍ အစဉ်အတိုင်း တရားတော်ကို နာကြရသဖြင့် ရဟန္တာရဟန်းတော်များ ဖြစ်သွားကြလေသည်။

ထို့နောက်ဇနပုဒ်မှာ အရှင်ယသ၏ သူငယ်ချင်းဖြစ်ကြသော ဆွေကောင်းမျိုးကောင်း သတို့သားပေါင်း ငါးကျိပ်လည်း ထိုနည်းအတိုင်းပင် ကြားကြ၍ အရှင်ယသထံ လာကြရာ ရဟန္တာ ရဟန်းတော်များ ဖြစ်ကုန်ကြလေသည်။ ဤကား မိဂဒါဝုန်တော ပထမဝါ၌ ရဟန္တာဖြစ်ကြကုန်သော ရဟန်းတော်များတည်း။ ဗုဒ္ဓမြတ်စွာ၊ ပဥ္စဝဂ္ဂီငါးဦးနှင့် အရှင်ယသတို့ အပေါင်းအဖေါ် ငါးကျိပ် ငါးပါးပေါင်းလျှင် ထိုပထမဝါ၌ ရဟန္တာ ခြောက်ကျိပ်တစ်ပါးရှိလေပြီ။ ဗုဒ္ဓမြတ်စွာကို ချန်ထား၍ ထိုခြောက်ကျိပ်သော အထက်တန်း အမျိုးကောင်းသား ရဟန္တာများကား ဗုဒ္ဓမြတ်စွာ၏ အဆုံးအမဩဝါဒသာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ဆောင်ရွက်တော်မူကြသည့် သာသနာ့ဝန်ဆောင် ထိပ်ခေါင်တင် အရှင်မြတ်များ ပေတည်း။

**အရှင်ယသတို့ ရှေးကောင်းမှု**

အရှင်ယသအလောင်းနှင့် သူငယ်ချင်း ငါးကျိပ်ငါးယောက်တို့သည် တစ်ခုသော ရှေးဘဝ၌ အသင်းဖွဲ့၍ ကောင်းမှုပြုကာ ကိုးကွယ်(အားထား)ရာ မရှိသော သူသေအလောင်းတို့ကိုလည်း မီးသင်္ဂြိုဟ်ပေးလေ့ရှိကြလေသည်။ အခါတပါး၌ ကား ကိုယ်ဝန်ဆောင် မိန်းမ၏အလောင်းကို သုသာန်သို့ ယူသွား၍ အသင်းသား ငါးယောက်ကို မီးသင်္ဂြိုဟ်ရန် ချန်ထားလျက် အခြားသူတို့ ပြန်သွားကြလေသည်။ ကျန်ရစ်သော ငါးယောက်တို့တွင် အရှင်ယသအလောင်းသတို့သားသည် မီးသင်္ဂြိုဟ်ယင်း အသုဘကမ္မဋ္ဌာန်းထင်လာသဖြင့် သူထင်လာသည့်အတိုင်း အခြားလေးယောက်ကိုလည်း ပြောပြလေရာ အားလုံးအသုဘကမ္မဋ္ဌာန်း ပွားများပြီးနောက် ပြန်လာ၍ အခြား ငါးကျိပ်သော မိတ်ဆွေတို့အားလည်း ပြောပြကြသဖြင့် အားလုံးပင် အသုဘကမ္မဋ္ဌာန်း ထင်ကြလေသည်။ ယသအလောင်း သတို့သားကား အိမ်ရောက်သည့်အခါ မိဘနှင့် ဇနီးသည်အားလည်း ပြောပြပြန်သဖြင့် ထိုတခဏမျှ အသုဘကမ္မဋ္ဌာန်းရကြလေ၏။ (အသုဘကမ္မဋ္ဌာန်းကား သတိပဋ္ဌာန်လေးပါးတွင် ကာယာနုပဿနာ သတိပဋ္ဌာန်ပင်တည်း။)

ထိုရခဲ့သော အသုဘဘာဝနာ (ကာယာနုပဿနာသတိပဋ္ဌာန်)သည် ယသ သတို့သား၏ စိတ်အစဉ်၌ မသိမသာ ဘဝတိုင်းစွဲကပ်ပါနေလေရာ နောက်ဆုံး ဘဝ၌ ခမ်းနားကြီးကျယ် တင့်တယ်သော တိုက်ခန်းဝယ် စံမြန်းနေစဉ်မှာပင် ဝတ်စား ဆင်ပြင်လျက် အိပ်ပျော်နေသော မောင်းမမိဿံ အခြွေအရံတွေကို ကြည့်ရှုကာ ရှေးတုန်းက ရခဲ့သော အသုဘဘာဝနာသည် အလွန်ထင်ရှားစွာ ပေါ်လာပြန်ရကား ထိုတိုက်ခန်းမှာပင် မနေနိုင် မထိုင်နိုင်အောင် ရှိရလေသည်။ ထိုအသုဘဘာဝနာကို အခြေခံရခဲ့သောကြောင့် မိဘဇနီးနှင့် သူငယ်ချင်း ငါးကျိပ် လေးယောက်တို့လည်း အရှင်ယသနောက်သို့ လိုက်ကာ တရားထူးရကြပါလေသည်။

## သာသနာပြု စေလွှတ်တော်မူခန်း

ဗုဒ္ဓမြတ်စွာသည် ပထမဝါကျွတ်သည့်အခါ ခြောက်ကျိပ်သောရဟန်းတို့ကို ခေါ်တော်မူ၍ ဤသို့မိန့်တော်မူ၏။

"ရဟန်းတို့– ငါသည် လူ၌ဖြစ်သော ကာမ အနှောင်အဖွဲ့ ကျော့ကွင်း၊ နတ်၌ ဖြစ်သော ကာမ အနှောင်အဖွဲ့ ကျော့ကွင်းတို့မှ လွတ်ကင်းခဲ့လေပြီ။ သင်တို့လည်း ထိုကျော့ကွင်းတို့မှ လွတ်ကင်းကြပြီ။ ရဟန်းတို့– သင်တို့သည် များစွာသော သတ္တဝါတို့၏ စီးပွားချမ်းသာဖြစ်ဖို့ရာ ဒေသစာရီလှည့်လည်ကြ (တစ်လမ်းကို နှစ်ပါးသွားလျှင် အရပ်ဒေသအနှံ့နည်းမည်စိုးသောကြောင့်) တစ်လမ်းကို နှစ်ပါးမသွားကြလေနှင့်၊ ကိုယ့်လမ်းနှင့်ကိုယ် ခွဲ၍ သွားကြလေ။ အစကောင်း၊ အလယ်ကောင်း၊ အဆုံးကောင်းတရားကို ရောက်ရာအရပ်တိုင်းမှာ ဟောပြောကြလေ၊ ငါဘုရား၏ ဩဝါဒ သာသနာတော်ကို အရပ်တိုင်း ထင်ရှားအောင် အနံ့အပြား ဟောပြောကြလေ၊ ပညာမျက်စိ၌ အဝိဇ္ဇာတိမ်သလာ နည်းပါးသော သတ္တဝါတွေ အများအပြားရှိကြပါ၏။ ထို သတ္တဝါတို့သည် တရားကို မနာရသည့်အတွက် ရသင့်ရထိုက်သော အသိဉာဏ်မှ ယုတ်ဆုတ်ရှာကြပေလိမ့်မည်။ ဟောပြောသည့်အခါ သိလွယ်မည့် သတ္တဝါတွေလည်း ရှိကြပေလိမ့်မည်။ ထို့ကြောင့် သင်တို့ အနံ့အပြားတရားစစ်တရားမှန်ကို ဟောကြလေ။ ငါဘုရားကား–ဥရုဝေလ တောသို့ ကြွ၍ ရသေ့ညီနောင် သုံးယောက်တို့ ခေါင်းဆောင်နေသော ရသေ့ တစ်ထောင်ကို တရားဟောမည်"ဟု မိန့်တော်မူကာ၊ ထို ပထမ ဝါကျွတ်မှစ၍ သာသနာပြု ကိစ္စကြီးကို စတည်တော်မူခဲ့လေသည်။

ထိုသို့စေလွှတ်သော ရဟန္တာအရှင်မြတ်တို့လည်း အရပ်ရပ်၌ တရားဟောတော်မူကာ အရည်အချင်းရှိသော အမျိုးသားတို့ကို သာသနာတွင်းသို့ သိမ်းသွင်းတော်မူကြလေရာ– ထိုအချိန်မှစ၍ ဗုဒ္ဓသာသနာသည် အိန္ဒိယနိုင်ငံ၌ တစတစ

မှတ်ချက်။ ။အရှင်ယသ၏ သူငယ်ချင်း ငါးကျိပ်လေးယောက်တို့သည် အရှင်ယသရဟန်းပြုသည်ကို အားကျကြ၏။ ဘာကြောင့်နည်း–“အလွန် အထက်တန်းရောက်နေသော ယသ သတိုးသား၏ ရဟန်းပြုရာ သာသနာသည် အလွန့်အလွန်အထက်တန်းကြပေလိမ့်မည်”ဟု စဉ်းစာမိ သောကြောင့်တည်း။ ထို့ကြောင့် မည်သည့်ကိစ္စဒ္ဓမဆို အထက်တန်းလူတွေလုပ်သော အလုပ်သည် အထင်ကြီးခံရသကဲ့သို့ အောက်တန်းလူတွေလုပ်သော အလုပ်မျိုးလည်း (အလုပ်ကောင်းလာသည့်အခါကျမှ အထင်ကြီးတန်လျှင်ကြီးမည်၊ ပထမသော် အထင်သေးခံရမြဲပင်ဖြစ်သည်။) ရှေးတုန်းက လက်ရှိဘုရင်ဘဝမှ ထွက်၍ ရဟန်းပြုတော်မူသော ဗုဒ္ဓမြတ်စွာနှင့်တကွ အရှင်ယသတို့ကဲ့သို့ အထက်တန်း ပုဂ္ဂိုလ်များစွာ ဝင်ရောက်ခဲ့ကြသော ကျွန်ုပ်တို့သာသနာကို အများကမြော်၍ ဖူးမြော်ကြရသလောက် ယခုအခါလည်း သာသနာကို မော်၍ ဖူးမြော်ကြရအောင် မဟာစည်ဆရာတော်ဘုရားသည် အထက်တန်းစား ရဟန်းတော်များခြံရံလျက် အထက်တန်းစားပုဂ္ဂိုလ်များ၏ အားထားကိုးကွယ်မှုကိုခံယူကာ မြန်မာနိုင်ငံ တွင်မက နိုင်ငံခြားသို့ပင်ပြန့်နှံ့အောင် သာသနာပြုတော်မူလျက် ရှိပေသည်။

## အရှင်ယသရဟန္တာ

သုဇာတာသူဌေးသမီး၏သား အရှင်ယသသည် ဘုရားအလောင်းသိဒ္ဓတ် မင်းသား၏ စည်းစိမ်ကဲ့သို့ ပြာသာဒ် ၃–ဆောင်တို့ဖြင့် ဥတုသုံးပါး ပြောင်းလဲ ကာ လူ့စည်းစိမ်ကို ခံစားခဲ့ရာမှ တစ်ခုသော ညအခါ မိမိကိုဖျော်ဖြေနေကြသော ရံရွေတော်မိန်းမတို့ အိပ်ပျော်နေကြပုံကို မြင်ရသောအခါ ရှေးဘဝကအထုံရ ခဲ့သော အသုဘဘာဝနာ (ကာယာနုပဿနာ သတိပဋ္ဌာန်) အရှိန်အဝါကြောင့် ဘုံဆောင်ပြာသာဒ်ကို သုသာန် သင်္ချိုင်းထင်ကာ ဗုဒ္ဓမြတ်စွာထံသို့ရောက်၍ တရားတော်ကို နာယူရသဖြင့် သာသနာပြုရဟန္တာတစ်ပါး ဖြစ်လာရလေသည်။ အရှင်ယသကို အကြောင်းပြု၍ သူငယ်ချင်းမိတ်ဆွေများပါ သာသနာတော်တွင်

သာသနာပြု ရဟန္တာများ ဖြစ်လာကြသည်။ အိန္ဒိယနိုင်ငံအတွင်း အနယ်နယ် အရပ်ရပ်သို့ သာသနာပြုလှည့်လည်ကာ ဗုဒ္ဓမြတ်စွာ၏ အမိန့်တော်အတိုင်း တရားပြသ သာသနာပြုတော်မူကြသည်။ ဗုဒ္ဓလက်ထက်တော်တွင် ပထမဆုံး သာသနာပြု ရဟန္တာကား အရှင်ယသရဟန္တာပင်တည်း။

## မဟာစည်ဆရာတော်

မြန်မာနိုင်ငံသည် ဗုဒ္ဓသာသနာထွန်းကားရာ နိုင်ငံဖြစ်သော်လည်း ပဋိပတ္တိသာသနာဘက်က မှေးမှိန်လာခဲ့သည်မှာ အတန်ကြာခဲ့ပြီ၊ ပုဂံပြည် သာသနာနှစ် ၁၅၅၁၊ ကောဇာသက္ကရာဇ် ၃၆၉–ခု၊ အရှင်အရဟံမထေရ် မြတ်တို့ အဦးခေတ်မှ တစ်ခေတ်ဆုံးသွားသည့် ဤဘက်မှာခေတ်တလျှောက်တွင် ပဋိပတ္တိသာသနာအရောင် သေးသိမ်၍ မှေးမှိန်လာခဲ့သည်မှာ ဗြိတိသျှအစိုးရတို့ အုပ်စိုးသော ခေတ်အထိ ဖြစ်လေသည်။ ခိုင်ခံ့သော ပရိယတ္တိသာသနာတော် အခြေခံကောင်းခဲ့၍သာ လုံးလုံးပျောက်ကွယ်သွားခြင်းမျိုးမဟုတ်ဘဲ တဦး တလေသာ ကြိုကြားကြိုကြား မပျောက်ရုံတမယ်သာ ရှိနေခဲ့လေသည်။

မြန်မာနိုင်ငံ မြန်မာအစိုးရတို့လက်ထက် မြန်မာခေတ်သို့ရောက်ရှိလာသော ဤခေတ်အခါ၌သာ ပရိယတ္တိရော ပဋိပတ္တိပါ သာသနာနှစ်ရပ်စလုံးကို အားပေး ချီးမြှောက်ထောက်ပံ့လာခဲ့ကြသဖြင့် ပရိယတ္တိသာသနာတော်ဘက်မှ တိပိဋကဓရ ပုဂ္ဂိုလ်တွေ ပေါ်ထွက်လာသည့်အထိလည်းကောင်း၊ ပဋိပတ္တိသာသနာတော် ဘက်မှ မဂ်ဖိုလ်နိဗ္ဗာန်ရောက်နိုင်သည်အထိလည်းကောင်း၊ တဟုန်ထိုး တိုးတက် လာခဲ့သည်ကို မျက်မှောက်ထင်ထင်တွေ့မြင်နေရခြင်းဖြစ်ပေသည်။ ဤသို့ ပရိယတ် ပဋိပတ်နှစ်ရပ်စလုံး တိုးတက်အောင်ဆောင်ရွက်တော်မူ ခဲ့ကြရာ၌ မဟာစည်ဆရာတော်ဘုရားသည် ရှေးတန်းမှနေ၍ ဆောင်ရွက်တော်မူနိုင် စွမ်းရှိသည်မှာ အထင်အရှားပင် ဖြစ်ပေသည်။

ရှေးအထက်က သီးလုံးဆရာတော်၊ အလယ်တောရဆရာတော်၊ မင်းကွန်း

ဇေတဝန်ဆရာတော် စစ်ကိုင်းတောင် မဟာဂန္ဓာရုံဆရာတော်တို့သည် ပဋိပတ္တိ သာသနာရေးအတွက် ဆောင်ရွက်အားပေးတော်မူခဲ့ကြပေသည်။ သို့ရာတွင် သတိပဋ္ဌာန်ကို စွဲကိုင်၍ နိုင်ငံအနှံ့အပြား ယောဂီပုဂ္ဂိုလ်တွေ တိုးပွား၍ ရိပ်သာ ဌာန အမြောက်အများ ခိုင်ခံ့အားကြီးလာအောင် ဆောင်ရွက်ရာ၌ကား မဟာစည် ဆရာတော်ဘုရား၏ စွမ်းရည်သည် စံတင်လောက်သည်ဟု ဆိုသင့်ပေသည်။ ပဋိပတ္တိသာသနာပြုဆရာတော်ဘုရားဟူ၍ ဥဒါန်းတွင်လျက် ရှိပေသည်။

## မဟာစည်ဆရာတော်၏ စွမ်းရည်

စွမ်းရည်ဆိုသည်နှင့် အရည်အချင်းဆိုသည်မှာ ဝေါဟာရသာ ပြားသည်၊ သဘောအားဖြင့် တူညီပေသည်။ မဟာစည်ဆရာတော်၏ စွမ်းရည် (အရည်အချင်း)ကို ဖော်ပြရာတွင် သီလအရည်အချင်း၊ သမာဓိအရည်အချင်း၊ ပညာအရည်အချင်းဟူ၍ ၃-မျိုးရှိသည့်အနက် ပညာအရည်အချင်းကို အဓိကထား၍ ဖော်ပြလိုပါသည်။

ဥပမာ အင်ဂျင်နီယာအတတ်၌ ကျွမ်းကျင်သူ ပညာရှင် တစ်ယောက်၏ အရည်အချင်းကို ဖော်ပြချီးကျူးလိုလျှင် ကောင်းကင်လက်ဝှေ့သတ်ချီးကျူး၍ မရ၊ အထောက်အထားဖြင့် ဖော်ပြချီးကျူးမှသာ သဘာဝယုတ္တိကျပေ၏။ သို့ဖြစ်၍ ယင်းအင်ဂျင်နီယာ ဆောက်လုပ်ထားသော အဆောက်အဦ စက်ကိရိယာကို ကြည့်ပြီးမှ အင်ဂျင်နီယာ၏ ဂုဏ်ကို ချီးကျူးသကဲ့သို့ မဟာစည် ဆရာတော်ဘုရားပြုစုထားသော ကျမ်းဂန်များစွာရှိသည့်အနက် ဝိသုဒ္ဓိမဂ် မဟာဋီကာနိဿယကျမ်းတစ်ကျမ်းတည်းကိုပင် ကြည့်၍ စွမ်းရည်ကို အကဲဖြတ် ချီးကျူးရပေမည်။ ဝိသုဒ္ဓိမဂ်မဟာဋီကာ နိဿယကျမ်းကြီးကား မဟာစည် ဆရာတော်ဘုရား၏ ဉာဏ်စွမ်းအား၊ ဝီရိယစွမ်းအားဖြင့် တည်ဆောက် ထားသော စာပေအဆောက်အဦးကြီးပင် ဖြစ်ပေသည်။

ဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယကျမ်းကြီး ရိုက်နှိပ်ပြီးသောအခါ ယင်းကျမ်း

နိဿယ ကျမ်းစာအုပ်များကို–

၁။ မန္တလေးမြို့ ရန္တဂုရု မစိုးရိမ်ဆရာတော်

၂။ အမရပူရ ဂန္ဓာရုံဆရာတော်

၃။ မန္တလေးတောင်ပြင် အသောကာရာမဆရာတော်

၄။ သန်လျင်မြို့ သပြေကန် မဟာဓမ္မိကာရာမတိုက် အရှင်ဝါသေဋ္ဌာဘိဝံသ

၅။ ပခုက္ကူ မဟာဝိသုတာရာမတိုက် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ

၆။ မဟာနာယက အဂ္ဂမဟာပဏ္ဍိတ ဦးဉာဏုတ္တရ ဆရာတော်

ဤဆရာတော်များထံသို့ ဆက်လှူဒါန်းလိုက်လေသည်။ ယင်းဆရာတော်ဘုရားကြီးတို့အနက် ရန္တဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီး၏ အမိန့်ရှိပုံကို ရှေးဦးစွာ ဖော်ပြလိုပါသည်။ သွားရောက် ဆက်ကပ်လှူဒါန်းသော ပုဂ္ဂိုလ်မှာ ညောင်ကန် အရှင်ဣန္ဒက ဖြစ်ပါသည်။ ဆက်ကပ်လှူဒါန်းသော စာအုပ်ကို အလှူခံပြီးနောက် ဆရာတော်ဘုရားကြီးက–

"မဟာစည်ဆရာတော်ဟာ ဒို့များထက် ဉာဏ်သာတယ်၊ ဒို့များမမြင်တဲ့ စာမှား ပေမှားများကို မြင်အောင် ကြည့်နိုင်တယ်။ အရှင်အနုရုဒ္ဓါတို့၊ ဋီကာကျော်ဆရာတို့၊ အခြား ကျမ်းပြုဆရာတို့ မမြင်တဲ့အမှားများကိုတောင် မြင်အောင် ကြည့်နိုင်တယ်။ သဂြိုဟ်ကမ္မဋ္ဌာန်းပိုင်း ဒိဋ္ဌိဝိသုဒ္ဓိခန်းမှာ နာမ်ရုပ်တို့ကို လက္ခဏာရသ ပစ္စုပဋ္ဌာန်၊ ပဒဋ္ဌာန်ဖြင့် ပိုင်းခြားသိရမည်ဟုဆိုရာ ပဋ္ဌာန်မှာမှ ဆိုသင့်ကြောင်းကို ဆဋ္ဌသံဂါယနာတင်စဉ်က မဟာစည်ဆရာတော်က ထောက်ပြနိုင်ခဲ့တယ်။ ဒီကရှေ့ မဟာစည်ဆရာတော်ထက် သာသူကိုမပြောနဲ့၊ တန်းတူပုဂ္ဂိုလ်ကိုတောင် တွေ့ရဖို့မလွယ်ဘူး၊ မဟာစည်ဆရာတော်ရဲ့ စွမ်းရည်သတ္တိကို သိလို့လဲ ဒီဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယပြုစုဖို့ ဒို့များက တိုက်တွန်းရတယ်" ဟူသော ချီးကျူးစကားကို မိန့်ကြားတော်မူပါသည်။ ပညာရှိ သူတော်ကောင်း

တို့၏ စကားသည် မိုးကြိုးသွားကဲ့သို့ ထက်မြက်စူးရှလှပေသည်။ တနိုင်ငံလုံး၏ ကိုးကွယ်အားထားရာ အဘိဓဇမဟာရဋ္ဌ ဂုရုဘွဲ့တံဆိပ် တော်ရ ဆရာတော်ကြီး တစ်ပါးက တကယ့်ဖြောင့်မှန်သော စိတ်ထားဖြင့် "မဟာစည်ဆရာတော်ဟာ ဒို့များထက် ဉာဏ်သာတယ်၊ ဒို့များမမြင်တဲ့ စာမှား ပေမှားများကို မြင်အောင် ကြည့်နိုင်တယ်" စသည်ဖြင့် ပွင့်ပွင့်လင်းလင်းကြီး မိန့်တော်မူနိုင်သည်မှာလည်း တကယ့် အံ့တပါးပင် ဖြစ်ပါပေသည်။ "သူ့ကို ဂုဏ်မြှင့်၊ ကိုယ့်ဂုဏ်တင့်၏" ဆိုသည့်အတိုင်း ရဋ္ဌဂုရုဆရာတော်ဘုရားကြီးလည်း ထူးခြားသဖြင့် ဂုဏ်တော်မြင့် သွားလေသည်။

ဆရာတော်ဘုရားကြီး၏ ချီးကျူးခြင်းမှာ အကြောင်းမဲ့ သက်သက်ကို မြှောက်ပင့်ခြင်းမဟုတ်၊ စိတ်ပါလက်ပါ အမှန်တကယ် ချီးကျူးခြင်း ဖြစ်ကြောင်း ယုံမှားမဲ့ ယုံကြည်အပ်ပေသည်။ မဟာစည်ဆရာတော်ထက် သက်တော် ဝါတော် ဝယဝုမိအားဖြင့်လည်းကောင်း၊ အဘိဓဇမဟာရဋ္ဌဂုရုဂုဏ်ဟူသော ဂုဏဝုမိအား ဖြင့်လည်းကောင်း များစွာသာလွန်တော်မူသည်ကို တစ်နိုင်ငံလုံး သိကြပြီး ဖြစ်ပေသည်။ သို့ဖြစ်ပါလျက် "ဒို့များထက် ဉာဏ်သာတယ်" ဟု မိန့်မြွက် ချီးမြှောက်တော်မူနိုင်ပါပေသည်ဟု ဆရာတော်ဘုရားကြီး၏ ဖြောင့်မတ်သော ဥဇုကဂုဏ်ကို ကြည်ညိုစိတ်ထား သဒ္ဓါတရားပွားအပ်ပေသည်။

ဤကား ရဋ္ဌဂုရု ဆရာတော်ဘုရားကြီး၏ ချီးကျူးပုံကို အချုပ်မျှပြဆို ခြင်းတည်း။

# ဟံသာဝတီခရိုင် သန်လျင်မြို့
# သပြေကန် မဟာဓမ္မိကာရာမတိုက်
# (ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယနှင့်
# သာသနဓဇ သိရိပဝရ ဓမ္မာစရိယ သိရောမဏိ)
# အရှင်ဝါသေဋ္ဌ၏ ချီးကျူးစာ

ဆရာတော်အရှင်မြတ်၏ ထူးခြားသောဉာဏ်၊ ထက်မြက်သော ဝီရိယကရုဏာတို့ကို အစွဲပြုကာ ဖြစ်ခဲကြီးဖြစ်ပေါ်လာရသော ဝိသုဒ္ဓိမဂ်မဟာဋီကာနိဿယကို ဓမ္မဒါနအဖြစ်ရရှိခဲ့ရာ အဖိုးအနဂ္ဃရတနာအဖြစ်ကို နှစ်နှစ်ကာကာနားလည်နိုင်ခဲ့ပါသည်။ ၎င်းဋီကာ သမယန္တရပိုင်း ဂဏ္ဌိနိဿယကို ရခဲ့စဉ်ယခင်အခါက ထိုသမယန္တရပိုင်းနိဿယပိုင်း နိဿယကို မှန်းဆမြော်လင့်တောင့်တခဲ့ပါသည်။ မြော်လင့်ခဲ့သည့်အတိုင်းပင် အလွန်တွေ့ရခဲ့လှသော ကောင်းခြင်းဂုဏ်အင် စုံလင်ပြည့်ဝနေသည်ကို တွေ့ရသည်ဖြစ်ရာ အားရကျေနပ်ဖွယ် ကောင်းလှပါသည်။

အဖွင့်ရှိသော ကျမ်းများ၌ နိဿယရေးရသည်မှာ လွယ်ကူပါသော်လည်း ဤကဲ့သို့ အဖွင့်မရှိသော ကျမ်းများ၌မူ ပါဠိ အဋ္ဌကထာ ဋီကာအရပ်ရပ်မှာ နှံ့စပ်ကျေပွန်စွာ လေ့လာပြီးမှသာ ဆိုင်ရာအခက်အခဲများကို ဖြေရှင်းတင်ပြနိုင်မည်ဖြစ်ပါသည်။ ထိုထက် မဟာဋီကာ၌ သမယန္တရဝါဒများဖြင့် ဖန်တီးထားခဲ့ပြန်ရာ သာမန် သမယန္တရဝါဒ ဗဟုသုတအစွမ်းစမျှဖြင့် ထိုသမယန္တရဝါဒများကိုအမှန်ကျအောင် ပြန်ပြနိုင်ဖို့ခဲယဉ်းလှပါသည်။ သကသမယ၌လည်း နှံ့စပ်ကျေပွန်နိုင်နင်းလှသဖြင့်လည်းကောင်း ပရသမယများကိုလည်း ရှာဖွေကြိုးစားလေ့လာထားသဖြင့်လည်းကောင်း အများအမှောင်အတိကျနေသော အရာများ၌အလင်းရောင်ထိုးပြနိုင်ခဲ့သည်မှာ ယခုခေတ် သုတေသီများအဖို့ ကျေးဇူးတင်ဖွယ်ဖြစ်ရပါသည်။

ဝေါဟာရမကြွယ်ဝလျှင် လည်းကောင်း၊ ဝေါဟာရကြွယ်ဝစေကာမူ အကွက်ကျကျ အသုံးမချတတ်လျှင်လည်းကောင်း သိလွယ်ထင်လွယ် နှစ်သက်လွယ် အနက်များကို ပေးနိုင်ဖွယ်မရှိပါ၊ ထိုနှစ်ချက်စလုံးစုံသောကြောင့် ပင် ခေတ်နှင့်လျှော်လျက် နှစ်သက်ဖွယ်အနက်များချည်း တွေ့ရသည့်အပြင် အနက်ထင်လျှင် အဓိပ္ပါယ်သိသွားလောက်အောင် အဆင်အပြင်ကောင်းလှသဖြင့် လည်း ဤနိဿယမျိုး ဖြစ်ပေါ်လာခြင်းအတွက် ကံကောင်းလှပေသည်။

အများသိနေသော အသိများသော အနက်အဓိပ္ပါယ်အဆုံးအဖြတ်ကို ပြဖို့ရာမှာ ခက်ခဲလှသည်မဟုတ်ပါ။ အများမမြင်နိုင် တွေ့နိုင်ခဲသော စာပျက်ကို ပြင်နိုင်ခြင်း မြုပ်ကွက်ကို ဖော်နိုင်ခြင်း၊ အသစ်အဆန်းမှတ်စရာကို ပြနိုင်ခြင်းတို့ မှာ စဉ်းစားခြင်း အကျင့်အထုံရလျက်ရှိသော ထူးခြားသော ပညာရှင်ပုဂ္ဂိုလ် အရာသာဖြစ်ပေရာ ဤ (မဟာဋီကာ နိဿယ) ကျမ်း၌ ထိုကဲ့သို့ အများစု မမြင်နိုင် မတွေ့ရဘူးသေးသော အသစ်အဆန်းမှတ်စရာများကို နိဒါန်းအရ လည်းကောင်း၊ ကြည့်ရှု၍ တွေ့ပြီးစာသားများအရလည်းကောင်း ပါဝင်နေ ကြောင်း သိရသည်ဖြစ်ရာ ဆရာတော်၏ အမှန်လိုလား စဉ်းစားဆင်ခြင် ဉာဏ်ထက်သန်ခြင်း အသစ်သစ်ဗဟုသုတလိုလားခြင်းတို့မှ ရအပ်သော လာဘ်များအဖြစ် နှစ်သက်အားရ အများကပင် ကျေနပ်ဝမ်းသာ ကျေးဇူး တင်ကြပါလိမ့်မည်။

ဤလို ဝိသုဒ္ဓိမဂ်ဋီကာနိဿယမှာ ယခုခေတ်၌အမှန်ပင် လိုအပ်လျက်ရှိ ရာ ထိုလိုကွက်ကို ဖော်ထုတ်ဖြည့်စွက်ကာ သာသနာပြုတော်မူခဲ့သည်ကို အားလုံးကပင် ဝမ်းသာအားရ ဖြစ်ကြရပါလိမ့်မည်၊ ထိုထက် သာမာန်နိဿယ မဟုတ်ဘဲ ထူးကဲစွာအကျိုးဆောင်မည့် ဤထက်သာလွန်သော နိဿယကောင်း တစ်ခု ပေါ်ပေါက်ဖို့ရာ လွန်စွာခဲယဉ်းလိမ့်မည်ကို စဉ်းစားဉာဏ်ရှိသူတိုင်း က မြင်ကြရပါလိမ့်မည်။ (ဤသည်မှာ ဋီကာနိဿယ ပထမတွဲထွက်လာစဉ်က

ပြန်ကြားစာ၌ ပါဝင်သော အရှင်ဝါသေဋ္ဌ၏ ချီးကျူးစာပင်ဖြစ်သည်။)

ဆရာတော်၏ ဝိသုဒ္ဓိမဂ်မဟာဋီကာ နိဿယ (ဒုတိယတွဲ) ဓမ္မဒါနကို ရရှိပါသည်။ တပည့်တော်များအဖို့ အဖိုးအနဂ္ဃထိုက်တန်လှသော ရတနာကို ရသကဲ့သို့ ဝမ်းမြောက်ခြင်းဖြစ်ရပါသည်။ မှတ်ချက်အဆုံးဖြတ်ကလေးများကို ရွေးကာ ကြည့်ရှုသုံးသပ်ခဲ့ရပါပြီ။ အချို့အများတကာ သိနိုင်ခဲသော ပဒ ပဒတ္ထ များ၌ ကြိုးစားပြီး အမှန်ကို ဖော်ပြထားခဲ့ရာ သာမန်နိဿယမျှမဟုတ်သည်ကို ညွှန်ပြလျက်ရှိနေကြောင်း တွေ့ရပါသည်။ ဆရာတော်၏ ဉာဏ်စွမ်းကို လည်းကောင်း၊ ကြိုးစားတော်မူခဲ့သော ဝီရိယကိုလည်းကောင်း အထင်ကရမြင်ရ သည်မှာ ချီးကျူးဂုဏ်တင့်ဖွယ် ဖြစ်ရပါတော့သည်။ အများပင် မြင်တွေ့ရခဲ့သော အသောကာဝဒါန (ဒု ၂၆၁) ကို ထည့်သွင်းပြလိုက်သည်မှာလည်း ကျေးဇူး တင်ဖွယ် ဖြစ်ပါတော့သည်။ (ဤကဲ့သို့ စသည့်ဖြင့် ဒုတိယတွဲ ထွက်လာစဉ်က အရှင်ဝါသေဋ္ဌ၏ကျေးဇူးတင်စကား ဖြစ်သည်။)

### မဟာနာယက အဂ္ဂမဟာပဏ္ဍိတ
### ဆရာတော် ဦးဉာဏုတ္တရထံမှ
### ချီးကျူးစကား

ဝိသုဒ္ဓိမဂ်ဆိုတာ အဋ္ဌကထာကိုပြောပါတယ်။ အဲဒီအဋ္ဌကထာရဲ့ အဓိပ္ပါယ် ကို ထပ်ဖွင့်တဲ့ ဋီကာဆိုတာလဲ ရှိပါတယ်။ အဲဒီဋီကာက သာခက်သွားတယ်။ ဒီဋီကာဟာ ဘယ့်လောက် ခက်သလဲဆိုရင် ပါဠိသက်သက် တတ်ရုံနဲ့တော့ ဒီဋီကာနဲ့ ပုဒ် ပါဌ်ရှိသမျှကို အပြည့်အစုံအနက်မပြန်နိုင်ဘူး၊ သက္ကတပါ တတ် ပါတယ်ဆိုတောင်မှ သဘာဝကို နားမလည်လို့ရှိရင် ဝိသုဒ္ဓိမဂ်မဟာဋီကာကြီး ကို မဟာစည်ဆရာတော်က နိဿယရေးပါတယ်။ ရေးရုံတင်မကပါဘူး၊ ပထမတွဲဆိုရင် ထွက်ပေါ်ပြီးတော့တောင် နေပါပြီ၊ (၁၃၂၈–ခုနှစ်က ဆရာတော် ဦးဉာဏုတ္တရ၏ ချီးကျူးစကား ဖြစ်သည်။)

ဝိသုဒ္ဓိမဂ်မဟာဋီကာကြီးကို ရေးမယ်ဆိုရင် ခုနကပြောခဲ့သလိုပဲ ပါဠိကျမ်းဂန် အမျိုးမျိုးကိုလဲ ကျေပွန်ရမယ်၊ သက္ကတကျမ်းအမျိုးမျိုးကိုလည်း နားလည်ရမယ်။ သက္ကတမှာ ဒဿနလို့ခေါ်တဲ့ စကားရှိတယ်။ ဒဿနဆိုတာ အယူဝါဒကို ပြတဲ့အပိုင်းဖြစ်တယ်။ သက္ကတနှင့်ရေးထားတဲ့ အဲဒီဒဿနအမျိုးမျိုးတွေကိုလဲ နားလည်ရတယ်။ အဲဒီအယူဝါဒအမျိုးမျိုးတွေ စုပေါင်းဖော်ပြထားတဲ့ (သဗ္ဗဒဿနသင်္ဂဟ) ဆိုတဲ့ ကျမ်းမျိုးတွေရှိတယ်။ ဒါမျိုးတွေကိုလဲ မဟာစည်ဆရာတော်က ကောင်းကောင်းလေ့လာထားတယ်။ ဒီလိုလေ့လာထားလို့သာလျှင် မဟာဋီကာမှာ အဲဒီ ဝါဒတွေနဲ့စပ်တဲ့ အပိုင်းတွေကိုလဲ ရှင်းလင်းပြီး ရေးသားနိုင်ပါတယ်။ အဲဒီ မဟာဋီကာမှာ ပါတဲ့ အခြားအယူဝါဒတွေကို ရေးထားတဲ့ သမယန္တရပိုင်းဆိုတာ ရှိတယ်။ အဲဒီအပိုင်းဟာ ခက်လွန်းလို့ မဟာစည်ဆရာတော်က သူများတွေလဲ ခက်ကြပေလိမ့်မယ်လို့ မြော်တွေးပြီး အဲဒီသမယန္တရပိုင်းကို သီးခြားနိဿယအဖြစ်နဲ့ ရေးသားပုံနှိပ်ပြီး ဖြန့်ဝေထားပါတယ်။ အဲဒါလဲ ဋီကာနိဿယ စတုတ္ထတွဲစာအုပ်လောက်မှာ ပါလိမ့်မယ်လို့ထင်ပါတယ်။ ဒီဋီကာနိဿယမှာ ပြောစရာ ချီးကျူးစရာကတော့ အများကြီးရှိပါတယ်။ ဒါပေမယ့် အချိန်မရဘူး၊ ဒါကြောင့်တိုတိုနဲ့ပြီးအောင် အဲဒီ မဟာဋီကာရဲ့ နိဒါန်းကို ရေးတဲ့ပုဂ္ဂိုလ်က ပြောထားတာကလေးတွေကိုပဲ ထုတ်ပြပါတော့မယ်။ "ပါဠိကို ဘယ်လောက်ဘဲ တတ်တတ်၊ သက္ကတဘယ်လောက်တတ် တတ်လာခဲ့ပါ၊ ဒီနိဿယမျိုးရေးဆိုရင်တော့ မရေးနိုင်ဘူး၊"လို့ ခုနကပြောခဲ့သလိုပဲ အဲဒီ နိဒါန်းရေးတဲ့ ပုဂ္ဂိုလ်က စကားတစ်လုံး သုံးထားတယ်– ဘယ်လိုလဲဆိုတော့–

"မဟာဋီကာ နိဿယကို ကြည့်ရင် ဒီလိုကြည့်ပါတဲ့။ မဟာစည်ဆရာတော်ဟာ ဘယ်လောက်ခက်ခက်ရေးသားထားသလဲ၊ ဒီနိဿယဟာ ဘယ်လောက်ကောင်းသလဲ ဘယ်လောက်ပြည့်စုံသလဲဆိုတာ နိဿယကိုချည်း လျှောက်ကြည့်

နေရုံနဲ့တော့ သိမယ်မဟုတ်ဘူးတဲ့။ ဘယ်လိုမှ သိမလဲဆိုရင် မဟာဋီကာပါဠိမှာ (အထူးခက်တယ်လို့ ထင်ရတဲ့) ကြိုက်ရာအခန်းက စာတစ်ရွက်လောက်ကို ဖတ်လိုက်ပါ။ ဖတ်ပြီးပြီဆိုတော့ အဲဒီပါဠိတွေကို ကိုယ်ကြိုက်သလို ကိုယ်နိုင်သလို ကိုယ်ပိုင်သလို အနက်ပေးပြီး စာနဲ့လဲ ရေးသားထားပါ။ ပြီးတော့ အဲဒီကိုယ်ရေးထားတဲ့စာနဲ့ မဟာစည်ဆရာတော်ရဲ့ နိဿယနဲ့ တိုက်ကြည့်ပါ။ အဲဒီအခါကျရင် မဟာစည်ဆရာတော် ဘယ်လောက် စွမ်းသလဲ၊ မဟာစည်ဆရာတော်ရဲ့ နိဿယဟာ ဘယ်လောက်သဘာဝကျသလဲဆိုတာ ကောင်းကောင်းကြီး သိပါလိမ့်မယ်"တဲ့ -ဒီလို နိဒါန်းရေးတဲ့ ပုဂ္ဂိုလ်က ဆိုထားပါတယ်။

အဲဒီတော့ နိဿယဘယ်လောက်ကောင်းတယ်ဆိုတာကို ကျမ်းစာသားမဖတ်ရသေးခင် နိဒါန်းကတည်းက သိနင့်ရတယ်။ ဘုန်းကြီးက နိဒါန်းကြည့်ရင်း " ဒီကိုယ်တော်ပြောတာ မှန်ပေတယ်၊ သဘောကျတယ် "လို့ ချီးကျူးမိတယ်။ စာဆိုတာ သူများရေးထားတာကို ကြည့်လိုက်ရင် သိလွယ်တယ်။ ကောင်းသားပဲလို့လဲ သဘောကျတတ်ပါတယ်။ ခက်တယ်လို့တော့ မထင်တတ်ဘူး၊ ဒါပေမယ့် သူများရေးထားတာကို မကြည့်ဘဲနဲ့ ကိုယ်တိုင်ရေးကြည့်စမ်းပါဆိုတော့ စွမ်းနိုင်ခဲပါတယ်။ မလွယ်ပါဘူး၊ ဒါကြောင့် သူများရေးထားတာကို မကြည့်သေးခင် မဟာဋီကာမှာ ကြိုက်ရာစာရွက်တရွက်ကို လှန်ပြီး ကိုယ့်ဉာဏ်စွမ်းအားရှိသမျှ နိဿယရေးပြီးတော့မှ မဟာစည်ဆရာတော်ရဲ့ နိဿယနှင့်တိုက်ကြည့်လိုက်ပါ။ ဘယ်လိုကွာခြားသွားတယ်ဆိုတာ သိပါလိမ့်မယ်-တဲ့။ အဲဒီလို နိဒါန်းရေးတဲ့ပုဂ္ဂိုလ်က စကားတစ်လုံးသုံးထားပါတယ်။ (ဤသို့စသည်ဖြင့် ၁၇-ကြိမ်မြောက် ဩဝါဒခံယူပူဇော်ပွဲမှာ ဆရာတော်ဦးဉာဏုတ္တရက ချီးကျူးမြွက်ကြားသွားပါသည်။)

## ညောင်ကန် အရှင်ဣန္ဒကာ၏ ဆက်လက်ဖော်ပြချက် ဆိုရေးရှိလို့ ဆိုရဦးမည်

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် ဝိသုဒ္ဓိမဂ်မဟာဋီကာ နိဿယကြီးကို စာအုပ်ဖြင့် ရိုက်နှိပ်မပြီးသေးမီ (၁၃၂၄) ခုနှစ် တော်သလင်းကပင်"သမယန္တရပိုင်း ဂဏ္ဌိနိဿယ"ကို ကြိုတင်ရိုက်နှိပ်ကာ ဓမ္မဒါနအဖြစ် ရိုက်နှိပ်ဖြန့်ဝေလှူဒါန်းလိုက်ပါသည်။ ထိုသို့ဖြန့်ဝေတော်မူရာ၌ အကြောင်းအရာပြနိဒါန်းတွင် အောက်ပါအတိုင်းဖော်ပြထားပါသည်။

"ဤမဟာဋီကာ သမယန္တရပိုင်း ဂဏ္ဌိနိဿယကို ပုံနှိပ်ဖြန့်ဝေခြင်း၏ အကြောင်းမှာ ရှေးကာလများက ဤသမယန္တရပိုင်းကို ကြည့်ရှုသောအခါ ပို့ချသောအခါများတွင် ပုဒ်ပါဠ်၌လည်းကောင်း၊ အနက်၌လည်းကောင်း များစွာ သံသယဖြစ်လျက် အားမရဘဲရှိခဲ့၏။ အချို့ပုဒ်များကို အနက်မပြန်ရဲအောင်ပင် သံသယရှိခဲ့၏။ သမယန္တရဆိုင်ရာ ကျမ်းရင်းကို မကြည့်ရဘဲ အနက်ပြန်လျှင် ထိုသမယန္တရဝါဒီတို့၏ အယူဆနှင့် ကိုက်လိုက်မည်ဟု မထင်မိပေ။ ထို့ကြောင့် ဤအပိုင်းကို ပို့ချသောအခါ မရဲတရဲနှင့် အချို့ကိုသာလျှင် အနက်ပြန်၍ ပို့ချနိုင်သည်။ အချို့မှာ အနက်မပြန်ဘဲ ချန်ထားခဲ့ရသည်။ သမယန္တရပိုင်းဆိုင်ရာ ကျမ်းရင်းတို့ကို မတွေ့ရသော အခြားပါဠိ ကျမ်းဂန်တတ် ပုဂ္ဂိုလ်တို့မှာလည်း မိမိကဲ့သို့ပင် အားမရဘဲ အခက်အခဲနှင့်တွေ့နေသူတွေ ရှိကောင်းရှိလိမ့်မည်ထင်ပါ၏။ ထို့ကြောင့် ဤသမယန္တရပိုင်းကို နိဿယရေးရန်အတွက် သမယန္တရကောဝိဒဖြစ်တော်မူကြသော ဆရာတော်တို့အား လျှောက်ထား တောင်ပန်လိုသော စိတ်ဆန္ဒများစွာ ဖြစ်ခဲ့ဘူး၏။ ဆရာတော်ကြီးတစ်ပါးကိုမူ လျှောက်ထား တောင်းပန်ခဲ့ဖူး၏။ ဆရာတော်ကြီးမှာလည်း အချိန်မရသဖြင့် ရေးသားနိုင်ခြင်းမရှိခဲ့၊ ယခုမှာမူ မိမိအားကိုးသော ထိုဆရာတော်ကြီးမှာမူ ကွယ်လွန်လေပြီ"ဤသို့ ဖော်ပြထား၏။

## ခက်ရသည့်အထဲ ပို့ခက်

ဆရာတော်ဘုရားကြီးသည် ဝိသုဒ္ဓိမဂ်အဋ္ဌကထာနှင့် ဤမဟာဋီကာကြီးကို တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်ကမျှ မတိုက်တွန်းမီ စောစောကပင် အလေးပေး၍ ပို့ချခဲ့ဖူးကြောင်းမှာ အဆိုပါနိဒါန်းဖြင့် ထင်ရှားပေသည်။ ဆရာတော်ဘုရားကြီးသည် ပရိယတ္တိကျမ်းဂန် သင်ကြားမှု ဂန္ထဓုရကို ဆောင်ရွက်တော်မူပြီးနောက် ပဋိပတ္တိကို ကျင့်မှု ဝိပဿနာဓုရကို ဆောင်ရွက်တော်မူရန် ညွှတ်ပြောင်းကိုင်းရှိုင်းလာတော်မူခဲ့သည်ကို ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို ကြည့်ရှုပါက ထင်ရှားတွေ့ရလိမ့်မည်ဖြစ်၏။ အနည်းငယ်ဖော်ပြရလျှင် ဆရာတော်ဘုရားကြီးသည် ပါရမီအလျောက် ထိုးထွင်းသောဉာဏ်၊ ထက်သန်သော ဝီရိယရှိသူ ပုဂ္ဂိုလ်ထူးဖြစ်သဖြင့် ရဟန်း၄၊၅ဝါအရကပင် မော်လမြိုင် တောင်ဝိုင်းကလေးတိုက်ကျောင်းတွင် စာသင်သားရဟန်းတို့အား ပရိယတ္တိစာပေကျမ်းဂန်များကို စာချအဖြစ်ဖြင့် ပို့ချတော်မူခဲ့ကြောင်းသိရ၏။ သုံးနှစ်ခန့် ပရိယတ္တိစာပေကျမ်းဂန်များကို ပို့ချတော်မူပြီးနောက် ရဟန်းရှစ်ဝါအရတွင် သထုံမြို့ မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးထံ ချဉ်းကပ်လျှက် ပဋိပတ္တိ ဝိပဿနာတရားကို အလေးအနက်အားထုတ်တော်မူပြီးလျှင် ပဋိပတ်နှင့် စပ်ဆိုင်သော မဟာသတိပဋ္ဌာနသုတ်စသော သုတ်ပါဠိတော်များနှင့် ဝိသုဒ္ဓိမဂ်အဋ္ဌကထာကဲ့သို့သော အဋ္ဌကထာများကို ရှေ့ကထက် ပို၍ လေ့လာကြည့်ရှုမည်ဖြစ်ရာ ထိုအခါကပင် ဝိသုဒ္ဓိမဂ်မဟာဋီကာ ကြီးကိုလည်း ကြည့်ရှုလေ့လာ ပို့ချလိမ့်မည်။ ထိုအခါ ခက်ခဲရှုပ်ပွေလှသော ဤသမယန္တရပိုင်းနှင့် ရင်ဆိုင်ခဲ့ရမည်သာ ဖြစ်၏။

ပါဠိကျမ်းဂန်ဆိုသည်မှာ လွယ်သည်မဟုတ်။ ပုဒ်ပါဌ်ကို သာမန်အနက်ပြန်တတ်ရုံဖြင့် ပြီးသေးသည် မဟုတ်ပေ၊ ဆိုလိုသောအဓိပ္ပါယ်ကို နားလည်ပါမှ အနက်ပြန်ဆိုရာ၌ ပြည့်စုံပေသည်။ ထို့ကြောင့်အနက်ပြန်ဆိုရာ၌

ပါဠိတော်၏ ဆိုလိုသောအနက်အဓိပ္ပါယ်ကို နားမလည်လျှင် အဋ္ဌကထာကို ကြည့်ရသည်။ အဋ္ဌကထာ၏ အဓိပ္ပါယ်ကို နားမလည်ပြန်က ထို၏အဖွင့် ဋီကာကို လှန်ကြည့်ရပြန်သည်။ ဋီကာ၏ အဓိပ္ပါယ်ကို နားမလည်ပြန်လျှင် ထို၏အဖွင့် အနုဋီကာကို ကြည့်ရပြန်၏။ ယခုသော် သမယန္တရပိုင်း ပါနေသော မဟာဋီကာကြီးမှာ အခြားဋီကာများလောက်သာမက ခက်သည်ထက် ပိုခက်သော ဋီကာကြီး ဖြစ်နေပေသည်။ ခက်သည်ဆိုပြီး အခြားသူ၏ အဖွင့်အနုဋီကာ ကလည်း မရှိပြန်သဖြင့် ခက်သည်အထဲ နောက်တခက်က ကဲလာပြန်ရာ ထိုဋီကာကြီးကို သာမန် စွမ်းအင်မျိုးဖြင့် နိဿယတစောင် ဖြစ်မြောက်အောင် ရေးသားရန် ဝေးလို့ ကြံပင်ကြံစည်ဝံ့မည် မဟုတ်ပေ။

## သူ့ထက်သူက ခက်သည်ဆို၏

ပါဠိကျမ်းတစ်ကျမ်း၏ နိဿယ တစ်စောင်တစ်ဖွဲ့ ပြုစုရသည်ဆိုသည်မှာ ပါဠိအဋ္ဌကထာ ဋီကာကျမ်းတစ်ကျမ်း ပြုစုရသည်ထက် ပိုခက်သည်ဟု စာချ ဆရာတော်ကြီးများ မိန့်သည်ကို ကြားရဖူးသည်။ နိဿယကောင်းတစ်ခု ဖြစ်အောင် ရေးဖို့မှာ နိဿယရေးမည့်ကျမ်းဂန် ပဒ ပဒတ္ထ အဓိပ္ပါယတ္ထ မကျန် ခြုံမိငုံမိအောင် ကြည့်ရှုလေ့လာရသည်။ ပုဒ်တစ်ပုဒ်၏ ဓာတ်ပစ္စည်း ဝိဘတ် မပေါ်မလွင် ငုပ်နေလျှင် ပေါ်လွင်ထင်ရှားအောင် ဝစနတ္ထ ပြုတန်ပြုပေးရသည်။ သဒ္ဒါကျမ်းဂန်တို့၌ အတွေ့နည်းပြီး ပုဒ်ထူးပုဒ်ဆန်းဖြစ်နေလျှင် သုတ်ပြီး ပုဒ်ပြီး ထွက်ပြတန် ထွက်ပြရသည်။ ဝါကျအနုသန္ဓေဆိုသင့်ကဆို၊ အထွက်အတက် ထွက်တက်ပြတန်ပြ၊ ပုဒ်တစ်ပုဒ်နှင့် အစပ်အဟပ်ဝေးနေလျှင် စပ်ဟပ်တန် စပ်ဟပ်ပြ၊ မိမိပြန်ဆိုထားသော အနက်က ထူးဆန်းသကဲ့သို့နေလျှင် အထောက် သာဓကနှင့်တကွ ရှင်းလင်းပြတန်ပြရသည်။ ဂါထာပုဒ်ပါနေကလည်း ဆန်းဂိုဏ်းစစ်တန်စစ်ပြီး ဂါထာအမည်ကို ဖော်ပြတန်ဖော်ပြရသည်။ ထိုထက် ခက်သည်ကား –ဤနေရာ၌ ဤဒွာန၌ ခက်လို့မသိခြင်းကြောင့် (ဥတ္တာနတ္ထ)

အနေနှင့် ချန်လှပ်ထားခဲ့၍ မဖြစ်၊ နိဿယရေးသည်မှာ အလုံးစုံ ပြည့်စုံအောင် ရေးရသည်။ အဋ္ဌကထာ ဋီကာကျမ်းဂန်တို့ကို ရေးရာ၌ ခက်၍ မသိလျှင် (ဥတ္တာနတ္ထမေဝ) ပေါ်လွင်သော အနက်ရှိသည်သာ ဆိုပြီး ချန်ထားခဲ့လို့ ဖြစ်သည်။ နိဿယရေးသူက ဤကဲ့သို့ မဖြစ်သောကြောင့် ပိုခက်သည်ဟု ဆိုကြ၏။ ဤအဆိုမှာ အဋ္ဌကထာ ဋီကာတို့၌ သိလောက်သည်ကို ဖွင့်ပြနေလျှင် ကျမ်းလေးမည် စိုးသောကြောင့် (ဥတ္တာနတ္ထမေဝ) ဟု မှာထားလေ့ရှိသည်ကို ပြက်ရယ်ပြုခြင်းမျှသာ ဖြစ်ပေသည်။

## အတိမ်အနက်

သမုဒ္ဒရာရေနှင့် စာလျှင် အင်းအိုင် ချောင်းမြောင်းရေသည် တိမ်၏။ အင်းအိုင်ချောင်းမြောင်းရေနှင့်စာလျှင် သမုဒ္ဒရာရေသည် နက်၏။ အတိမ်အနက်ဟူသည် ဤသို့ပင် သူ့ပမာဏနှင့်သူ ရှိနေကြမည်သာဖြစ်၏။ ထိုအတိမ်အနက်ကို ထောက်လှမ်းရာ၌မူ အရပ်အမောင်း ပမာဏလောက်သာ ထောက်လှမ်း နိုင်ပေလိမ့်မည်။ အရပ်အမောင်း ရှိသလောက်ထက် လွန်၍ ထောက်လှမ်းနိုင်မည်မဟုတ်ပေ။ ယုန်ငယ်သည် သမုဒ္ဒရာရေကို မဆိုထားနှင့် အင်းအိုင် ချောင်းမြောင်းရေကိုပင် ထောက်လှမ်းနိုင်မည် မဟုတ်ပဲ။ နေလတို့ကို လက်ခုပ်၌ ထား၍ ကစားနိုင်သော အသူရိန်နတ်မှာမူ ထိုနှစ်မျိုးသော ရေတိမ်ရေနက်ဟူသမျှကို ထောက်လှမ်း၍ မှီသည်သာ ဖြစ်ပေသည်။

ပါဠိကျမ်းဂန်တို့မှာလည်း အင်းအိုင်ချောင်းမြောင်းရေနှင့် သမုဒ္ဒရာရေတို့ကဲ့သို့ အတိမ်အနက် သဘာဝအခက်အခဲ မတူပဲ ရှိပေသည်။ ရဟန်းရှင်လူတို့ ကိုယ့်အမြင်နှင့်ကိုယ် ရေးသားထားသော ကျမ်းဂန်များသည် ဘုရားဟော ကျမ်းဂန်များနှင့်စာလျှင် သဘာဝအားဖြင့် တိမ်၍လွယ်မည်။ ဘုရားဟော ကျမ်းဂန်တို့က ပို၍နက်မည် ခက်မည်။ ယုန်ငယ်လောက်သာ ဉာဏ်ရှိသူသည် မည်သည့်ကျမ်းဂန်ကိုမျှ မှီအောင် ထောက်လှမ်းနိုင်မည်မဟုတ်ပဲ အဆင့်

ဆင့်မြင့်သထက်မြင့်သော ဉာဏ်ရှိသူတို့မှာ မြင့်လျှင် မြင့်သလို ပမာဏအလိုက် အတိမ်အနက် သဘာ၀အခက်အခဲကို ထောက်လှမ်းနိုင်မည်သာ ဖြစ်၏။

## နက်သည်ကို ထောက်မိသည်

ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ဉာဏ်သည် အဘိဓမမဟာရဋ္ဌ ဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီးကဲ့သို့သော ပညာရှိပုဂ္ဂိုလ်ကြီးတို့က ချီးကျူးယူရလောက်အောင် ထက်မြက်စူးရှလှသည်။ ထက်မြက်စူးရှသလောက်လည်း ပါဠိ အဋ္ဌကထာ ဋီကာကျမ်းဂန်တို့၌ နံ့စပ်သည်။ သီဟိုဠ် (သီရိလင်္ကာ) ယိုးဒယား(ထိုင်း) အင်္ဂလိပ်၊ သက္ကဋ၊ ဘာသန္တရ ဗဟုသုတတို့နှင့်လည်း ပြည့်စုံတော်မူသည်။ ထို့ကြောင့် သမုဒ္ဒရာရေကဲ့သို့ ထောက်မိနိုင်ခဲသော နက်နဲခက်ခဲလှသည့် ကျမ်းဂန်ကြီးတို့၏ သဘာ၀အနက်အဓိပ္ပါယ်များကို ထောက်မိတော်မူနိုင်သည်။ ထောက်မိတော်မူနိုင်သည်ဖြစ်၍လည်း နက်နဲခက်ခဲလှသော ကျမ်းဂန်ကြီးတို့၏ အဖွင့် သံ၀ဏ္ဏနာဖြစ်သော "ဝိပဿနာရှုနည်းကျမ်းကြီး"ကဲ့သို့သော မြန်မာကျမ်းကြီး အမြောက်အများကိုလည်းကောင်း၊ ဝိသုဒ္ဓိဉာဏကထာကျမ်းနှင့် ဝိသုဒ္ဓိမဂ် နိဒါနကထာကဲ့သို့သော ပါဠိကျမ်းဂန်များကိုလည်းကောင်း ဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယကျမ်းကြီးကဲ့သို့သော နိဿယကြီးများကိုလည်းကောင်း ပညာရှိတို့အားရကျေနပ်လောက်အောင် ရေးသားပြုစုတော်မူနိုင်ခဲ့သည်။

## ကိုယ်ချင်းစာတရားလည်းရှိ

သမယန္တရပိုင်း ဂဏ္ဌိနိဿယ၌ အကြောင်းအရာနိဒါန်းတွင် ဖော်ပြထားတော်မူသည့်အတိုင်း ဝိသုဒ္ဓိမဂ် မဟာဋီကာကြီးကို ပို့ချတော်မူရာ၌ သမယန္တရပိုင်းတွင် မချမပို့ဝံ့ပဲ ချန်လှပ်ထားခဲ့ရသည်အထိ ဆရာတော်ဘုရားကြီးမှာ အခက်အခဲနှင့် တွေ့တော်မူခဲ့ရဘူးသည်။ ပါဠိသက်သက်ကိုသာ တတ်ကြသော ပါဠိပညာရှင်တို့သည်လည်း မိမိကိုပင် ဤသမယန္တရပိုင်း၌ တွေ့ကြုံတော်မူကြပေလိမ့်မည်ဟု

ကိုယ်ချင်းစာနာတော်မူမိသည်။ ထို့ကြောင့် ဝိသုဒ္ဓိမဂ် မဟာဋီကာနိဿယကြီး အလုံးစုံ ပြီးသည့်တိုင်အောင် လည်တမော့မော့ စောင့်နေရလျှင် မျှော်သူ့တို့ အတွက် ကြာမည်စိုးသောကြောင့် နိဿယကြီးအလုံးစုံ မပြီးသေးမီ သီးခြားထုတ်၍ ရိုက်နှိပ်စေပြီးလျှင် စောစောကပင် ဓမ္မဒါနအဖြစ်ဖြင့် ဝေတော်မူစေခဲ့ပါသည်။ ဆရာတော်ဘုရားကြီး၏ စေတနာသဒ္ဓါတို့မှ ပေါ်ထွက်လာသော ကိုယ်ချင်းစာ တရားတို့ကြောင့်လည်း စောင့်မျှော်နေကြသော ပညာရှင်တို့မှာ သမယန္တရပိုင်း၏ အခက်အခဲကို စောစောစီးစီး ကျော်လွန်တော်နိုင်ကြရသည် ဖြစ်၏။

## ကျမ်းရင်းထက် ပိုခက်

ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာသည် ပညာရှင်တို့ သိကြပြီးသည့်အတိုင်း ပဋိပတ် လမ်းစဉ်ကို အဓိကထား၍ ဖွင့်ပြသော ကျမ်းဂန်ကြီး တစ်စောင်တဖွဲ့ဖြစ်သော ကြောင့် ခက်ခဲနက်နဲလှသော ကျမ်းကြီးဖြစ်သည်။ သီလ သမာဓိ ပညာ သိက္ခာ သုံးပါးအပြည့်အစုံနှင့် နိဗ္ဗာန်အထိ သိမ်မွေ့သော အနက်အဓိပ္ပါယ်များဖြင့် ပြည့်နှက်လျက်ရှိသည်။ သံသရာဝဋ်ဆင်းရဲမှ ထွက်မြောက်၍ နိဗ္ဗာန်ထိရောက် ဖွင့်ပြထားသော ကျမ်းကြီးဖြစ်၍လည်း ထက်မြက်သောဉာဏ် ပဋိဘာန်နှင့် ထက်သန်သော လုံ့လဝီရိယရှိသူ သူတော်ကောင်း ပညာရှိတို့သာ ကြည့်ရှုသုံး သပ်လေ့ရှိသည်။ သူတော်ကောင်း ပညာရှိတို့ ဉာဏ်ကျက်စားရာ ဖြစ်လျက် မူရင်းအဋ္ဌကထာကိုက နက်နဲခက်ခဲရသည်အထဲ သမယန္တရပိုင်းကဲ့သို့ ပို၍နက်နဲ ခက်ခဲလှသော အသိရခက်သော အပိုင်းကိုပါ ထည့်ဖွင့်ထားသော မဟာဋီကာ ကြီးက ကျမ်းရင်းအဋ္ဌကထာထက် သာလွန်ခက်ခဲသည်ဟု ပညာရှင်တို့က ညည်းညူကြသည်။

## နိုင်းနင်းတော်မူလှသည်

ပိဋကတ်သုံးပုံ ခြုံငုံဖွင့်ထားသော ဝိသုဒ္ဓိမဂ် အဋ္ဌကထာကြီးက မည်မျှ ပင်ပို၍ခက်ခက် မဟာစည်ဆရာတော်၏ ထက်မြက်သော ဉာဏ်နှင့်တွေ့ပြီး

ထိုအခက်ကြီးတွေအတွင်း သက်ဝင်သွားကာ ဝိသုဒ္ဓိမဂ် မြန်မာပြန်စာအုပ်ကြီးတွေအဖြစ်၊ ဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယကြီးတွေ အဖြစ်သို့ရောက်ရှိသွားခဲ့ကြရာ၌ ခက်ရာမှ အလွယ်ဘက်သို့ ပြောင်းသွားကြပါတော့သည်။

ဝိသုဒ္ဓိမဂ် အဋ္ဌကထာကျမ်းကြီးအတွင်း ချင်းနင်းဝင်ရောက်ရန် အရင်က ခက်နေသော ပညာရှင်တို့ မဟာစည်ဆရာတော်ဘုရားကြီး ဘာသာပြန်ထားသော ဝိသုဒ္ဓိမဂ်မြန်မာပြန် ၄–တွဲကို ကြည့်ရှုလေ့လာပါလျှင် အရင်ကကဲ့သို့ ခက်ခဲတော့မည်မဟုတ်ပဲ လွယ်လွယ်ကလေးနှင့် ချင်းနင်းဝင်ရောက်သွားနိုင်ပါလိမ့်မည်။ အရင်က သမယန္တရပိုင်းကြောင့် မရှုနိုင် မကယ်နိုင် လက်မှိုင်ချထားရသော မဟာဋီကာကြီးကို မဟာစည်ဆရာတော်ဘုရားကြီးနိုင်နိုင်နင်းနင်း ရေးသားစီရင်ထားသော ဝိသုဒ္ဓိမဂ်မဟာဋီကာ နိဿယကြီးကို ကြည့်ရှုလေ့လာပါလျှင် ရှုနိုင် ကယ်နိုင်လာမည်ဖြစ်၍ လက်မှိုင်ချ နေစရာလိုတော့မည် မဟုတ်ပါ။

## ခရီးတစ်ထောက်မျှသာ

ကျေးဇူးရှင်မဟာစည်ဆရာတော်ဘုရားကြီး လျှောက်သွားတော်မူခဲ့သော သာသနာတော်ခရီးတစ်လျှောက်ကို ပြန်ကြည့်လိုက်မည်ဆိုလျှင် ဤဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယကြီးမှာ ဆရာတော်ဘုရားကြီးလျှောက်တော်မူခဲ့သော ခရီးတစ်ထောက်မျှသာ ဖြစ်ပါသည်။ ဆရာတော်ဘုရားကြီးမှာ ပါရမီကံအလျှောက် အနာရောဂါကင်းရှင်း၍ ကျမ်းမာခြင်းနှင့်ပြည့်စုံသော ခန္ဓာကိုယ်ကို ရရှိထားပါသည်။ ကျန်းမာရေးနှင့်ပြည့်စုံသော ဆရာတော်ဘုရားကြီးတွင် အရှိန်ကောင်းကောင်းရနေသော ဉာဏ်အားကလည်း လျော့သည်မရှိပဲ မှန်မှန်ကြီးတိုးတက်လျက်ရှိသည်ကို တွေ့နေကြရပါသည်။ ထို့ကြောင့်ဆရာတော်ဘုရားကြီး ဖြတ်တန်းလျှောက်နေသော သာသနာတော်ခရီးမှာ ရပ်နားဆုတ်နစ်ခြင်းမရှိ အင်မတန် တွင်လှပါသည်။

အကျွန်ုပ်တို့ တစ်စုမှာ ကံကောင်းလှပါသည်။ အကျွန်ုပ်တို့ မှီခိုအားထား လေးစားနေကြရသော သာသနာတော်မြတ်ကြီးမှာ ဆရာတော်ဘုရားကြီး ဖြတ်သန်းလာခဲ့သမျှ သာသနာတော်ခရီးတစ်လျှောက် ဝင်းဝင်းတောက်အောင် ထိန်လင်းနေပါသည်။ အကျွန်ုပ်တို့ မျက်မှောက်၌ ပရိယတ် ပဋိပတ် ၂-ရပ်စလုံး ဤမျှလောက် တောက်ပသော သာသနာကို မတွေ့ရဘူးသေးပါ၊ ဆရာတော်ဘုရားကြီး ဖြတ်တန်းလျှောက်တော်မူနေသော သာသနာတော် ခရီးတစ်ထောက် အရောက်၌ ဤစာရေးသူသည် ဆရာတော်ဘုရားကြီး၏ နောက်ပါးမှ တခဏမျှ ကပ်ပါ၍ မှတ်သားမိသမျှကို မှတ်သားထားရင်း သဒ္ဓါတရား ပွားများခွင့် ရခဲ့ပါသတည်း။

## မဟာစည်ဆရာတော်၏ ဆရာစဉ်ဆက်

ပထမသံဂါယနာတင် အပါအဝင် ဖြစ်တော်မူသော ဥပါလိမထေရ်၊ ၎င်းတပည့် ဒါသကမထေရ် စသည်ဖြင့် ဆရာစဉ်ကို ဖော်ပြလေ့ရှိရာ ရှည်ဝေးလှစွာသော ထိုဆရာစဉ်ကို ပေယျာလမြှုပ်ပြီးလျှင် အနီးဆုံး ထင်ရှားသော ဆရာစဉ်ကိုသာ မှတည်၍ ဖော်ပြပါမည်။

ရွှေဘိုနယ်တွင် မန်းကျည်းကန်ဆရာတော်ဟူ၍ (ကုန်းဘောင်ဆက်ဘကြီးတော်လက်ထက်၌) ထင်ရှားခဲ့သည်။ အကျင့်သိက္ခာ အနေထိုင်အစစ အရာရာ၌ ကျစ်လစ်သိမ်မွေ့တော်မူလှသဖြင့် ရွှေဘိုနယ်တဝန်းလုံး လွှမ်းမိုးလျက် ကျော်စောတော်မူသည်။ အသက်သိက္ခာ ၆–ဝါအရကပင် တောရကျောင်း၌ သီတင်းသုံးတော်မူသည်။

## အင်ကြင်းတော ဘုရားဖူးကြွခြင်း

အခါတပါး ကပ္ပိယတစ်ယောက် နောက်ပါခေါ်၍ ရွှေဘိုနယ်တွင် တန်ခိုးကြီးဘုရားဟု ထင်ရှားသော အင်ကြင်းတောဘုရားသို့ ဘုရားဖူးရန် ကြွလာတော်မူရာ ဘုရားသို့ မရောက်ခင် ဆိပ်ခွန်ရွာနှင့် ထန်းစည်းရွာအကြား တနေရာတွင် ဦးမြတ်ထွေးဆိုသူ ဥပါသကာကြီးနှင့် ဆုံမိကြသည်။ မြင်လျှင်မြင်ချင်းပင် ကြည်ညိုလှသဖြင့် ဦးမြတ်ထွေးက ရိုသေစွာ ကန်တော့ပြီးလျှင် စတင်၍–

"အရှင်ဘုရား ဘယ်က ကြွလာတော် မူပါသလဲဘုရား"

"မန်ကျည်းကန်က"

"မန်ကျည်းကန်ကဆိုလျှင် မကျည်းကန်ဆရာတော် ဦးနာရဒကို သိပါသလား"

"ဒကာကြီးက ဦးနာရဒကို သိသလား"

သတင်းသာ ကြားဘူးပါသည်၊ မမြင်ဘူးပါ၊ သတင်းကြားရုံနှင့် ကြည်ညိုနေပါသည်၊ ကျန်းမာ ချမ်းသာကြောင်းကိုလဲ ဆုတောင်းနေပါသည်။"

"ဦးနာရဒဆိုတာ ဘုန်းကြီးဘဲ"

"ဘယ်ကြွမလို့ပါလဲ ဘုရား"

"အင်ကြင်းတော ဘုရားကို ဖူးမြော်ဖို့ လာခဲ့တယ်"

ဦးမြတ်ထွေးမှာ ဝမ်းသာမဆုံး ဖြစ်တော့သည်။ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်ကောင်းကို အလွန်မြတ်နိုးသူ ဖြစ်သည်။ ကိုယ်တိုင်ကလည်း စင်ကြယ်မြင့်မြတ်သူ ဖြစ်သည်။ ဦးမြတ်ထွေး ရိုးသားပုံကား တခါက အင်ကြင်းတော ဘုရားပွဲတွင် ဈေးပွဲသို့အသွား ဆီရောင်းသော ဈေးသည်ထံမှ ဦးမြတ်ထွေးက ဆီဝယ်ယူခဲ့ရာ အိမ်သို့ ရောက်မှ အမ်းလိုက်သော ပိုက်ဆံကို တွက်ကြည့်သည်တွင် ပိုက်ဆံ တမတ်ပိုလာကြောင်းသိလေသည်။ "ဈေးသည်ဟာ မသိရှာဘူး၊ ပြန်ပေးမှ ဖြစ်မယ်။ သူ့ခမျာ တမတ်နစ်နာတယ်ဆို မနဲဘူး" ဟုဆိုကာ ဈေးသည်ရှိရာသို့ အရေးတကြီး လိုက်သွားသည်။ မမှီတော့ချေ။ နောက်ဆုံးနေ့ဖြစ်၍ ဈေးသိမ်းကာပြန်သွားကြလေပြီ။

ဦးမြတ်ထွေးကား တဖျစ်တောက်တောက် နောက်တနှစ် ဘုရားပွဲချိန်ရောက်သောအခါ ဈေးသည်ကို ရှာပြန်၏၊ မတွေ့။ ဘာ့ကြောင့် မလာပါလိမ့်မလဲ။ လာမှ လာပါဦးမလား၊ ဤသို့လျှင် သုံးနှစ်မြောက် ဘုရားပွဲတိုင်အောင် ပိုက်ဆံတမတ်ပြန်ပေးဖို့ ဈေးသည်ကို ရှာခဲ့၏။ သုံးနှစ်မြောက်ဘုရားပွဲကြမှ တွေ့သဖြင့် ဝမ်းမြောက်ဝမ်းသာ လွန်ခဲ့သောသုံးနှစ်က ဈေးဝယ်စဉ် ပိုက်ဆံတမတ်ပိုပြီး အမ်းလိုက်တာ အိမ်ကျမှသိရကြောင်း စသည်ကို ပြောပြ၍ ပိုက်ဆံတမတ်ကို ပြန်ပေးလိုက်လေသည်။ ဈေးသည်ကား အင်မတန်ပြောပြမှ သတိရရှာသည်။ ပိုက်ဆံတမတ်မျှ ပိုသွားသည်ကိုလည်း မသိ။ ဦးမြတ်ထွေးက သတိကောင်းသူဖြစ်သည့်အတိုင်း ဝယ်သောပစ္စည်းနှင့်တန်ဖိုး အမ်းလိုက်သော ပိုက်ဆံအရေအတွက်တို့ကို အကုန်ရှင်းပြသောအခါ အိပ်ရာကနိုးသလို ဝိုးတိုးဝါးတားဖြစ်လာ၍ "ပိုက်ဆံကလေး တမတ်လောက်နဲ့ ဒါလောက်အရေးတကြီး

ဖြစ်ရသလားဗျာ၊ ကျုပ်ကျေနပ်လို့ အမ်းလိုက်တာဘဲဟာ ဘာဖြစ်သလဲ၊ ခင်းဗျား စေတနာဟာ အလွန်ထူးခြား ကောင်းမွန်လှပါပေတယ်။ ကျုပ်တွေ့ဘူးသမျှ လူတွေဖြင့် ပိုသွားတဲ့ ပိုက်ဆံကို ဘယ်တော့မှ ပြန်မပေးကြဘူး"ဟူ၍ အံ့သြမဆုံး ပြောသွားဘူးလေသည်။

ဦးမြတ်ထွေးက ဆက်လက် လျှောက်သည်မှာ–

"တပည့်တော်ကို ချီးမြှောက်သောအားဖြင့် ဒီအရပ်မှာ သီတင်းသုံးတော် မူပါဘုရား"

"အကြောင်းကုန် လျှောက်စမ်း"

"ကျောင်းဆောက်ပြီး ကိုးကွယ်လိုပါသည်။ အရှင်ဘုရား သီတင်းသုံးပါ လျှင် ရပ်ရွာလူအများလဲ ကောင်းမှု ပွားကြပါလိမ့်မည်ဘုရား"

မန်ကျည်းကန်ဆရာတော်သည် ဦးမြတ်ထွေး၏ အတွင်းစိတ်ဓာတ် မြင့်မြတ်ခြင်းနှင့် အမူအရာ ဖြောင့်စင်းပုံကို သဘောကျတော်မူသဖြင့် ကျောင်းဆောက်ခွင့် ပြုတော်မူသည်။ ဦးမြတ်ထွေးသည် ထန်းစည်းရွာမှ ၁– မိုင် ဝေးကွာသောနေရာတွင် ရှေးယခင် ပုဂံပြည်၊ နရပတိစည်သူမင်း လက်ထက်က သုမေဓာ အရှင်မြတ်အား ကျောင်းဆောက်လှူဒါန်းဘူးသော ကြောင့် သုမေဓာကျောင်းဟုတွင်သော နေရာဟောင်း၌ ကျောင်းဆောက်လုပ်ပြီး လျှင် မန်ကျည်းကန်ဆရာတော်အား တင်လှူလေသည်။ သုမေဓာကျောင်းဟူ ၍ပင် ခေါ်တွင်သည်။

## အိမ်မက်ထူး မက်ခြင်း

ထိုကျောင်း၌ သီတင်းသုံး၍ ကာလတန်းအတန်ကြာသောအခါ ညကျိန်းစက်တော်မူစဉ် "ကျောင်းဝင်း၏ အနောက်ဘက်တံခါးမှ ဆင်ဖြူတော် တစီးဝင်ရောက်လာသည်။ ကျောင်းဝင်းသို့ ဝင်ရောက်ကာ မကျည်းကန် ဆရာတော်ထံ ဝပ်တွားဦးတိုက်သည်။ " ဤသို့အိမ်မက်တော်မူပြီးနောက်

နိုးလာသောအခါ အရဏ်ကျင်းလေပြီ။ "အင်း- အိမ်မက်ထူးဘဲ၊ ပုဂ္ဂိုလ်ထူး တဉ်းတော့ ငါ့ထံ ရောက်လာတော့မယ့် နိမိတ်ပဲ။"

## လာပါပြီ

နေကလေး အတော်မြင့်လျှင် ကျောင်းအနောက်ဘက်မှ ဆင်းရဲသား လင်မယားနှင့် သားသမီးများ ဝင်ရောက်လာကြသည်။ လေးနှစ်သားယောကျ်ား ကလေးတစ်ယောက် ပါလာသည်။ မန်ကျည်းကန်ဆရာတော် ထင်ချက်မှာ ရဟန်းသော်လည်းကောင်း၊ လူသူတော်သော်လည်းကောင်း တစ်ဦးဦးရောက်လာ ရမည်ဟု တွက်ချက်ထားရာ လာမည့်လာတော့ ဆင်းရဲသားလင်မယား အိမ်ထောင်စု ဖြစ်နေသည်။

မန်ကျည်းကန်ဆရာတော်က စ၍-

"ဒကာတို့ ဘယ်အရပ်က လာကြသလဲ"

"အနောက်မှူးနား အရပ်ကပါဘုရား"

"ဘာကြောင့် လာကြသလဲ၊ ဘယ်သွားကြမလဲ"

"တပည့်တော်တို့ ရွာဝန်းကျင်မှာ ကျားတွေ ထနေပါတယ်။ ညအခါ ကျရင် ကောင်းကောင်းမအိပ်ရ၊ ကြက်ဝင်ဆွဲ နွားဝင်ဆွဲ အတော်ကို အတင်းရဲ နေပါတယ်၊ တော်တော်ကြာ အိမ်ပေါ်တက်ပြီး လူကိုဆွဲမယ့်အခြေအနေရောက်နေ တာနဲ့ လူတွေလဲ ပြေးကုန်ကြပါပြီ၊ ဒါနဲ့ တပည့်တော်များလဲ ကလေးတွေ အတွက် အထူးစိုးရိမ်ပြီး ရောက်ရာပေါက်ရာ လုပ်ကိုင်စားဖို့ နေရာရှာရင်း ထွက်ခွါလာကြပါတယ်ဘုရား"

ဆရာတော်သည် လေးနှစ်သားကလေးကို စိုက်ကြည့်တော်မူသည်။

"ဒကာတို့ သွားလေရာ ဒီကလေးကို ခေါ်သွားကြမှာလား"

"သားကလေးဆိုတော့ ခေါ်ရမှာဘဲ ဘုရား"

"ကလေးကငယ်လွန်းတယ်၊ ဖိနပ်လဲမပါဘူး၊ ဒီကလေးလိုက်နိုင်ပါ့မလား

ဒကာရယ်"

"ဖြစ်သလို ခေါ်ရမှာပါဘုရား"

"ဒီကျောင်းမှာထားခဲ့ရင် ကလေးချမ်းသာဖို့ ရှိတယ်။"

ဤသို့ အမိန့်ရှိပြီး ကလေးဘက်ကိုလှည့်ကာ-

"ဟဲ ကလေး၊ ငါ့ကျောင်းမှာ နေရစ်မလား။"

"အင်း..."

"တကယ်လားကွဲ"

"အင်း"

"မင်းနေနိုင်ပမလား"

"နေနိုင်တယ်"

"ကိုင်း ဒကာ၊ ကလေးကတော့ ဒီမှာ နေရစ်မယ်လို့ ပြောနေပြီ၊ ထားခဲ့နိုင်မလား၊ ကလေးကို သနားကြပါကွယ်။"

"မှန်လှပါ၊ အရှင်မြတ်ထံမှာဆိုရင် ကလေးလဲ ချမ်းသာမှာမို့ တပည့်တော်များ ဝမ်းသာလှပါတယ်ဘုရား"

ဤသို့ လျှောက်ထားပြီးလျှင် သားကလေးကို ဆရာတော်အား အပ်နှံ၍ နောက်ဆံတင်းကာ လင်မယားနှစ်ယောက် သုမေဓာကျောင်းမှ ထွက်ခွါသွားကြသည်။

ကျန်ရစ်သော ကလေးသည် မိဘများကို ကြည့်ရုံသာ ကြည့်၍ လွမ်းဆွတ်သော အမူအရာဖြင့် မျက်နှာမလှ မဖြစ်၊ မငိုကြွေး၊ ခပ်အေးအေးပင် ရှိရစ်ရှာသည်။

ဆရာတော်ကြီးက-"မင်းကို မင့်အမေအဖေများက မချစ်လို့(မုန်းလို့)စွန့်ပစ်သွားကြပြီကွယ့် သိရဲ့လား၊ မင်းဟာငါ့တပည့်ဖြစ်ပြီ၊ မင်းကို ငမုန်းလို့ နာမယ်ပေးမယ်၊ မိဘများက မုန်းသွားလို့ ငမုန်းပေါ့ကွယ်"

ဆရာတော်ကြီးသည် ထိုကလေးကို ကျွေးမွေးသုတ်သင် ပညာသင်ကြား

ပေးလာရာ၊ ရှင်ဘဝ၊ ရဟန်းဘဝ အဆင့်ဆင့် မြင့်သည်ထက်မြင့်၍ မင်းတုန်းမင်း လက်ထက်သို့ရောက်သောအခါ ငမုန်းဆိုသောကလေးသည် မည်သို့သော ဂုဏ်ထူးဖြင့် မည်သို့သော ပုဂ္ဂိုလ်ကြီးအဖြစ်သို့ ရောက်ရလေသည်ကို စောင့်ကြည့်ကြပါစို့။ ဆင်ဖြူတော်ကား ဤပုဂ္ဂိုလ်ပေတကားဟု အံ့အားသင့်ဖွယ်ပင်။

## ငမုန်းကို ဂရုစိုက်တော်မူပုံ

မန်းကျည်းကန်ဆရာတော်ကြီးသည် ဆင်ဖြူတော်အိမ်မက်အရ ရောက်လာသော ကလေးဟု အလွန်ဂရုစိုက်တော်မူသည်။ ကလေးအတွက် ဖျင်စများကို လုံချည်အဖြစ် ဖြတ်ပိုင်း၍ "ဟဲ ငမုန်း အစင်းကြိုက်သလား၊ အကွက်ကြိုက်သလား"ဟု မေးတော်မူပြီးလျှင် အစင်းကြိုက်သည်ဆိုလျှင် ဖျင်စပေါ်တွင် မျဉ်းကြိုးကို မဲရည်စိမ်၍ အစင်းစင်း ရိုက်ပေးတော်မူသည်။ အကွက်ကြိုက်သည်ဆိုလျှင် အကွက်အကွက်ရိုက်ပေးတော်မူသည်။ အကွက်မရှိသော်လည်း မိဘသဖွယ် ဖြစ်သလို ပြုပြင်ပေးတော်မူသည်။

ကျောင်းသားဘဝမှ ရှင်အဖြစ်သို့ ရောက်အောင် ဆရာတော်ဘုရားကြီးကပင် ရှင်ပြုပေးတော်မူသည်။ ကြာသပတေးသားဖြစ်၍ ရှင်ပဒုမဟု ဘွဲ့ပေးတော်မူသည်။ ဆရာတော်ကြီးကမူ နှုတ်ကျိုးနေသည့်အတိုင်း ငမုန်းဟူ၍ပင် ခေါ်သည်။ အခြေခံစာပေများကို လွယ်လွယ်နှင့် သင်ကြားတတ်မြောက်သည်။ ရဟန်းအဖြစ်သို့ ရောက်အောင် ချီးမြှောက်တော်မူသည်။ ရဟန်းဖြစ်လာသော်လည်း ငမုန်းဟူ၍ပင် ခေါ်တော်မူသည်။ ချစ်စနိုးယုယသော ခေါ်ဝေါ်ခြင်း ပေတည်း။

ဤသို့ဖြင့် ရဟန်း ၆-ဝါ ရရှိလာသောအခါ မန်ကျည်းကန် ဆရာတော်ကြီးက "ဟဲ့ ငမုန်း၊ နင်လဲ ရဟန်း ၆-ဝါ ရှိလာပြီ၊ ငါ့မှာလဲ မန်ကျည်းကန်ကျောင်းကို ပစ်ထားခဲ့ရတာ ကြာပြီ၊ ပြန်ဦးမှ တော်မည်။ နင့်ကို သီးလုံးဆရာတော်ကြီးထံမှာ အပ်ထားခဲ့မည်။ သီးလုံးဆရာတော်ကြီးဟာ သိက္ခာ ပညာ သမာဓိ လိုသည်

မရှိအောင် ပြည့်စုံတော်မူတယ်။ ငမုန်း ဆရာတော်ကြီးဆုံးမသမျှကို နားထောင်၊ ကောင်းတဲ့ အတုကိုယူ ကြားလား။"

"တပည့်တော် ဘယ်မှာနေရမှာလဲ ဘုရား"

"သုမေဓာ ကျောင်းမှာဘဲ နေရမယ်၊ ဒီကျောင်းကို ငမုန်းအတွက် ရည်မှန်းထားတယ်။"

"အမိန့်တော်အတိုင်းပါဘုရား"

မိတ်ဆွေကောင်း ဖြစ်တော်မူသော သီးလုံးဆရာတော်ကြီးထံတွင် ဦးပဒုမ (ငမုန်း)ကို အပ်နှံ၍ မန်ကျည်းကန်ကျောင်းသို့ ပြန်ကြွတော်မူသည်။ သီးလုံးဆရာတော်ကြီးကလည်း ဦးပဒုမကို အထူးဂရုစိုက်ကာ သင်ကြားပြသဆုံးမတော်မူရာ သာသနာတော်တွင် ထင်ပေါ်ကျော်စောမည့် အခြေခံကောင်းများနှင့် ပြည့်စုံလာခဲ့သည်။ သီးလုံးဆရာတော်ကြီးမှာ ရွှေကျင်ဆရာတော်၏ တပည့်ရင်းဖြစ်၍ ဦးပဒုမနှင့် ရွှေကျင်ဆရာတော်တို့ကား ဆရာတူတပည့်များ ဖြစ်တော်မူကြသည်။ ပထမရွှေကျင်ဆရာတော်ကြီးသည်ပင် ငယ်စဉ်က မန်ကျည်းကန် ဆရာတော်ကြီးထံ၌လည်း ပညာသင်ယူတော်မူကြောင်း မှတ်တမ်းရှိပေသည်။

မန်ကျည်းကန်ဆရာတော်ကြီးကား အသက်အရွယ် ကြီးရင့်လာ၍ မထသောအိပ်ခြင်းဖြင့် အိပ်ခါနီးတွင် အလွန်အာရုံပြုကာ ကျွေးမွေးချီးမြှောက်လာခဲ့သော ဦးပဒုမကို တမ်းတသတိရတော်မူသဖြင့် "ငမုန်းကို ခေါ်ပေး၊ ငါတွေ့ချင်သည်။ ငမုန်းကို စကားပြောချင်သည်" ဟု အမိန့်ရှိတော်မူရှာသည်။ ဦးပဒုမရောက်လာသောအခါ ရွှန်းရွှန်းစားစား ကြည့်တော်မူကာ–

"ဟဲ့ ငမုန်း၊ နင်လဲ လူလားမြောက်လာပြီ၊ ဆရာကောင်း တပည့်လဲဖြစ်ရပြီ၊ ကောင်းကောင်းနေရစ်ခဲ့၊ သာသနာတော်အကျိုးရှိအောင် ဆောင်ရွက်၊ သာသနာတော်မှာ ရဟန်းကောင်းဖြစ်ဖို့ အရေးကြီးသည် ကြားလား။"

"မှန်လှပါ၊ အမိန့်တော်အတိုင်း လိုက်နာပါမည်။ လိုက်နာခြင်းဖြင့် လေးနှစ်သားကစပြီး ကျွေးမွေးသုတ်သင် ပြုပြင် စောင့်ရှောက်တော်မူခဲ့သည့် ဆရာတော်ဘုရားကြီး၏ ကျေးဇူးများကို ဆပ်ပါမည်ဘုရား။"

ဆရာတော်ကြီးသည် ငမုန်းဘဝကို အစမှချီ၍ တွေးတော်မူဟန်ရှိသည်။ ဆင်ဖြူတော်ကား ဤသူပင်တည်းဟု ယုံကြည်ကာ သာသနာတော်တွင် အများမှီခိုရာ ပညာရှိသူတော်ကောင်းဖြစ်မည်။ ငါ့တပည့် ငမုန်းကလေးကြောင့် ငါစိတ်အေးရပြီ၊ ငါစိုက်ပျိုးခဲ့သော သာသနာ့သစ်ပင်သည် အရိပ်အာဝါသအမှု အရာဖြင့် ဦးပဒုမ(ငမုန်း)၏ လက်ကို သုံးသပ်ယင်း ငြိမ်သက်သွားတော်မူသည်။

## ယောအတွင်းဝန် ဦးဘိုးလှိုင်၏ ကျေးဇူးဆပ်ပုံ

ကောဇာသက္ကရာဇ် ၁၂၂၈-ခု၊ ပညာရှိအမတ်ကြီးဖြစ်သာ ယောအတွင်းဝန် မင်း ဦးဘိုးလှိုင်သည် လောကုတ္တရာ အကျိုးစီးပွားအတွက် အမှတ်တရအလှူဒါန ပြုရန် အကြံဖြစ်ပေါ်လာလေသည်။ ပိဋကတ်သုံးပုံ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာမှစ၍ ဂန္ထန္တရတို့ကို လက်ခံကျွေးပေး၍ ရေးသားပြုစုသည်။ မန္တလေးမြို့တော်၏ မြောက်ပြင်၊ သူရတပ်အရှေ့ဘက် မြေခင်းသာ၌ မန္တလေးတောင်နှင့် ပန်းဟပ်အောင် အုတ်ကျောင်းတစ်ကျောင်း ဆောက်လုပ်ရန် စီစဉ်လေသည်။ မင်းတုန်းမင်းကြီးက ထိုအုတ်ကျောင်းကြီး ဆောက်လုပ်ရန် ဘဏ္ဍာတော်တိုက်မှ ငွေတသောင်း ထုတ်ပေးတော်မူသည်။

ဦးဘိုးလှိုင် စိတ်တိုင်းကျ အိန္ဒိယပြည်မှ ပန်းရံဆရာများကို ခေါ်ယူဆောက် လုပ်သောကြောင့် အုတ်ကျောင်းကြီးမှာ ငွေတစ်သိန်းကုန်ကျသည်။ ဦးဘိုးလှိုင် က ငွေကိုးသောင်းစိုက်ထုတ် ကုန်ကျရသည်။ ယနေ့တိုင် ထိုအုတ်ကျောင်းတော် ကြီးသည် "ယောမင်းကြီးတိုက်" ဟူ၍ သူရဲတပ် အရှေ့ဘက်တွင် ထင်ရှား တည်ရှိသေးသည်။

ဦးဘိုးလှိုင်ကား အုတ်ကျောင်းတော်ကြီး ပြီးစီးထမြောက်သဖြင့် ဝမ်းမြောက်

မဆုံးအောင်ရှိနေလေသည်။ မင်းတုန်းမင်းဘုရင်ကြီးထံ အခစားဝင်သောအခါ ဘုရင်ကြီးက–

"ဘိုးလှိုင်၊ နင့်အပေါ် ကျေးဇူးများလှသော မဟာဗိုလ်ဆရာတော်ကို ရအောင် ပင့်၍တင်ရမည်။" ဟု အမိန့်တော် မှတ်လိုက်သည်။ မူလကတည်းက မိမိကျေးဇူးရှင် မဟာဗိုလ်ဆရာတော်အား ရည်စူးထားခဲ့သောကြောင့် ဘုရင့်အမိန့်တော်မြတ်အတိုင်း ဦးထိပ်ရွက် ပင့်လျှောက် လှူဒါန်းရန် အစီအစဉ် ပြုလေသည်။

ကျေးဇူးရှင် ဆရာတော်ဘုရားအား ကျေးဇူးဆပ်ရတော့မည်ဟု နှလုံးပိုက်လျက် မဟာဗိုလ်ဆရာတော်ရှိရာ ရွှေဘိုနယ် မဟာဗိုလ်ကျေးရွာသို့ ချွေရံသင်းပင်း စုံလင်စွာဖြင့် ယောမင်းကြီးကိုယ်တိုင် ထွက်လာခဲ့လေသည်။ ရောက်သောအခါ မန္တလေးရွှေမြို့တော်တွင် ခန်းနားတင့်တယ်သော အုတ်ကျောင်းတော်ကြီး ဆောက်လုပ်ပြီးစီးခဲ့၍ ကြွရောက်အလှူခံကာ သီတင်းသုံးတော်မူပါမည့်အကြောင်း လျှောက်ထားလေသည်။ မဟာဗိုလ်ဆရာတော်က–

"နေပြည်တော်တွင် မိုးထိနီးပါး ဆောက်လုပ်ကိုးကွယ်မည်ဟု ဆိုစေကာမူ ရှုပ်ထွေးပွေလီသော မြို့ကိုဖြင့် မသတီ၊ တောသားပီပီ တောမှာနေထိုင်ရခြင်း၌သာ ပျော်မွေ့သည် ဘိုးလှိုင်"ဟု ပင့်လျှောက်ချက်ကို ခါးခါးသီးသီး ပယ်တော်လိုက်သည်။ မဟာဗိုလ်ဆရာတော်သည် ရဟန်းကျင့်ဝတ်သိက္ခာကို အဓိကထားတော်မူသည်။ မင်းကိုမှီ၍ မှူးမတ်သေနာပတိကို မှီ၍ မင်းဆရာအဖြစ်မခံလို ကျောင်းချင်းပြိုင်၍ သံဃာချင်းပြိုင်၍ သူနိုင်ငါနိုင်ပြုကာ ဘုန်းကြီးအမှု ရှာကပ်ချင်သော ဆရာတော်မဟုတ်။ ဆိတ်ငြိမ်ဌာနၶ လောကုတ္တရာအကျိုးစီးပွားအလို့ငှာ ရဟန်းတရားအားထုတ်လျက် လွတ်လပ်စွာ သီတင်းသုံးလိုသော ဆရာတော် ဖြစ်ပေသည်။

ဦးဘိုးလှိုင်သည် ကျေးဇူးရှင် ဆရာတော်ဘုရားအား အမျိုးမျိုးအကြောင်း

ပြ၍ အကြိမ်ကြိမ်ပင့်လျှောက်သော်လည်း ငြင်းဆန်မြဲ ငြင်းဆန်နေသောကြောင့် နေပြည်တော်သို့ ပြန်လှည့်လာခဲ့ရလေသည်။

**မဟာဗိုလ်ဆရာတော်၏ ကျေးဇူး**

ဤနေရာ၌ ဦးဘိုးလှိုင်အား မဟာဗိုလ်ဆရာတော်က ကျေးဇူးပြုကာ ချီးမြှောက်ခဲ့ပုံကို သင့်တော်ရုံဖော်ပြလိုပါသည်။ ဦးဘိုးလှိုင်သည် ဉာဏ်ပညာ ထက်မြက်သူဖြစ်သည့်အတိုင်း လောကီလောကုတ္တရာ ကျေးဇူးများမည့် စာပေ ကျမ်းဂန်တို့ကို ဆည်းပူးသင်ကြားမှုပြုခဲ့သည်။ မဟာဗိုလ်ဆရာတော်ဘုရားထံမှ လည်းကောင်း၊ ပြည်ဆရာတော်ထံမှလည်းကောင်း သဒ္ဒါကျမ်းဂန်ကို သင်ယူလေ သည်။ သဒ္ဒါတတ်ကျွမ်းမှ စာတတ်သည်ကို ငယ်စဉ်အခါကပင် နားလည် သဘောပေါက်ခဲ့သည်။

ရှင်သာမဏေဝတ်ပြီးနောက် မကြာမီပင် ဦးဘိုးလှိုင်သည် လောကုတ္တရာ စာပေ အခြေခံကို ဆည်းပူးရရှိခဲ့သည်။ မဟာဗိုလ်ဆရာတော် ပြည်ဆရာတော်တို့ ထံမှ ပညာသင်ကြားပြီးလျှင် ငယ်ဆရာအရင်းဖြစ်သော ကျဘိုးဆရာတော်ထံ ဆက်လက်၍ ပညာသင်ကြားလေသည်။

သက္ကရာဇ် ၁၂၀၆–ခု၊ နယုန်လဆန်းတွင် ရွှေဘိုဘုရင် မကျန်း မမာဖြစ်တော်မူသည်။ စိတ်နလုံးနောက်ကျိသော ရောဂါဝေဒနာ စွဲကပ်သဖြင့် သမားဟူးရားတို့ဖြင့် ကုသနေစဉ်အတွင်း "အသက်ရှည်စေလို မန်းတောင်ရိပ် ကိုခို" ဟူသော တဘောင်စကား ခေတ်စားလျက်ရှိရာ ပထမမဏ္ဍလေး တောင်အရပ် အရိပ်ကျရာ မင်းတဲအီကင်းအရပ်၌ ယာယီစံနန်းဆောက်လုပ်ကာ ဘုရင်ကို ထား၍ ကုစားကြသည်။ ဒုတိယ ဒေဝန်းနယ်နိမိတ်အတွင်းရှိ ဓာတ်နန်းအရပ် အတွင်း တဖန်ပြောင်းရွှေ့စံနန်းတော်မူကာ အကုစားခံတော်မူသည်။ ထိုနေရာသည် ဓာတ်နန်းအရပ်ဟူ၍ ယနေ့တိုင် တွင်ရစ်၏။

ထိုအချိန်တွင် နန်းတွင်းရေး ရှုပ်ထွေးလာခဲ့သည်။ အရှုပ်အထွေးတို့အနက်

ပြည်မင်းသားနှင့် မပြလေး(အနောက်နန်းမတော်) တို့၏ စံနက်မီးမှာ ဦးဘိုးလှိုင်၏ဖခင် ယင်းတောဝန်ကြီး ဦးတုတ်အပေါ်သို့ သက္ကကျရောက်လာလေသည်။ ယင်းတောဝန်ကြီးသည် ပြည်မင်းသားနှင့် ကြံရာပါဖြစ်သည်ဟု အယူရှိသဖြင့် ရွှေဘိုဘုရင်သည် လက်တော်၌ အမြဲစွဲကိုင်လျက်ရှိသော ကျောက်စီလှံဖြင့် ကိုယ်တော်တိုင် ထိုးသတ်လေရာ ယင်းတောဝန်ကြီး ဦးတုတ် ကွယ်လွန်ရရှာလေသည်။ မင်းကြီး သက်တော်ရှည်ရာထူးကို ရရှိထားသူဖြစ်ပါလျက် ဤကဲ့သို့ အသတ်ခံရသည်မှာ ရူးသွပ်ခြင်းဝေဒနာစွဲကပ်လာသောကြောင့်သာ ဖြစ်ရသည်ဟု ပြောစမှတ်ပြုကြသည်။

ရွှေဘိုဘုရင်လှံချက်မိ၍ ယင်းတောမင်းကြီး ကွယ်လွန်အနိစ္စမရောက်မီ မင်းတုန်းမင်းသားသည် မင်းကြီးထံသို့ ရောက်လာသည်။ မင်းကြီး၏ ဖြစ်ပုံကို ဝမ်းနည်းစွာကြည့်ရင်း–

"ဝေဒနာ သက်သာပါရဲ့လာ ဘိုးဘိုး"

"မှန်လှပါ အရှင်မင်းသား အထွတ်အထိပ် ရောက်မည့်အချိန်တိုင်အောင်တော့ ဘိုးဘိုးမှီနိုင်မည်မဟုတ်ပါ။ သားကလေးလှိုင်ကိုသာ ကြည့်ရှုစောင့်ရှောက်တော်မူရစ်ပါ အရှင့်သား။"

"သားကလေး လှိုင်အတွက် နောက်ဆံမတင်းပါနဲ့ဘိုးဘိုး၊ ကိုယ်တော်အထွတ်အထိပ်ရောက်ချိန်မှာ ကြည့်ရှုစောင့်ရှောက်ပါမယ်။ မင်းကြီးသက်တော်ရှည် ရာထူးခန့်ထားပြီး ဌာနန္တရအဆင့်ဆင့် တိုးတက်ပေးပါမယ်။"

မင်းတုန်းမင်းသားသည် ဤသို့ ကတိပြုတော်မူသည့်အတိုင်း မင်းအဖြစ်သို့ရောက်သောအခါ ဦးဘိုးလှိုင်အား ချီးမြှောက်စားတော်မူသည်။ မင်းအဖြစ်မရောက်မီ အိမ်ရှေ့စံဘဝမှပင် ဆွေမျိုးဆက်လိုက်မှ မင်းပြစ်မင်းဒဏ် မခံရလေအောင် လှူမမယ် မောင်ဘိုးလှိုင်အာ အစ်မတော် မင်းတိုင်စံထိပ်ထား (စကြာဒေဝီ) မင်းသမီး၏ ဘုန်းရိပ်ကံရိပ်ကို ခိုလှုံခွင့်ရစေရန် အကြံညဏ်ပေး

တော်မူခဲ့သည်။

ရွှေဘိုဘုရင်၌ စွဲကပ်သော ဝေဒနာမှာ တရက်ထက်တရက် ဆိုးလာတော့သည်။ ယင်းတောမင်းကြီး ဦးတုတ်ကိုလုံဖြင့် ထိုးသတ်ချိန်၌ မကွေးမင်းကြီးသည် ဘုရင်ကြီးကို အတင်းဖက်ထားလိုက်သေးသည်။ ဘုရင်ကြီး ငြိမ်သက်အောင် စီစဉ်ပြီးမှ ပုဂံအိမ်ရှေ့မင်းအား လွှတ်တော်သို့ တက်၍ အုပ်ချုပ်ပါမည်အကြောင်း တင်လျှောက်လေသည်။ ရွှေဘိုဘုရင် နတ်ရွာမစံမီကပင် ပုဂံမင်းသားက ဘုရင်ပြုလုပ် အုပ်ချုပ်နေသော်လည်း နန်းသိမ်းပွဲ မခံနိုင်သေးချေ။

## မဟာဗိုလ်ဆရာတော်နှင့် စကြာဒေဝီ

ဖခင် ယင်းတောမင်းကြီး ကံကုန်သောအခါ ဘုရင်အမျက်ရှိန်မပြေသည့်အတွင်း ဆွေစဉ်မျိုးဆက် လိုက်လေမည်ကို စိုးရိမ်သဖြင့် မောင်ဘိုးလှိုင်သည် ဗားကရားတိုက်တွင် သီးတင်းသုံးလျက်ရှိသော မဟာဗိုလ်ဆရာတော်လောင်း ဦးပဒုမထံ တိမ်းရှောင် ခိုအောင်းနေရရှာသည်။

နောင်အခါ မဟာဗိုလ်ဆရာတော်ဟု ထင်ရှားလာမည့် ဦးပဒုမသည် မမြကလေး၏ သမီး လှိုင်ထိပ်ခေါင်တင် မင်းသမီးကလေးမှာ စကြာဒေဝီက ကောက်ယူမွေးစားထားသဖြင့် အသက်ချမ်းသာရကြောင်း သိတော်မူလေလျှင် မင်းတုန်းမင်းသား၏ အိမ်တော်သို့ ကြွသွားလေသည်။

"ကြွလာတော်မူခြင်း ကိစ္စကို မိန့်တော်မူပါဘုရား"

"စုံစမ်းရန် အကြောင်းရှိသဖြင့် ကြွခဲ့ခြင်းပါ"

"တင်ပါဘုရား အမိန့်ရှိတော်မူပါ"

"အနောက်နန်းမတော် မမြကလေးရဲ့ သမီးတော် (လှိုင်ထိပ်ခေါင်တင်) မင်းသမီးကလေးကို စကြာဒေဝီက မွေးစားထားတယ် ကြားရလို့ ဟုတ်မဟုတ် သိရအောင် လာခဲ့ပါတယ်။"

"အရှင်ဘုရား ကြားတော်မူသည့်အတိုင်း မှန်ပါကြောင်း အစ်မတော်

စကြာဒေဝီက မွေးစားတော်မူသဖြင့် အသက်ဘေးမှ ချမ်းသာရာရကြောင်းပါ ဘုရား၊"

"အိမ်း– သာဓု သာဓု သာဓု တကာတော်၊ ဒီလိုဆိုရင် ဦးပဋ္ဌင်းဆီမှာ ယင်းတောမင်းကြီး ဦးတုတ်ရဲ့သားကလေး မောင်ဘိုးလှိုင် မှီခိုနေပါတယ်။ သူ့အတွက် တိုင်ပင်ချင်ပါတယ်"

"အဖေ ရာဇဝတ်သင့်ပေမယ့် သားနှင့် မဆိုင်ပါဘုရား။ အသက်ချမ်းသာမှု စိတ်ချရအောင် အစ်မတော်ဘုရားထံ သွားရောက်အပ်နှံ့ပါက သင့်လျော်မည် ထင်ပါသည်ဘုရား"

မင်းတုန်းမင်းသား လျှောက်ချက်ကို သဘောကျတော်မူသဖြင့် ဦးပဒုမ သည် မောင်ဘိုးလှိုင်အတွက် စကြာဒေဝီရှိရာ တပင်တိုင်နန်းသို့ ကြွရောက် တော်မူခဲ့လေသည်။

အကြောင်းစုံ ကြားသိရသော စကြာဒေဝီမင်းသမီးကလည်း မောင်ဘိုးလှိုင် အား သားအဖြစ် မွေးစား၍ ရာဇဝတ်ဘေးမှ ကာကွယ်ပေးမည် ဖြစ်ကြောင်း လျှောက်ထားလေသည်။ ဤသို့လျှင် မဟာဗိုလ်ဆရာတော် လောင်းလျာဦးပဒုမ သည် ယောမင်းကြီးလောင်း မောင်ဘိုးလှိုင်အား အသက်ချမ်းသာရေးအတွက် လည်း ကျေးဇူးပြုတော်မူခဲ့လေသည်။

## ပရိယာယ်ဆင်၍ ပင့်ပြန်ခြင်း

မဟာဗိုလ်ဆရာတော်ကြီးထံမှ ပြန်လာသော ဦးဘိုးလှိုင်သည် နေပြည်တော် သို့ ရောက်လျှင် မင်းတုန်းဘုရင်ထံ အကျိုးအကြောင်း သံတော်ဦးတင်ရာ မင်းတုန်းမင်းဘုရင်မှာလည်း ဦးဘိုးလှိုင်ကဲ့သို့ပင် စိတ်မသက်မသာ ဖြစ်တော် မူသည်။

ဦးဘိုးလှိုင်သည် အိမ်တော်သို့ ပြန်ရောက်ပြီးနောက် မဟာဗိုလ်ဆရာတော် ကို မည်ကဲ့သို့ရအောင် ပင့်ရမည်နည်းဟု အမျိုးမျိုးအကြံအစည်ပြုနေရာ မကြာမီ

ငချိုကို ခေါ်လိုက်လေသည်။ (ငချိုကား မဟာဗိုလ်ဆရာတော်က ဦးဘိုးလှိုင်ထံ အပ်ထားသော ဆရာတော်၏ တပည့်ရင်း ဖြစ်သည်။)

"ဟဲ့ ငချို၊ လားစမ်းပါအုံးကွယ်။"

"အမိန့်တော်ရှိပါ ဝန်မင်း"

"မင်း ဒီရာထူးနဲ့နေရတာ ပျော်ပိုက်ရဲ့လား"

"ပျော်ပိုက်လှကြောင်းပါ ဘုရား။"

"သည့်ထက် ရာထူးပိုပေးရင်ကော"

"ပိုပြီး သဘောကျ နှစ်သက်ပါမည်ဘုရား"

"အေး ဒီလိုဆိုရင် မင့်ဆရာတော်ကြီးကို ငါ့အုတ်ကျောင်းရောက်အောင် ပင့်ပေးရမယ်၊ ပင့်ပေးနိုင်ရင် မင့်ကို ရာထူးတိုးပေးမယ်။"

"အဟုတ်လားဘုရား"

"အောင်မယ်–ငါ့ကိုများ အဟုတ်လားလို့ ပြန်မေးနေရသေးသလား၊ ရအောင်သာပင့်၊ ရာထူးတိုးပေးမယ်။"

"အမိန့်တော်အတိုင်း ဆောင်ရွက်ပါမည်ဘုရား။"

ငချိုသည် ဤသို့ဝန်ခံပြီးနောက် မဟာဗိုလ်ဆရာတော်ထံသို့ ရှေ့ရှုထွက်လာခဲ့လေသည်။ ဆရာတော်တစ်ပါးထံသို့ မရောက်မီ ဝတ်ကြောင်းကို ချွတ်၍ ပိတ်ပုဆိုး ပိတ်အင်္ကျီ ပိတ်တဘက် ခေါင်းပေါင်းဖြူ စိတ်ပုတီးနှင့် ဥပါသကာ အဖြစ်သို့ ပြောင်းလဲလိုက်လေသည်။ ဆရာတော်ကြီးက ငချိုကိုမြင်သောအခါ အလွန်အံ့ဩသော အမူအရာဖြင့် စိုက်ကြည့်တော်မူသည်။

"ဟဲ ငချိုပါလား၊ ဘယ်လိုဖြစ်လာတာလဲ၊ နေပြည်တော်မှာ အမှုထမ်းယင်း ငွေစားလို့ ပြေးလာခဲ့သလား။"

"မဟုတ်ကြောင်းပါဘုရား၊ လူ့ကိစ္စ ရှုပ်ထွေးလာသဖြင့် သံဝေဂဖြစ်ပြီး ကိုယ့်ကျေးဇူးရှင် ဆရာတော်ကို ဝတ်ပြုရင်း ဆယ်ပါးသီလစောင့်၊ အေးအေး

ဆေးဆေး ပုတီးစိပ်နေလို၍ လာခဲ့ခြင်းပါဘုရား၊ တပည့်တော်ကောင်းသော လာခြင်းပါဘုရား။"

"သည်လိုဆိုရင် ချို့ရယ် အကောင်းသားဘဲ၊ ငါ့ကို ဝတ်ပြု၊ ဥပုသ်သီတင်း စောင့်ထိန်းနေတာက မြတ်တာပေါ့ ချို့။"

ရှေးဆရာတော်ကြီးများကား လွန်စွာရိုးသားတော်မူကြသည်။ မဟာဗိုလ် ဆရာတော်ကြီးသည် တပည့်တော်ချို့လျှောက်ထားချက်ကို အဟုတ်မှတ်တော် မူ၍ သာစုခေါ်ကာ ချို့အား နေရာချထားပေးပြီး ဝတ်ကြီးဝတ်ငယ် ပြုစုခံနေ တော်မူသည်။ ချို့မှာမူ အကွက်ကောင်းကို စောင့်ဆိုင်း၍ အချိန်အခါသင့်မသင့် ချင့်ချိန်ရင်း အချိန်ကုန်စေခဲ့သည်။ မဟာဗိုလ်ဆရာတော်ဘုရားထံ ချို့ ရောက်နေသည်မှာ တလခန့်ကြာလေပြီ၊ တစ်နေ့သော် ချို့သည် ဆရာတော်ဘုရားကို ဝတ်ပြုရင်း "အရှင်ဘုရား လေးဆူဓာတ်ပုံ ရွှေတိဂုံစေတီ ကို ဖူးမြော်ဖူးပါသလားဘုရား"ဟု လျှောက်ထားလေသည်။

"မရောက်ဘူး မဖူးဘူးပါဘူး ချို့ရယ်၊ ကြားဖူးရုံဘဲ ရှိပါတယ်။"

"အရှင်ဘုရား ရောက်ချင်ရင် အလွယ်သားပါဘုရား၊ ကိုယ့်သားတော် ဘိုးလှိုင်က ရှင်ဘုရင်ကြီးလက်ကိုင်ဖြစ်နေတာ၊ ဘယ်နေ့မှာကျောက်မြောင်း သင်္ဘောဆိုက်စေ၊ ဘယ်နေ့မှာ ရန်ကုန်စုန်စေဆိုရင် ဖြစ်တာပါဘုရား။"

"ဒီလိုဆိုရင် ချို့ သင့်အောင်စီမံပေါ့၊ လေးဆူဓာတ်ပုံရွှေတိဂုံကို အဖူးသွား ရအောင်။"

"တင်ပါ့ဘုရား–တပည့်တော် အသင့်ဖြစ်အောင် စီမံပါမည်ဘုရား။"

ချို့သည် ဆရာတော်ဘုရားထံက အခွင့်ရလျှင်ရချင်း ယောအတွင်းဝန် ဦးဘိုးလှိုင်ထံသို့ စာတစ်စောင်ရေးသားကာ အမြန်သွားရောက်ဆက်သရန် ခြေမြန်တော်တဦးကို စေလွှတ်လိုက်လေသည်။

ဦးဘိုးလှိုင်သည် ချို့ထံမှ စာရလျှင်ရချင်း လွန်စွာဝမ်းသာလျက် သင်္ဘော

ကို ကျောက်မြောင်းဆိပ်ကမ်းသို့ အကြိုထောက်ရန် စေလွှတ်လိုက်လေသည်။ ကျောက်မြောင်းဆိပ်ကမ်းသို့ သင်္ဘောဆိုက်ရောက်ကြောင်း ငချိုထံ လူလွှတ်၍ သတင်းပို့လိုက်သည်။ မကြာမီ ငချိုနှင့် မဟာဗိုလ်ဆရာတော်ဘုရား ရောက်ရှိလာရာ သင်္ဘောပေါ်တွင် မင်္ဂလာရှိသောနေရာ၌ ဆရာတော်ကြီးအား သီတင်းသုံးစေလျှက် ကမ်းမှခွါ၍ စုန်ဆင်း ခုတ်မောင်းလာလေသည်။

မန္တလေးဆိပ်ကမ်းသို့ သင်္ဘောကပ်လျှင် ငချိုသည် မဟာဗိုလ်ဆရာတော်ကြီးကို အုတ်ကျောင်းပေါ်ကြီးသို့ရောက်အောင် ပင့်ဆောင်လာတော့သည်။ သင်္ဘောပေါ်တွင် ဆရာတော်ကြီးအညောင်းမိလာမည် ဖြစ်သဖြင့် ကျယ်ကျယ်ဝန်းဝန်း ခေတ္တ သီတင်းသုံးတော်မူရန် လျှောက်ထားကာ ငချိုသည် ဦးဘိုးလှိုင်၏ အိမ်တော်အရောက် ခြေကုန်သုတ်လာလေသည်။

"ဆရာတော်ဘုရား ပါခဲ့ရဲ့လားကွယ် ငချို။"

"အုတ်ကျောင်းတော်ကြီးပေါ်တွင် အရောက်တင်ခဲ့ပါပြီဘုရား။"

"အေးအေး၊ မောင်မင်း တော်ပါပေတယ်။ ငါ့ကတိအတိုင်း မောင်မင်းအား ရာထူးတိုးပေမယ်။ ဝန်ကတော်ရေ ကန်တော့ပွဲတပွဲ သူရဲဈေးသို့သွားပြီး မြန်မြန် ဝယ်ချည်စမ်းပါကွယ့်။"

ဦးဘိုးလှိုင်သည် အတိုင်းမသိ ဝမ်းမြောက်သော ပီတိ လျှမ်းလျှမ်းအိလျက် ငချိုကို ပြန်ပြောယင်းနှင့် ဝန်ကတော်ကို မှာထားလိုက်ခြင်း ဖြစ်သည်။

ကန်တော့ပွဲ ရောက်လာသောအခါ ဝန်မင်းနှင့် ဝန်ကတော့တို့သည် လှည်းယဉ်ကလေးစီးကာ ဆရာတော်ဘုရားကြီးထံထွက်လာကြသည်။ ကျောင်းပေါ်ရောက်၍ ဆရာတော်ကြီးကို ဖူးမြော်ကန်တော့ပြီးလျှင် ဦးဘိုးလှိုင်က–

"အရှင်ဘုရား ရန်ကုန်သို့ ဘုရားဖူးသွားရန် လမ်းပန်းခရီးသင်္ဘောကိစ္စကို ဘုရားတပည့်တော် ကြည့်ရှုစီမံပါဦးမည်။ ခရီးမထွက်မီ ခေတ္တယာယီအားဖြင့် ဘုရားတပည့်တော် ဆောက်လုပ်ထားသည့် အုတ်ကျောင်းတော်ကြီးကို ရေစက်ချ

အလှူခံ၍ သီတင်းသုံးတော်မူပါဦးဘုရား၊ "ဤသို့ ပန်ကြားလျှောက်ထားရာ ဆရာတော်ကြီးက လက်ခံသဘောတူတော်မူ၍ ကန်တော့ပွဲတစ်ပွဲနှင့် ရေစက်ချ လှူဒါန်းလိုက်လေသည်။

ဦးဘိုးလှိုင်၏ တစ်သိန်းတန် အုတ်ကျောင်းတော်ကြီးကို အလှူခံပြီးနောက် မကြာမီပင် ဆရာတော်ကြီးက ရန်ကုန်သို့ သွားတော်မူလိုသည်ဟု အမိန့်ရှိတော်မူသည်။ ထိုအခါ ဦးဘိုးလှိုင်မှာ ရုတ်တရက် အကြံအိုက်သွားကာ ဆရာတော်ဘုရား စဉ်းစားချင့်ချိန်နိုင်ရန် လျှောက်ထားလိုက်လေသည်။

"အရှင်ဘုရား သက်တော်ကြီးပြီဖြစ်၍ ရန်ကုန်ခရီးသွားရာ၌ ရေကြောင်းမှာ သဘောစီးရသော်လည်း နယုန်ဝါဆိုလရောက်က လှိုင်းကြီးသဖြင့် မူးမော်မှာ စိုးရပါသည်။ သို့ပါ၍ ဤအုတ်ကျောင်း၌ တဝါဆိုတော်မူပါဘုရား"ဟု လျှောက်ထားလေလျှင် ဆရာတော်ကြီးသည် ဦးဘိုးလှိုင် တင်လျှောက်သည့် အတိုင်း တဝါဆိုတော်မူလေသည်။ ယောအတွင်းဝန်၏ အုတ်ကျောင်းကြီးတွင် မဟာဗိုလ်ဆရာတော်ဘုရားကြီးသည် ပထမဆုံး အလှူခံတော်မူ၍ တဝါတိတိ သီတင်းသုံးတော်မူလေသည်။

ယောအတွင်းဝန် ဦးဘိုးလှိုင်သည် ကျေးဇူးအထူးရှိခဲ့ဘူးသော မဟာဗိုလ်ဆရာတော်ဘုရားကြီးအား ဤသို့ကျေးဇူးဆပ်ခဲ့လေသည်။

## မဟာဗိုလ်ဆရာတော်နှင့် အရှေ့အင်းခန်းတိုက်

မဟာဗိုလ်ဆရာတော်ဘုရားကြီးသည် ယောမင်းအုတ်ကျောင်း၌ ဝါဆိုတော်မူစဉ်အတွင်း အလယ်နန်းမိဖုရား ဆင်ဖြူရှင်က ပုပ္ပားဝန်ထောက်ကြီးကို လွှဲအပ်၍ မန္တလေးအရှေ့ပြင် အင်းခန်းတိုက်ကျောင်းကြီးကို ဆောက်လုပ်စေ၍ ပြီးစီးနေခိုက်နှင့် ကြုံကြိုက်နေလေသည်။ အလယ်နန်းဆင်ဖြူရှင်သည် ဦးဘိုးလှိုင်ကို ရွှေတော်သို့ ခေါ်ယူ၍ အမိန့်မှတ်လေသည်။

"ဘိုးလှိုင် မောင်မင်းကျောင်းမှာ မဟာဗိုလ်ဆရာတော်တစ်ဝါဆိုပြီးပြီ

မဟုတ်လားကွယ့်။"

"မှန်လှပါ၊ တဝါဆိုနေကြောင်းပါဘုရား၊"

"သင့်ကျောင်းမှာ တဝါဆိုပြီးရင် ငါ့ကျောင်းမှာ တဝါဆိုဖို့ လျှောက်ပေးစမ်းပါဦးကွယ်။"

"ကျွန်တော်မျိုးမှာ ကျေးဇူးရှင်ဆရာတော်မို့ အကြိမ်ကြိမ်ပင့်လျှောက်တာတောင် မရခဲ့ပါဘုရား။ တပည့်ချို အကြံကောင်းလို့သာ တဝါဆိုခွင့်ရရှိကြောင်းပါဘုရား၊ နောက်ထပ်ကျွန်တော်မျိုးကိုယ်တိုင် အရှင်မိဖုရားကျောင်းတိုက်တွင် တဝါဆိုဖို့ လျှောက်ပြန်ရင် ကျွန်တော်မျိုးကို ငယ်နိုင်မို့ တောင့်ဖေးနှင့်အရိုက်ခံရပါလိမ့်မယ်ဘုရား။ အရှင်မိဖုရားကိုယ်တိုင် မင်းတရားကြီးကို လျှောက်ထားပြီး ပင့်လျှောက်ထားပြီး ပင့်လျှောက်ပါက ကေန်ဖြစ်နိုင်ပါမည်ဘုရား။"

"အေး ဒီလိုဆိုရင်လည်း ဘုရင်ကြီးကို သံတော်ဦးတင်ပြီး ပင့်လျှောက်ရတာပေါ့ကွယ်။"

မင်းတုန်းဘုရာသည် ဆင်ဖြူရှင်အား မဟာမိုလ်ဆရာတော်ကြီးထံ အင်းခန်းတိုက်၌ တဝါဆိုရန် ပင့်လျှောက်ခွင့်ပြုတော်မူသည်။ မဟာမိုလ်ဆရာတော်ကြီးသည် မိဖုရားတင်လျှောက်ခြင်းကို မငြင်းသာတော့ဘဲ အင်းခန်းတိုက်ကြီးသို့ ကြွရောက်၍ တဝါဆိုတော်မူရန် သဘောတူလိုက်လေသည်။

မဟာမိုလ်ဆရာတော် အင်းခန်းတိုက် (အရှေ့ဝိသုဒ္ဓါရုံတိုက်)၌ ဝါဆိုတော်မည် အကြောင်း ရွှေကျင်ဆရာတော်ကြားလေလျှင် တပည့် ဖြစ်သောဝိသုဒ္ဓါရုံဆရာတော် အလောင်းအလျာ (ဦးဝိသုဒ္ဓ)ကို တောနယ်မှ မန္တလေးသို့ ပြန်ရောက်အောင် ခေါ်တော်မူရန် အကွက်ပေါ်လာသဖြင့် မဟာမိုလ်ဆရာတော်အား လိုလားချက်ကို လျှောက်ထားအကြံပေးတော်မူသည်။

သီးလုံးဆရာတော်၊ မန်ကျည်းကန်ဆရာတော်ဟု ထင်ပေါ်ကျော်ကြားသောဂိုဏ်းသားချင်းဖြစ်သောကြောင့် ရွှေကျင်ဆရာတော်၏ အကြံပေးချက်ကို လက်ခံ

တော်မူကာ မဟာဗိုလ်ဆရာတော်သည် ဝိသုဒ္ဓါရုံဆရာတော်တွင်လတ့်သော ဦးဝိသုဒ္ဓကို ခေါ်ယူလျက် အင်းခန်းတိုက်တွင် သီတင်းသုံးတော်မူသည်။

မဟာဗိုလ်ဆရာတော်သည် အင်းခန်းတိုက်တွင် တဝါဆိုပြီးနောက် မဟာဗိုလ်ရွာသို့ ပြန်မည်ဟု စီစဉ်သောအခါ အင်းခန်းတိုက်ကို ဆရာတော် ဦးဝိသုဒ္ဓအား အပ်နှင်းတော်မူခဲ့လေသည်။ ယောမင်းကြီးအုတ်ကျောင်းကိုမူ ခေါ်တောဆရာတော်အား အပ်နှင်းတော်မူခဲ့သည်။

ဤသို့လျှင် မဟာဗိုလ်ဆရာတော်သည် ၎င်း၏ ပရိယာယ်ဖြင့် လျှောက်ထားပင့်ဆောင်ချက်အရ ရတနာပုံနေပြည်တော်တွင် နှစ်ဝါတိတိ ဝါဆိုတော်မူသွားခဲ့လေသည်။

ဖော်ပြခဲ့သည့်အတိုင်း ကျေးဇူးသတင်း ကျော်စောခြင်း ရှိတော်မူသော မဟာဗိုလ်ဆရာတော်ကြီးမှ မဟာစည်ဆရာတော်ဘုရားကြီးတိုင် ဆင်းသက်လာပုံကို အချုပ်အားဖြင့် ဖော်ပြရသော်–

မဟာဗိုလ်ဆရာတော်သည် မန်ကျည်းကန်ဆရာတော်၏ တပည့်ဖြစ်၍ မန်ကျည်းကန်ဆရာတော်၏တပည့် မဟာဗိုလ်ဆရာတော်–

မဟာဗိုလ်ဆရာတော်၏ တပည့် မန္တလေးမကုဋာရာမတိုက် ဆရာတော် ဦးခေမိန္ဒ

၎င်းမကုဋာရာမ ဆရာတော်၏ တပည့် ပင်လယ်ဆရာတော် ဦးဝိစာရ–

၎င်းပင်လယ်ဆရာတော်၏ တပည့်သုမေဓာဆရာတော် ဦးနိမ္မလ–

၎င်းသုမေဓာဆရာတော်၏ တပည့် မဟာစည်ဆရာတော် ဦးသောဘန။ သုမေဓာဆရာတော်သည် သာသနာပိုင်ဆရာတော်၏ အမိန့်အရ ဂိုဏ်းအုပ်ဆရာတော်ဖြစ်သည်။ ၎င်းဂိုဏ်းအုပ်ဆရာတော်ကို ဥပဇ္ဈာယ်ဆရာပြု၍ ဆိပ်ခွန်အင်းကြင်းတောတိုက်တွင်းရှိ ခဏ္ဍသိမ်တွင် မဟာစည်ဆရာတော် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ဤကား မဟာစည်ဆရာတော်ဘုရား၏ ဆရာစဉ်ဆက်ကို အကျဉ်းမျှ ပြဆိုခြင်း အကြောင်းအရာအချုပ် ဖြစ်ပါသတည်း။

**အထူးမှတ်ချက်**

မဟာမိုလ်ဆရာတော်ကြီးသည် ပဌမသံဂါယနာတင် ဘုရင်မင်းမြတ်က တောင်းပန်သဖြင့် သုဒ္ဓိပကာသနီရှုဘွယ်ကျမ်းကို ရေးသားစီရင်တော်မူခဲ့ကြောင်း ထိုရှုဖွယ်ကျမ်းနိဂုံး၌–

“ပဒုမာဘိသိရီသဒ္ဓမ္မဓဇ အရညဝါသီ မဟာဓမ္မ ရာဇာဓိရာဇဂုရု”ဆရာတော်ဘုရားကြီး ရေးသားတီထွင် စီရင်ပြုစုတော်မူအပ်သော သုဒ္ဓိပကာသနီရှုဖွယ် ကျမ်းကြီးကား ၁၂၃၇–ခုနှစ်၊ နတ်တော်လဆန်း ၁၀–ရက် အင်္ဂါနေ့တွင် ပြီးစီးအောင်မြင်သည်။ ပုဒိအာ နှင့် ပြည့်စုံရပါလို၏ဟု အထင်အရှား ဖော်ပြထားပါသည်။

မင်းတရားကြီး အလွန်လေးစားတော်မူသော ဆရာတော်ကြီး ဖြစ်ကြောင်း ထင်ရှားပေသည်။ ဘွဲ့တံဆိပ်တော်တွင် အရညဝါသီဟူသောပုဒ်၊ ရာဇာဓိရာဇဂုရုဟူသော ပုဒ်တို့ဖြင့် ချီးကျူးဂုဏ်ပြုထားတော်မူသည်။ “တောအရပ်၌ သီတင်းသုံးလေ့ရှိတော်မူသော မင်းထက်မင်း၏ ဆရာတဆူဖြစ်တော်မူသော” ဟူသည့် ဂုဏ်ပုဒ်တို့ကား အလွန်ထူးခြားလှပေသည်။

မဟာမိုလ်ဆရာတော်ကြီး သီတင်းသုံးတော်မူခဲ့သော မဟာမိုလ်ရွာ၊ မဟာမိုလ်ကျောင်းတိုက်ကား မဟာစည်ဆရာတော်၏ ဇာတိဆိပ်ခွန်ရွာမှ ၅–မိုင်ကွာ အရှေ့တောင် ခပ်ယွန်းယွန်း၌ ယနေ့တိုင် ထင်ရှားတည်ရှိနေပါသည်။

## နိဂုံး

### အင်္ဂါငါးရပ်ဖြင့် အပြီးသတ် နိဂုံးချုပ်ပါအံ့၊
### ဂုဏ်အင်္ဂါ ငါးပါး

ကျမ်းဂန်ရှုကြည့်၊ သီလဖြည့်၍ ဆင်လှည့်စုတင်၊ အလုပ်ဝင်နှင့်၊ သွင်သင် ဟောကြား၊ ဤငါးပါးသည်၊ တရားမဂ်ဖိုလ် ရကြောင်းတည်း။

ဤဆောင်ပုဒ်လင်္ကာအရ သာသနာသုံးရပ်တွင် အထွတ်ထိပ်ဖြစ်သော ပဋိဝေဓသာသနာအထိ ထွန်းကားပွင့်လင်းစေလိုသော ပုဂ္ဂိုလ်ဖြစ်လျှင် ၁- ပိဋကတ်သုံးပုံ ဘုရားဟောကျမ်းဂန်နှင့် အဖွင့်အဋ္ဌကထာ ဋီကာထိုထို ကျမ်းဂန်များကို ကြည့်ရှုသုံးသပ်ခြင်း၊ ၂- အကျင့်သီလကို ဖြည့်ကျင့်ခြင်း၊ ၃-စာရိတ္တ သီလတွင်ပါဝင်သော ဓုတင်အကျင့်များကို စွမ်းအားရှိသမျှ ဆောက်တည်ကျင့် သုံးခြင်း၊ ၄-ကမ္မဋ္ဌာန်းအလုပ်ကို ကိုယ်တွေ့ဖြစ်အောင် ကြိုးစားအားထုတ်ခြင်း၊ ၅-မိမိသိပြီးဖြစ်သော တရားလမ်းစဉ်များကို သူတစ်ပါးတို့အား ကြောင့်ကြမဲ့ မထားဘဲ နားလည်သက်ဝင်လာအောင် ဟောကြားပြသခြင်း။ ဤသို့သော ဂုဏ်အင်္ဂါငါးပါးနှင့် ပြည့်စုံရပေမည်။ သို့မှသာ မဂ်ဖိုလ်နိဗ္ဗာန်တိုင်အောင် ပွင့်လင်းသွားမည် မုချဖြစ်ပေသည်။

မဟာစည်ဆရာတော်သည် ယခုဖော်ပြခဲ့သည့် အတ္တူပ္ပတ္တိ ဖြစ်စဉ်အတိုင်း ပရိယတ္တိဘက်က သင်ကြားတတ်မြောက်ပြီးဖြစ်သည့် အားလျော်စွာ ယနေ့အထိ စာပေကျမ်းဂန်နှင့် ကင်းကွာသည်မရှိ၊ ကြည့်ရှုတော်မူခဲ့ပေသည်။ သီလသိက္ခာ ဘက်ကလည်း မော်လမြိုင်မြို့မှ ဘုရားဖူးတရားရှာထွက်လာစဉ်က သန့်သန့် ရှင်းရှင်း သီလသိက္ခာကိုသာ လိုရင်းထားကာ ကျင့်သုံးတော်မူခဲ့သည့် သဘော သွားအရ ပင်ကိုယ်ဇာတိအားဖြင့် သီလသိက္ခာ ဖြူစင်တော်မူခဲ့သည်။

ဘုန်းကြီးဦးအုန်းခိုင် ကျောင်းသို့ရောက်စဉ် ဓုတင် ၁၃-ပါးတွင် အခဲယဉ်း ဆုံးဖြစ်သော သုသာန်ဓုတင်ကိုပင် မဆုတ်မနစ် ဆောက်တည်ကျင့်သုံးတော်

မူခဲ့သည်။ သထုံမြို့ ဇေတဝန်ဆရာတော်ဘုရားထံတွင် လေးလမျှနေထိုင်၍ သတိပဋ္ဌာန်နည်းကျကျ ဆရာနည်းရအောင် စွဲစွဲမြဲမြဲ နည်းယူအားထုတ်တော်မူခဲ့သည်။ မိမိသိသမျှ အပ္ပမာဒ သတိပဋ္ဌာန်တရားကို ဘုရားဟောဒေသနာနည်းကို လက်မလွှတ်ဘဲ ရောက်လာသမျှသော ရှင်လူရဟန်း ယောဂီဟူသမျှတို့အား (ဓာတ်ဆိပ်ခွန်ရွာမှစ၍ ရန်ကုန်မြို့သာသနာ့ရိပ်သာ တိုင်အောင်) အခါမလပ် အထပ်ထပ် ဟောကြားညွှန်ပြတော်မူခဲ့သည်။ ယခုလည်း ဟောကြားညွှန်ပြတော်မူဆဲ ဖြစ်သည်။

## ဝိသုဒ္ဓိမဂ် မဟာဋီကာနိဿယ

ပရိယတ္တိဘက်က ထက်မြက်စူးရှပုံကို သင့်ရုံမျှ ဖော်ပြလိုပါသည်။ ဝိသုဒ္ဓိမဂ် မဟာဋီကာနိဿယကို အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီး၏ တိုက်တွန်းတော်မူချက်အရ ၁၃၂၂–ခုနှစ်၊ တပို့တွဲလဆုန် ၃–ရက်နေ့မှစ၍ ပို့ချပေးရင်း စီရင်ရေးသားတော်မူခဲ့သည်။ ယခုအခါ စာအုပ်အဖြစ် ထွန်းပေါ်၍လာခဲ့ပေပြီ။

မဟာဋီကာ နိဿယပထမတွဲ နိဒါန်းကို အရှင်ဇနကာဘိဝံသ (တောင်တွင်းကြီး) ပရိယတ္တိသာသနာဟိတ ဓမ္မာစရိယနှင့် သာသနဓဇ သိရီပဝရ ဓမ္မာစရိယ ရေးသားဖော်ပြလေသည်။ ထိုတွင် ကျမ်း၏ ဂုဏ်ရည်ကို ဖော်ပြရာတွင် "ဤဋီကာနိဿယသည် ပုဒ်ရိုတိုင်း အနက်ဖြစ်ကာမျှ ပြုစီရင်ထားသော ဖြစ်ဆန်းကာမျှ နိဿယမဟုတ်ပေ၊ ကျမ်းဆရာကိုယ်တိုင် ပါဠိအဋ္ဌကထာဋီကာ ကျမ်းတို့နှင့် လည်းကောင်း၊ သမယန္တရကျမ်းတို့နှင့်လည်းကောင်း အခေါက်ခေါက်အခါခါ တိုက်ဆိုက်ကြည့်ရှုလေ့လာပြီးနောက် တပည့်တို့အား သဘောကျကျေနပ်လောက်အောင် အနက်အဓိပ္ပါယ်ရှင်းလင်းပြောပြပြီးမှ မှတင်ထားသော နိဿယဖြစ်ပေသည်။"ဟူ၍လည်းကောင်း–

"ကျမ်းပြုဆရာတော်မှာ အညတရ ဆရာတော်တစ်ပါးမဟုတ်သည်ကို

စားရှုသူအများအသိပင် ဖြစ်ပါသည်။ မဟာစည်ဆရာတော်ဟုဆိုလျှင် ဆဋ္ဌသံဂါယနာ၌ သင်္ဂါတိပုစ္ဆက ဩသာနသောဓက ဆရာတော်ဖြစ်ကြောင်း ကောင်းကောင်းကြီး သိပြီးဖြစ်ပါသည်။ ဤအချက်များကပင် ကျမ်းပြုဆရာတော်၏ ပရိယတ္တိအရေအသွေးကို မေးနေစရာမလိုဟု ကြေငြာနေသကဲ့သို့ ရှိချေသည်။ ပဋိပတ်နှင့်စပ်လာလျှင်ကား ဆရာတော်မှာ ပို၍ပင် ထင်ရှားပေသေးသည်။ ဤအချက်ကို ဆရာတော်၏ ဩဝါဒခံ ပဋိပတ္တိဌာနခွဲပေါင်း မြန်မာပြည်တွင်း၌ပင် ၁၅၀–ကျော်မျှရှိခြင်း၊ ယိုးဒယား၊ သီဟိုဠ်စသော နိုင်ငံရပ်ခြားတို့၌လည်း ဌာနခွဲပေါင်း ၃၀၀–ကျော်မျှရှိခြင်း၊ ဝိပဿနာရှုနည်းကျမ်းစသော ကမ္မဋ္ဌာန်းကျမ်းပေါင်းများစွာကို ပြုစီရင်ထားခြင်းတို့က သက်သေခံလျက်ရှိပေသည်။ ဤမျှ ပရိယတ် ပဋိပတ် စွယ်စုံပြည့်ဝနေသော ဆရာတော်တစ်ပါး ပြုစုသည့်ကျမ်းမှာ ကျမ်းပြုဆရာတော်၏ ဘွဲ့တော်ကို သိလိုက်ရကတည်းကပင် ကျမ်း၏ အရည်အသွေးကို သေးမည်မဟုတ်ဟု ဆုံးဖြတ်ကြမည်ဖြစ်ရာ အဘယ်မှာလျှင် ဤကျမ်း၏ဂုဏ်ကို ချီးကျူးဖော်ပြစရာ လိုပါတော့မည်နည်း" ဟူ၍လည်းကောင်း–

"အသောကမင်းကြီးသည် နောက်ဆုံးအချိန်ကာလ၌ ဆီးဖြူသီးထက်ဝက်မျှကို စိုးပိုင်သောအဖြစ်သို့ ဘယ်ပုံဘယ်နည်းဖြင့် ရောက်ရလေသည်ကို မသိနိုင်ဘဲရှိနေသောကြောင့် ထိုအချက်ကို ထင်ရှားသိနိုင်စေရန် ဒိဗျာဝဒါနမည်သော သက္ကတကျမ်းကို ခဲယဉ်းစွာနှင့် ရအောင်ရှာကြံပြီးလျှင် ထိုကျမ်းမှ အသောကမင်းတရားကြီး၏ နောက်ဆုံးပိုင်း အကြောင်းများကို ပါဠိဘာသာပြန်မူရင်းအတိုင်း မှတ်ချက်အနေဖြင့် တင်ပြထားလေသည်။(ဤနိဿယ ဒုတိယတွဲ၌ တွေ့ရပါလိမ့်မည်)" ဟူ၍လည်းကောင်း ဖော်ပြထားပေသည်။

ကျမ်းဂန်ရှုကြည့်–အင်္ဂါအရ သာသနာဝင်ကျမ်း၊ သမယန္တရ(အယူတပါး) ကျမ်းတို့ကို မွေနှောက်ချောက်ချားလျှက် အချိန်ကို အအားမထား ရေးသားစီရင်

တော်မူသော (သာသနာတော်တွင် မုရှုအသုံးဝင်သည့်) ဝိသုဒ္ဓိမဂ် မဟာဋီကာ နိဿယကျမ်းကြီးသည် ငြိမ်းထိုးတမူ ကျမ်းတဆူအနေဖြင့် ထွက်ပေါ်လာပေပြီ။

တရားအားထုတ်သူ ယောဂီတို့အတွက် ကျမ်းစာအုပ်အမျိုးမျိုး၊ စာသင်သားတို့အတွက် ကျမ်းစာအုပ်အမျိုးမျိုးတို့ကို ရေးသားပြီး ရေးသားဆဲဖြစ်ရာ အနာဂတ်အခါလည်း ကျမ်းများတော်မူသေး အချို့ကို အချည်းနှီးမဖြစ်မဘဲ ရေးသားတော်မူဦးမည်မှာ သေချာလှပါသည်။ နိုင်ငံသူ နိုင်ငံသားတို့အတွက် ရည်ရွယ်ချက်ကြီးစွာနှင့် ကြိုးစားအားထုတ်တော် မူသောကြောင့် နိုင်ငံသူနိုင်ငံသားတို့၏ ကျေးဇူးရှင်ဆရာတော်ဟူ၍ အတိအကျဆိုသင့်ပါသည်။

ကျွန်ုပ်သည် နိုင်ငံသူနိုင်ငံသား သူတော်စင်များတို့၏ စေတနာဆန္ဒပြည့်ဝစေရန်အတွက်တကြောင်း၊ ကျွန်ုပ်၏ တဘဝတွင် ထူးခြားသော ဆရာတော်တစ်ပါး၏ အကြောင်းအရာများကို မှတ်တမ်း (မော်ကွန်း) တစောင်ဖြစ်အောင် ရေးသားခြင်းဖြင့် ကုသိုလ်ထူးကို ဆည်းပူးရန်နှင့် မဟာစည်ဆရာတော်၏ အတ္ထုပ္ပတ္တိကို နောက်နောင်ရှင်လူတို့ ကြည်ဖြူစွာ ဖတ်ကြား၍ ကုသိုလ်တရားပွားကြစေရန် တကြောင်း၊ မဟာစည်ဆရာတော်သည် စွယ်စုံပုဂ္ဂိုလ်မြတ်ဖြစ်ကြောင်းကို ထင်ရှားစေရန်တကြောင်း၊ ဤအကြောင်းများကို အခြေခံလျက်ရေးသားစီရင်ရာ ကောင်းစွာပြီးမြောက် အောင်မြင်ခြင်းသို့ ရောက်ပါပြီ။

ကမ္ဘာသူကမ္ဘာသားတို့ ကျန်းမာ ချမ်းသာကြပါစေသတည်း။

# အမှားပြင်ဆင်ချက်

| စာမျက်နှာ | မှန် | မှား |
|---|---|---|
| ၁ | တစ်ဦး | တဦး |
| ၅ | ဖူးမြော်ရန် | ဖူမြော်ရန် |
| ၅ | မကြာခဏ | မကြာမဏ |
| ၆ | ချဉ်းကပ် | ချည်းကပ် |
| ၉ | ဟတ္ထိ | ဟတ္တိ |
| ၁၂ | တဖြိုင်းဖြိုင်း | တဖြိုင်ဖြိုင် |
| ၁၅ | မြင့်တက် | မြင်တတ် |
| ၂၄ | အသေအချာ | သေအချာ |
| ၂၄ | ကြွသာကြွပါ | ကြွတာကြွပါ |
| ၂၅ | လွှန်ကဲလာ | လွှန်လဲလာ |
| ၂၅ | တောတောင် | တော်တောင် |
| ၃၀ | ခပ်ယူကာ | ခပ်ယူကား |
| ၃၁ | စားသော | စာသော် |
| ၃၇ | မင့်ကွက်ဘဲ | မင့်ကွက်ဘ |
| ၄၈ | အကြောင်းကြား | အကြောင်းကာ |
| ၄၉ | ကုလလေးတာ | ကုလားလေးတာ |
| ၅၁ | တရားနာသူတို့ | တရားနာသို့ကား |
| ၆၈ | တောင်ဝိုင်း | တောင်ဝိုင် |

# အမှားပြင်ဆင်ချက်

| စာမျက်နှာ | မှန် | မှား |
|---|---|---|
| ၇၁ | ရှုမှတ်နည်း | ရှုမှတ်တည်း |
| ၇၅ | အကြောင်းပြု | အကြော်းပြု |
| ၈၇ | အတိအလင်း | အတည့်လင်း |
| ၉၀ | နည်းနိသ္သယ | နည်းနိသသ္သယ |
| ၉၀ | ဦးဖိုးချို | ဦးဖိုချို |
| ၉၈ | သတ်လည်းသတ် | သက်လည်းသတ် |
| ၁၀၃ | ငရဲကြီးသည် | ငရဲကြီးသည် |
| ၁၀၆ | အကန်း | အကဏ်း |
| ၁၀၇ | အဒိန္နာဒါနကံ | အဒိန္နာဒါန် |
| ၁၄၁ | ပင့်စေလိုကြောင်း | ပင်စေလိုကြောင်း |
| ၁၄၇ | ဟောပြောသည့် | ဟောပြေသည့် |
| ၁၆၂ | ဂိုဏ်းပေါင်းစုံမှ | ဂိုဏ်းပေါင်းစုံမျ |
| ၁၆၉ | မီးပြတိုက် | မီးပြတိုင် |
| ၂၃၂ | စဉ်းစားမိ | စဉ်းစာမိ |
| ၂၃၂ | ပြန့်နှံ့အောင် | ပြန့်နှံအောင် |
| ၂၃၅ | ပဒဌာန် | ပဌာန် |
| ၂၃၆ | အံ့တစ်ပါးပင် | အံတစ်ပါးပင် |
| ၂၄၂ | ကိုက်လိမ့်မည် | ကိုက်လိုက်မည် |

# အမှားပြင်ဆင်ချက်

| စာမျက်နှာ | မှန် | မှား |
|---|---|---|
| ၂၄၂ | တောင်းပန် | တောင်ပန် |
| ၂၄၆ | မိမိလိုပင် | မိမိကိုပင် |
| ၂၄၇ | မျှော်သူတို့ | မျှော်သူ့တို့ |
| ၂၄၉ | ဖြတ်သန်း | ဖြတ်တန်း |
| ၂၅၂ | ခင်ဗျား | ခင်းဗျား |
| ၂၅၃ | အတင့်ရဲ | အတင်းရဲ |
| ၂၂၂ | သာမန်အာရုံ | သာမနအာရုံ |
| ၂၅၃ | တစ်ဦးတော့ | တစ်ဉ်တော့ |
| ၂၅၄ | တကယ်လားကွဲ့ | တကယ်လားကွဲ |
| ၂၅၇ | လက်ခံကျွေးမွေး | လက်ခံကျွေးပေး |
| ၂၆၂ | အပ်နှံ | အပ်နှံ့ |
| ၂၆၃ | လာစမ်းပါအုံး | လားစမ်းပါအုံး |
| ၂၆၄ | မြတ်တာပေါ့ | မြတ်တာပေါ |
| ၂၆၄ | တစ်နေ့သော် | တစ်နေသော် |
| ၂၆၅ | ရာထူးတိုးပေး | ရာထူးတိုးပေ |
| ၂၆၅ | ဝန်ကတော် | ဝန်ကတော့ |
| ၂၆၆ | ကန်တော့ပွဲ | ကန်တောပွဲ |
| ၂၆၇ | တောင့်ဝှေး | တောင်ဝှေး |
| ၂၆၇ | မင်းတုန်းဘုရား | မင်းတုန်းဘုရာ |